





# ECONOMICS IDEAS YOU REALLY NEED TO KNOW

EDMUND CONWAY

# စီးပွားရေး အတွေးအခေါ် ၅၀

## ကျော်စွာ

တတိယအကြိမ်



## မှတ်တမ်း

ထုတ်ဝေသူ ● ဦးကျော်စွာ (၀၂၇၉၂)
(Myanmar Harp Media)

ပုံနှိပ်တိုက် ● ဦးအောင်ဖော်ထွန်း၊ ပုံရိပ်ရှင်အော့ဖ်ဆက်(၀၀၈၃၆)
အမှတ်(၈) အိပ်ကြီးလမ်း၊ ၉ - ရပ်ကွက်၊ ရွေကျော်၊
ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့

မျက်နှာဖုံးဒီဇိုင်း ● အံ့ဘွယ်ဇင်

စာအုပ်ချုပ် ● ကိုမြင့်

ထုတ်ဝေသည့်ခုနှစ် ● ၂၀၂၀ ခုနှစ် (တတိယအကြိမ်)

တန်ဖိုး ● ၇၀၀၀ ကျပ်

အုပ်ရေ ● ၁၀၀၀

ထုတ်ဝေသည့်ကတ်တလောက်အညွှန်း (CIP)

ကျော်စွာ
စီးပွားရေးအတွေးအခေါ်၅၀
ဦးကျော်စွာ (Myanmar Harp Media)၊ ၂၀၂၀
၃၂၀ စာ၊ ၁၃ စင်တီ × ၂၁ စင်တီ။


# စီးပွားရေးအတွေးအခေါ်

# (၅၀)

## ကျော်စွာ




ဖြန့်ချိရေး
Myanmar Harp Publishing House
အမှတ် (၂၁၁)၊ တိုက် - အေ (၁၀)၊ ရွှေဝါးသာဓိပ်ရာ၊ သာကေတမြို့နယ်၊
ရန်ကုန်မြို့
ဖုန်း - ၀၉၇၉၃၅၄၄၂၃၅၊ ၀၉၄၂၀၇၃၀၆၁၁




# မာတိကာ

## အခြေခံသဘောတရားများ (The Basics)



## လှုပ်ရှားမှုများ (The Movements)

စီးပွားရေးတွေ လည်ပတ်အလုပ်လုပ်ပုံ (How Economies work)







ဘဏ္ဍာရေးနှင့်ဈေးကွက်များ (Finance and markets)



စိန်ခေါ်မှုများ (The Issues)

# ဒုတိယအကြိမ်အမှာစာ

စီးပွားရေးအတွေးအခေါ် ၅၀ စာအုပ်ကို ၂၀၁၇ ဩဂုတ်လမှာ ပထမအကြိမ်အနေနဲ့ အုပ်ရေ ၁၅၀၀ ထုတ်ဝေခဲ့တယ်။ တစ်နှစ်မပြည့်မီမှာပဲ စာအုပ်အားလုံးရောင်းလို့ကုန်သွားပြီလို့ သိခဲ့ရတယ်။ စာအုပ်ဆိုင်တွေကနေ စာအုပ်အမှာတွေကတော့ တက်နေဆဲပဲလို့လည်း ထပ်ပြီးကြားသိရတယ်။ စီးပွားရေး ပညာရပ်စာအုပ်တစ်အုပ်ကို အခုလို စာဖတ်သူတွေစိတ်ဝင်တစား ဖတ်ရှုကြတာသိရလို့ အတော်လေးဝမ်းသာမိတယ်။ ဒါကြောင့် ဒုတိယအကြိမ်ထုတ်ဝေဖို့ စီစဉ်ဖြစ်ခဲ့တာဖြစ်တယ်။

ဒီလိုစီစဉ်ရာမှာ ပထမအကြိမ်မှာတုန်းက စာအကျအပေါက်တွေ၊ font အမှားအယွင်းတွေကို ပြန်လည် ပြုပြင်တည်းဖြတ်ထားပါတယ်။ ကျန်တဲ့အပိုင်းတွေကိုတော့ ပထမအကြိမ်အတိုင်းပဲ ဘာမှ ထပ်မံပြင်ဆင်တည်းဖြတ်တာတွေ မလုပ်တော့ပါဘူး။ စာအုပ်ပါအကြောင်းအရာတွေနဲ့ပတ်သက်လို့ ပထမ အကြိမ်အမှာစာမှာပြည့်ပြည့်စုံစုံရေးသားခဲ့ပြီးဖြစ်လို့ ထူးထူးထွေထွေထပ်ပြောစရာမလိုတော့ပါဘူး။

ဒုတိယအကြိမ်ကိုတော့ Myanmar Harp Media and Publishing House ကနေ ထုတ်ဝေဖို့ စီစဉ်ဖြစ်ခဲ့တယ်။ စာရေးသူရဲ့ "ဆင်းရဲနွမ်းပါးမှုနဲ့ဝင်ငွေမညီမျှမှု" စာအုပ်ကိုလည်း Myanmar Harp Media and Publishing House ကနေထုတ်ဝေခဲ့ပြီးဖြစ်ပါတယ်။ လက်ရှိရေးသားနေဆဲ "ကမ္ဘာ့စီးပွားရေးအတွေးအခေါ်သမိုင်း" စာအုပ်ကိုလည်း Myanmar Harp ကနေပဲ ဆက်လက်ထုတ်ဝေဖို့

စိစဉ်ထားပါတယ်။ စာရေးသူအနေနဲ့လည်း ရှေ့ဆက်ပြီးတော့ စီးပွားရေးပညာရပ် ဆိုင်ရာအတွေးအခေါ် အယူအဆတွေကို ရေးသားထုတ်ဝေဦးမှာဖြစ်ပါတယ်။

ကျော်စွာ
(၄-၉-၂၀၁၈)

■ ■ ■

# ပထမအကြိမ်အမှာစာ

စီးပွားရေးဆိုင်ရာစာအုပ်တွေလို့ ပြောလိုက်ရင် စီးပွားရေးလုပ်ငန်းလုပ်ဆောင်မှုနဲ့ ပတ်သက်လို့ ရေးထားတဲ့စာအုပ်မျိုးတွေကိုပဲ စာဖတ်သူတော်တော်များများက ပြေးမြင်မိတတ်ကြတယ်။ အထူးသဖြင့် စီးပွားရေးလုပ်ငန်းစီမံခန့်ခွဲမှုဆိုင်ရာစာအုပ်မျိုးတွေ၊ အောင်မြင်ကြီးပွားရေးတက်ကျမ်းဆန်ဆန်စာအုပ်မျိုးတွေနဲ့ စီးပွားရေးသမားတွေရဲ့ အတ္ထုပ္ပတ္တိစာအုပ်မျိုးတွေကိုပဲ အများအားဖြင့် စိတ်ထဲပေါ်လာတတ်ကြတယ်။ ဒီလိုဖြစ်ရတာကလည်း အကြောင်းရှိပါတယ်။ မြန်မာပြည်မှာက စီးပွားရေးအတွေးအခေါ် သဘောတရား၊ သီအိုရီတွေနဲ့ပတ်သက်ပြီး စာအုပ်စာတမ်းတွေ သိပ်မရှိလှတာက အဓိကအကြောင်းဖြစ်ပါလိမ့်မယ်။

စီးပွားရေးပညာရပ်က လူသားတွေကို တစ်စုံတစ်ရာလုပ်ဖို့ ဘယ်အရာတွေက မောင်းနှင်နေတာလဲဆိုတာကို စူးစမ်းလေ့လာတယ်။ အခက်အခဲတွေနဲ့ပဲဖြစ်ဖြစ်၊ အောင်မြင်မှုတွေနဲ့ပဲဖြစ်ဖြစ် ရင်ဆိုင်ရတဲ့အခါမှာ လူသားတွေအနေနဲ့ ဘယ်လိုတုံ့ပြန်ကြလဲဆိုတာကို ကြည့်ရှုစစ်ဆေးတယ်။ ရွေးချယ်စရာတွေက အကန့်အသတ်နဲ့ရှိနေတဲ့အခါမျိုးမှာလူသားတွေအနေနဲ့ရွေးချယ်မှုတွေကိုဘယ်လိုလုပ်ကြတယ်ဆိုတာနဲ့ လူသားတွေ တစ်ယောက်နဲ့တစ်ယောက် ဘယ်လိုအပေးအယူ၊ အလျှော့အတင်းလုပ်သလဲဆိုတာကို စီးပွားရေးပညာက လေ့လာဆန်းစစ်ကြည့်တယ်။ တကယ်တော့ စီးပွားရေးပညာဆိုတာ သမိုင်း၊ နိုင်ငံရေး၊ စိတ်ပညာ၊ ဒဿန၊ သင်္ချာစတဲ့ဘာသာရပ်တွေနဲ့ လွှမ်းခြုံဝန်းရံထားတဲ့ ဘာသာရပ်တစ်ခုလို့

ဆိုချင်လည်း ဆိုနိုင်တယ်။

ယခုစီးပွားရေးအတွေးအခေါ်၅၀ စာအုပ်က Edmund Conway ရေးတဲ့ 50 Economics Ideas ကို ဘာသာပြန်ထားတာဖြစ်တယ်။ ဒီစာအုပ်က စီးပွားရေးတစ်ရပ်ဘယ်လို လည်ပတ်အလုပ်လုပ်နေတယ်ဆိုတာကို ရှင်းပြဖို့ ရည်ရွယ်ရေးသားထားတယ်။ ဒါကို သိနားလည်ဖို့ရာ အပိုင်း (၆) ပိုင်း၊ အခန်း (၅၀) ခွဲပြီး တစ်ခန်းချင်းစီအဲလိုက် ရေးသားထားတာဖြစ်တယ်။ ဒီလိုရေးသားရာမှာ မူရင်းစာရေးဆရာရဲ့တင်ဆက်ပုံက အလွန်ကောင်းမွန်ထိရောက်တာတွေ့ရတယ်။ အခန်းတစ်ခန်းမှာ အတွေးအခေါ်တစ်ရပ်ကို ရှင်းပြထားတယ်ဆိုပေမယ့် တစ်ခန်းနဲ့တစ်ခန်းက ချိတ်ဆက်နေတယ်။ ချိတ်ဆက်ထားတဲ့နေရာတွေမှာလည်း ဘယ်အခန်းကိုကြည့်ပါလို့ ညွှန်းထားတာမျိုးတွေ ထည့်သွင်းထားလို့ ဘာသာရပ်ကို လေ့လာရာမှာ အများကြီးအထောက်အကူဖြစ်စေတယ်။ နောက်တစ်ချက်က သမိုင်းကြောင်းကိုပြနေတဲ့ အချိန်ပြဇယားပါ။ ဒီအချိန်ပြဇယားက အတွေးအခေါ်တစ်ရပ် ဖွံ့ဖြိုးလာတဲ့ လမ်းကြောင်းမှာ ကြုံခဲ့ရတဲ့အဖြစ်အပျက်တွေ၊ ဩဇာလွှမ်းမိုးနိုင်တဲ့စာအုပ်တွေ ထွက်ရှိခဲ့ချိန်တွေ၊ သက်ဆိုင်ရာပညာရှင်တွေ မွေးဖွားခဲ့ချိန်တွေကို ခုနှစ်အလိုက်စီပြီး ဖော်ပြထားတာပဲဖြစ်တယ်။ ဒ့ါအပြင် အခန်းတစ်ခန်းရဲ့အဆုံးမှာ ထည့်ပေးထားတဲ့ အနှစ်ချုပ်အတွေးအခေါ်ကလည်း ဒီအခန်းက ဘာပြောချင်တာလဲဆိုတာကို ထင်းကနဲပြင်သွားစေနိုင်တယ်။ အခန်းတိုင်းမှာ သက်ဆိုင်ရာပညာရှင်တွေ၊ ထင်ရှားသူတွေရဲ့အကြောင်းတွေ၊ သူတို့ရေးသားခဲ့တဲ့စာအုပ်တွေနဲ့ သူတို့ရဲ့ပြောစကားတွေကို လိုအပ်သလို ထည့်သွင်းပေးထားတာတွေ့ရမှာဖြစ်တယ်။ ဒီလို ထူးခြားတဲ့တင်ဆက်ပုံကြောင့် တဖတ်သူအနေနဲ့ ဒီစာအုပ်ကိုဖတ်ပြီး စီးပွားရေးပညာကို လွယ်လွယ်ကူကူတီးခေါက်မိသွားနိုင်သလို၊ လေ့လာစရာတွေကိုလည်း ဆက်လက်လေ့လာချင်လာအောင် လမ်းဖွင့်ပေးလိုက်သလိုဖြစ်နေတယ်။ ဒါကြောင့် စီးပွားရေးပညာရပ်ကို စိတ်ဝင်တစားလေ့လာနေတဲ့သူတွေအတွက် ဒီစာအုပ်က တစ်ပုံတစ်ရာအထောက်အကူပြုလိမ့်မယ်လို့ မျှော်လင့်ပြီး မူရင်းတင်ဆက်ပုံအတိုင်း ဒီစဉ်ထုတ်ဝေလိုက်ပါတယ်။

■ ■ ■

# THE BASICS
# အခြေခံသဘောတရားများ

# ၀၁ – ကိုယ်ပျောက်လက်

## The Invisible Hand

**၁၉၈၀ ပြည့်လွန်နှစ်တွေမှာ ဂန္ထဝင်ရုပ်ရှင် ဝေါလ်စထရိ (Wall Street) ဇာတ်ကားရဲ့ မိလီနီသူရုပ်ဆောင် ဂေါ်ဒွန်ဂက်ကို (Gordon Gekko) က "လောဘကြီးတာကောင်းတယ်" ဆိုပြီး ပြတ်ပြတ်သားသားပြောလိုက်တယ်။ ဒီလိုပြောလိုက်တာဟာ ငွေရှင်ကြေးရှင်တွေနဲ့ပတ်သက်ပြီး ယဉ်ကျေးတဲ့လူ့အဖွဲ့အစည်းတစ်ရပ်မှာ အရိုးစွဲနေတဲ့ အဆိုးဆုံးအကြောက်တရားကို တစ်ချက်တည်းနဲ့ ထိုးနက်တိုက်ခိုက်ပြီး အတည်ပြုပေးလိုက်တာပါပဲ။ ကတုံးပေါ်ထိပ်ကွက်လုပ်နေတဲ့ မန်ဟတ်တန် (Manhattan) လောကကြီးထဲမှာ ဖျက်နာပြောင်တိုက်ထားတဲ့ ပတော်လောဘစိတ်ဟာ ဘာကိုမှရှက်ရွံ့မနေတော့ပါဘူး။ ဝတ်ကောင်းစားလှ ဝတ်ဆင်ထားသလို ဒီလောဘစိတ်ကို ဂုဏ်ယူဝံ့ကြွားစွာပဲ ဆင်မြန်းထားပါလိမ့်မယ်။**

ဒီဇာတ်ကားဟာ ၂၀ ရာစုနှောင်းပိုင်းကာလမှာတောင် ရုပ်ရှင်ကားတစ်ကားအနေနဲ့ လှုပ်လှုပ်ရှားရှားဖြစ်ခဲ့တယ်။ ပညာတတ်လောကကို ခရစ်ယာန်ဘုရားကျောင်းတော်က လွှမ်းမိုးထားတဲ့အစောပိုင်းရာစုနှစ်နှစ်ခုလောက်ကာလတုန်းကဆိုရင် ဒီလိုပြတ်ပြတ်သားသားပြောဆိုတာမျိုး ဘယ်လိုများထွက်ပေါ်လာခဲ့မလဲဆိုတာ စိတ်ကူးကြည့်ဖို့တောင်မဖြစ်နိုင်ဘူး။ အဲ့ဒီအချိန်ကလူကိုစီးပွားရေးသတ္တဝါအဖြစ်အဓိပ္ပာယ်ဖွင့်ဆိုတာကိုတောင်ဘုရားသခင်ကိုစော်ကားမော်ကားပြောသလို သဘောထားခဲ့ကြတဲ့ကာလလေ။ အဲဒီလို ၁၈ ရာစုလောက်မှာအဒမ်စမစ်ဟာ ကိုယ်ပျောက်လက် (invisible hand) ဆိုတဲ့ အယူအဆတစ်ခုကို ပထမဆုံးအဆိုပြုခဲ့တယ်။ ဒီအယူအဆရဲ့ရိုက်ခတ်မှုဘယ်လောက်ရှိမယ်ဆိုတာကို အခုအချိန်မှာတော့ သဘောပေါက်နားလည်နိုင်ကောင်းလောက်ပါပြီ။ ဘာပဲဖြစ်ဖြစ် သူ့အယူအဆကိုဆက်စံခဲ့တဲ့ ပောလီးဝုဒ်ရုပ်ရှင်လိုပဲ သူ့စာအုပ်ကလည်း စီးပွားရေးအရအကြီးအကျယ်အောင်မြင်မှုရခဲ့တယ်။ ပထမအကြိမ် ထုတ်ဝေမှုမှာတင် စာအုပ်အကုန်လုံးရောင်းကုန်သွားခဲ့ပြီး အဲဒီအချိန်ကတည်းက ကျမ်းရင်းတစ်ပိုင်းဖြစ်နေခဲ့ပါပြီ။

### ကိုယ်ကျိုးစီးပွားရဲ့အခန်းကဏ္ဍ

"ကိုယ်ပျောက်လက်" ဆိုတာ ဝယ်လိုအားနဲ့ရောင်းလိုအား ဥပဒေသ အတွက် အတိုကောက်အသုံးတစ်ရပ်ပါ (အခန်း ၂ ကို ကြည့်ပါ)။ ဒီဝယ်လိုအားနဲ့ရောင်းလိုအားဆိုတဲ့ အကြောင်းတရားနှစ်ခုရဲ့တွန်းအားနဲ့ ဆွဲအားက လူ့အဖွဲ့အစည်းတစ်ရပ်လုံးအနေနဲ့ အကျိုးအကျေးဖူးခံစားရအောင် ဘယ်လိုဖြည့်ဆည်းပေးတယ်ဆိုတာကိုကိုယ်ပျောက်လက်အယူအဆက ရှင်းပြပေးတယ်။ လူတွေအနေနဲ့ သူတို့ရဲ့ကိုယ်ကျိုးစီးပွားအတွက်လုပ်ကိုင် ဆောင်ရွက်တာဟာဘာမှမှားစရာမရှိဘူးလို့ ရိုးရိုးရှင်းရှင်း ပဲဆိုတယ်။ လွတ်လပ်တဲ့ဈေးကွက်တစ်ခုမှာ တစ်ဦးချင်းကိုယ်ကျိုးစီးပွားကို လက်ကိုင်ပြုထားတဲ့ လူသားတိုင်းရဲ့ စုပေါင်းပေါင်းနှင်အားက လူတိုင်းကိုတန်ဖိုးတက်စေပြီး လူ့အဖွဲ့အစည်း တစ်ရပ်လုံးကို အကျိုးအမြတ်ဖြစ်ထွန်းစေပါတယ်။

စမစ်ရဲ့အပြောင်းမြောက်ဆုံးလက်ရာတစ်ခုဖြစ်တဲ့ ၁၇၇၆ ခုနှစ်ထုတ် "နိုင်ငံများရဲ့ဓန" (The Wealth of Nations) စာအုပ်ထဲမှာကိုယ်ပျောက်လက်ဆိုတဲ့ စကားရပ်ကိုသုံးခါပဲသုံးနှုန်းခဲ့တယ်။ ဒါပေမဲ့ အဲဒီတပိုဒ်တစ်ပိုဒ်ကတော့ ဒီအယူအဆရဲ့အရေးပါမှုကို မီးမောင်းထိုးပြခဲ့တယ်။

(တစ်သီးပုဂ္ဂလလူသားတိုင်းက) အများပြည်သူအကျိုးစီးပွားကို မြှင့်တင်ဖို့မရည်ရွယ်သလို ဒါကိုသူဘယ်လောက်မြှင့်တင်ပေးနေတယ်ဆိုတာကိုလည်းမသိဘူး။ (သူ့ရဲ့) စီးပွားရေးလုပ်ငန်းကို ထုတ်လုပ်မှုကနေ အကြီးမားဆုံးတန်ဖိုးရစေဖို့ဆိုတဲ့နည်းနဲ့ကိုင်တွယ်စီမံရာမှာ သူ့ရဲ့ကိုယ်ပိုင်အကျိုးအမြတ်ရစေဖို့အတွက်ရည်ရွယ်တယ်။ တခြားအသာဖြစ်ရပ်တွေမှာလိုပဲ ဒီကိစ္စမှာလည်း သူ့ရဲ့ရည်မှန်းချက်ထဲမှာမပါတဲ့ အဆုံးသတ်ပန်းတိုင်တစ်ခုဖြစ်မြောက်လာစေရေးအတွက်ကိုယ်ပျောက်လက်က သူ့ကိုခေါ်ဆောင်သွားတာပဲဖြစ်တယ်။ သူ့အနေနဲ့ ကိုယ်ကျိုးစီးပွားနောက်ကိုလိုက်ပါဆောင်ရွက်နေခြင်းက လူ့အဖွဲ့အစည်းရဲ့အကျိုးစီးပွားကို မကြာခဏဆိုသလိုမြှင့်တင်ပေးခဲ့တယ်။ ဒီလိုမြှင့်တင်ပေးနိုင်ခြင်းက ရည်ရွယ်ချက်ရှိရှိ

**အချိန်ပြဇယား**

| ဘီစီ ၃၅၀ | ၁၇၂၃ | ၁၇၅၉ | ၁၇၇၆ | ၂၀၀၇ |
|---|---|---|---|---|
| အရစ္စတိုတယ်လ်က မြေပိုင်ဆိုင်ရာအဆောက်အဦဆိုတာတစ်သီးပုဂ္ဂလပိုင်ဆိုင်မှုဖြစ်သင့်တယ်လို့ အတိအလင်းပြောဆို | အဒမ်စမစ်ကိုမွေးဖွား | အဒမ်စမစ်ရေးသားတဲ့ The Theory of Moral Sentiments စာအုပ်ထုတ်ဝေ | အဒမ်စမစ်ရေးသားတဲ့ The Wealth of Nations စာအုပ်ထုတ်ဝေ | ဘောဂဗေဒရဲ့ဖခင်ကြီးအဖြစ် အသိအမှတ်ပြုတဲ့အနေနဲ့ ပေါင် ၂၀ တန် ငွေစက္ကူပေါ်မှာ အဒမ်စမစ်ပုံကိုရိုက်နှိပ်ခဲ့ပြီ |

> လုပ်ဆောင်တာထက် ပိုပြီးထိရောက်တယ်၊ အများပြည်သူဆိုင်ရာပစ္စည်း လုပ်ငန်း (Public good) တွေကို ရောင်းဝယ်ဖေါက်ကားဖို့ လုပ်ကိုင်ဖို့ ဟိတ်ဟန်ထုတ်ပြောတတ်သူတွေက ပြောင်ပြောင်မြောက်မြောက်လုပ်နိုင်ခဲ့တယ်လို့တော့ ကျွန်တော်ဘယ်တုန်းကမှမကြားခဲ့ဖူးဘူး၊

လွတ်လပ်တဲ့ဈေးကွက်တွေဟာ ခေတ်မီရှုပ်ထွေးတဲ့လူ့အဖွဲ့အစည်းတွေဖွံ့ဖြိုးတိုးတက်ရေးအတွက် အလွန်အရေးကြီးတယ် ဆိုတာကို ရှင်းပြဖို့ ဒီအယူအဆက အထောက်အကူဖြစ်စေတယ်။

## ကိုယ်ပျောက်လက်ကပေးတဲ့ သင်ခန်းစာ

ထောမတ်စ်ဟာ တီထွင်သူတစ်ယောက်ဆိုကြပါစို့။ သူက မီးလုံးအမျိုးအစားသစ်တစ်မျိုးကို တီထွင်ဖို့စိတ်ကူးရခဲ့တယ်၊ ဒီမီးလုံးက တခြားမီးလုံးတွေထက် ပိုကောင်း၊ ပိုတာရှည်ခံပြီး ပိုလင်းတဲ့ မီးလုံးမျိုးဖြစ်တယ်။ ထောမတ်စ် ဒီလိုလုပ်ခဲ့တာက သူ့ကိုယ်သူ ပိုပြီးချမ်းသာအောင်၊ ဒါမှမဟုတ် ပိုပြီးထင်ပေါ်ကျော်ကြားအောင် ဆိုတဲ့ မျှော်လင့်ချက်နဲ့ သူ့ကိုယ်ပိုင်ကိုယ်ကျိုးစီးပွားအတွက် လုပ်ဆောင်ခဲ့တာပဲဖြစ်တယ်။ ဒါဟာမီးလုံးတွေ ပြုလုပ်သူအလုပ်သမားတွေအတွက် အလုပ်အကိုင် ဖန်တီးပေးပြီး ဝယ်ယူသုံးစွဲသူတွေရဲ့ လူနေမှုဘဝတွေ (နဲ့ဧည့်ခန်းတွေ)ကိုလည်း ပိုမိုကောင်းမွန်စေတာကြောင့် အကျိုးဆက်အနေနဲ့ လူ့အဖွဲ့အစည်းတစ်ရပ်လုံး အကျိုးအမြတ်ရရှိမှာဖြစ်ပါတယ်၊ အကယ်၍ ဒီမီးလုံးအတွက် ဝယ်လိုအားမရှိဘူး(လူတွေကမလိုချင်ဘူး) ဆိုရင်တော့ ဘယ်သူကမှ ဒီအတွက် ထောမတ်စ်ကို ငွေကြေးတစ်စုံတစ်ရာပေးနေမှာမဟုတ်ဘူး။ တကယ့်လက်တွေ့မှာတော့ ဒီလိုအမှားမျိုးကျူးလွန်မိတဲ့သူ့အပေါ် ကိုယ်ပျောက်လက်က ကောင်းကောင်းသင်ခန်းစာပေးပါလိမ့်မယ်၊

အခြားသူတွေကလည်း ထောမတ်စ်လိုပဲ ဒီလုပ်ငန်းကနေ ဝင်ငွေကောင်းကောင်းရှာနိုင်တယ်လို့ ထင်လာကြတယ်။ ဒါကြောင့် သူတို့ကလည်း အဲဒီလိုမီးလုံးမျိုးထက် ပိုကောင်း၊ ပိုလင်းတဲ့ မီးလုံးမျိုးတွေ တီထွင်ပြီး ထောမတ်စ်ထက်သာအောင် ကြိုးစားကြပြန်တယ်။ ဒီတော့ သူတို့တွေလည်း ချမ်းသာစ ပြုလာကြတာပေါ့။ ဒါပေမဲ့ "ကိုယ်ပျောက်လက်" ဆိုတာမျိုးက ဘယ်တော့မှအိပ်မနေဘူး။ ထောမတ်စ်ကလည်း သူအများဆုံးရောင်းနေရတာကို သေချာအောင် ဆက်ထိန်းထားဖို့ရာ သူ့ရဲ့ပြိုင်ဘက်တွေနဲ့ အပြိုင်ဝပြီးဈေးလျှော့ရောင်းပြန်တယ်။ စားသုံးသူတွေအဖို့တော့ ပိုပြီးဈေးသက်သာတဲ့ မီးလုံးတွေကို ရတာကြောင့် ကျေနပ်ပျော်ရွှင်ဖွယ်ရာအကျိုးကျေးဇူးကို ခံစားကြရတာပေါ့။

ဒီဖြစ်စဉ်ရဲ့အဆင့်တစ်ဆင့်ချင်းစီကို ကြည့်ရင် ထောမတ်စ်အနေနဲ့ လူ့အဖွဲ့အစည်းရဲ့အကျိုးစီးပွား ဆိုတာထက် သူ့ကိုယ်ပိုင်အကျိုးစီးပွားအတွက်ပဲလုပ်ဆောင်နေခဲ့တာဖြစ်တယ်။ သူကသူ့ကိုယ်ပိုင်



အကျိုးစီးပွားအတွက် လုပ်ဆောင်နေပြီး ကျန်တဲ့လူတွေကတော့ ကိုယ်ကျိုးမကြည့်ဘဲအများအကျိုး အတွက်လုပ်နေမယ်ဆိုရင်လည်း လူ့အဖွဲ့အစည်းရဲ့ကောင်းကျိုးကိုဖြည့်ဆည်းနိုင်မှာမဟုတ်ပါဘူး။

ဥပမာတစ်ရပ်အနေနဲ့ ကိုကာကိုလာကုမ္ပဏီကို လေ့လာကြည့်ရအောင်ပါ၊ ကိုကာကိုလာဟာ ၁၉၈၀ ပြည့်လွန်နှစ်တွေမှာ ပိုပြီးခေတ်မီတဲ့ သောက်သုံးသူလူငယ်တွေကို ဆွဲဆောင်ဖို့ရာ အားထုတ်မှုတစ်ရပ်အနေနဲ့ သူ့အချိုရည်ဖော်စပ်ပုံနည်းကို အပြောင်းအလဲလုပ်ခဲ့တယ်၊ ဒါပေမဲ့ ဒီကုတ်ဘူးအသစ်က ဘယ်လောက်များမစွံလိုက်သလဲဆိုရင် ဒီအပြောင်းအလဲကို သောက်သုံးသူတွေအရသာမတွေ့လို့ ရောင်းအားတွေ ထိုးကျခဲ့ရတယ်။ ကိုယ်ပျောက်လက်က ပေးလိုက်တဲ့မက်ဆေ့ချ်ကတော့ စပ်ရှင်းရှင်းပါပဲ။ အမြတ် ငွေထိုးကျသွားတဲ့ ကိုကာကိုလာဟာ နောက်လအနည်းငယ်အကြာမှာ ကုတ်ဘူးအသစ်ကို ဈေးကွက်ထဲကနေပြန်ရုပ်သိမ်းသွားခဲ့ပြီး မူလအချိုရည်အဟောင်းကိုပဲ ပြန်လည်ဖြန့်ဖြူးခဲ့တယ်။ အမြတ်အစွန်းက လျင်လျင်မြန်မြန်ပဲ ပြန်လည်ခုန်တက်လာတာကြောင့် ကိုကာကိုလာရဲ့ဒါရိုက်တာတွေ ဝမ်းသာကြသလို သောက်သုံးသူတွေလည်း ပျော်ရွှင်ခဲ့ကြတယ်။

"ကိုယ်ပျောက်လက်" အယူအဆအလုပ်မဖြစ်တဲ့ အခြေအနေမျိုးတွေလည်းရှိတယ်ဆိုတာ စမစ်က အသိအမှတ်ပြုလက်ခံခဲ့တယ်၊ ဒီလိုအခြေအနေတွေထဲမှာ "tragedy of the commons" လို့ ယေဘုယျအားဖြင့် သိကြတဲ့ အကျပ်အတည်းတစ်ရပ်လည်းရှိတယ်။ အများပိုင်စားကျက်မြေလိုမျိုး သီးခြားအရင်း အမြစ်တစ်ရပ်ရဲ့ ဖြည့်ဆည်းပေးနိုင်မှုက အကန့်အသတ်နဲ့သာရှိနေတဲ့အခါမျိုးမှာ ဒီမြေအပေါ်မှာ အမြတ်ထုတ်ကိုယ်ကျိုးရှာလိုသူတွေက အနီးပတ်ဝန်းကျင်က သူတွေကို ထိခိုက်နစ်နာအောင်လုပ်တတ်ကြတဲ့ ပြဿနာပါ။ ဒါဟာရာသီဥတုအပြောင်းအလဲ ဆန့်ကျင်ရေး တိုက်ပွဲဝင်သူတွေ အကြီးအကျယ်အသုံးချခဲ့ကြတဲ့ အကြောင်းပြချက်တစ်ရပ်လည်းဖြစ်တယ် (အခန်း ၄၅ ကိုကြည့်ပါ)။

## လွတ်လပ်သောဈေးကွက်အပေါ်အကန့်အသတ်များ

"ကိုယ်ပျောက်လက်" ဆိုတဲ့အယူအဆကို မကြာသေးတဲ့ ဆယ်စုနှစ် ကာလတွေအတွင်းမှာ လက်ယာစွန်းနိုင်ငံရေး သမားတွေက မကြာခဏဆိုသလို မောင်ပိုင်စီးခဲ့ကြဖူးပေမယ့် ဒါဟာ သီးခြား နိုင်ငံရေးအမြင်တစ်ရပ်ကို သေချာပေါက် ကိုယ်စားပြုတဲ့ သဘောတရား တစ်ရပ်တော့မဟုတ်ဘူး။ အစိုးရတွေက ဘာကိုထုတ်လုပ်သင့်တယ်ဆိုတာဆုံးဖြတ်ပြီး

# အဒမ်စမစ် (၁၇၂၃ – ၉၀)

ဘောဂဗေဒရဲ့ခေါင်းကိုင်ဖခင်ကြီးဟာ စကော့တလန် မြို့ငယ်လေး Kirkcaldy ကနေထွက်ပေါ်လာပြီး အတော်လေးယုံကြည်ဖို့ရာ ခဲယဉ်းတဲ့အရင်းအမြစ်ကျကျတော်လှန်ပြောင်းလဲရေးသမား သူရဲကောင်းတစ်ယောက်ပဲဖြစ်ပါတယ်။ ပထမဆုံးဘောဂဗေဒပညာရှင်ဆိုတဲ့ဂုဏ်ပုဒ်နဲ့ ထိုက်တန်အောင်ကို စမစ်ဟာ အများနဲ့မတူဘဲတမူထူးခြားတဲ့ ပညာရှင် တစ်ယောက်ဖြစ်တယ်။ စမစ်ကသူ့ကိုယ်သူ လူ့အသိုင်းအဝိုင်း အပြင်ကလူတစ်ယောက် (outsider) တစ်ယောက်လို့ သဘောထားပြီး အများနဲ့မတူတဲ့ သူ့ရဲ့ရုပ်ပိုင်းဆိုင်ရာအသွင်အပြင်နဲ့ လူမှုရေးရည်မွန်မှု (social grace) မရှိတဲ့အပေါ် ရံဖန်ရံခါဆိုသလို ညည်းညူပြောဆိုတတ်ပါတယ်။ သူ့ရဲ့အမွေဆက်ခံတဲ့ ခေတ်သစ်ပညာရှင်တွေလိုပဲ ဂလက်စဂိုတက္ကသိုလ်က သူ့ရုံးခန်းဟာလည်း မြင့်မားတဲ့စာအုပ်စင်တွေ၊ စာရွက်စာတမ်းအပုံတွေနဲ့ ပရမ်းပတာဖြစ်ချင်တိုင်းဖြစ်နေတာပါ။ တစ်ခါတစ်လေ သူတစ်ယောက်တည်းလည်း စကားပြောနေတတ်ပြီး စမစ်မှာ အိပ်ပျော်နေရင်း လမ်းလျှောက်တတ်တဲ့ အကျင့်မျိုးလည်းရှိတယ်။

စမစ်ဟာ "ကိုယ်ပျောက်လက်" ဆိုတဲ့စကားရပ်ကို သူ့ရဲ့ပထမဆုံးစာအုပ် The Theory of Moral Sentiments (1975) စာအုပ်မှာ ကိုယ်ပိုင်ဟန်နဲ့တီထွင်ခဲ့တာပါ။ ဒီစာအုပ်က လူသားအချင်းချင်း အပြန်အလှန်အကျိုးပြုပုံ၊ အပေးအယူအဆက်အဆံပြုပုံ၊ ကျင့်ဝတ်ဆိုင်ရာရိုးသားဖြောင့်မတ်မှုနဲ့ လူသားရဲ့ပင်ကိုသဘောအရအကျိုးစီးပွားရှာဖွေတတ်ပုံကြားက ဆက်သွယ်ချက်အပေါ် အဓိက ဖိုးကပ်စ် လုပ်ရေးသားထားတယ်၊ ဂလက်စဂိုကနေ Duke of Buccleuch ကို ကျူတာဘဝနဲ့ထွက်ခွာလာပြီးတဲ့ နောက်မှာ စမစ်ဟာ "သဘာဝကိုရှုစမ်းခြင်းနဲ့ နိုင်ငံများ၏ ဥစ္စာဓနဆိုင်ရာအကြောင်း တရားများ" (An Inquiry into the Nature and Causes of the Wealth of Nations) ဆိုတဲ့စာအုပ်ကို ဝတင်ရေးသားခဲ့တယ်။

အဲဒီနောက်ပိုင်းမှာတော့ စမစ်ဟာထင်ပေါ်ကျော်ကြားသူတစ်ယောက်ဖြစ်လာခဲ့တယ်၊ သူ့ရဲ့အတွေး အခေါ်တွေဟာ ဘောဂဗေဒနယ်ပယ်ကနာမည်ကြီးပုဂ္ဂိုလ်တွေပေါ်မှာ လွှမ်းမိုးမှုရှိရုံသာမက စက်မှု တော်လှန်ရေး ပထမကမ္ဘာစစ်တို့နဲ့အတူ အဆုံးသတ်သွားခဲ့တဲ့ ဂလိုဘယ်လိုက်ဇေးရှင်း ပထမလှိုင်းကို မောင်းနှင်ပေးတဲ့ တွန်းအားတစ်ရပ်လည်းဖြစ်တယ်၊ ပြီးခဲ့တဲ့နှစ်သုံးဆယ်အတွင်းမှာ စမစ်ဟာခေတ်သစ် စီးပွားရေးအတွေးအခေါ်တွေကို ကျောထောက်နောက်ခံပြုပေးထားတဲ့ လွတ်လပ်တဲ့ဈေးကွက်၊ လွတ်လပ် တဲ့ကုန်သွယ်ရေးနဲ့ အလုပ်ခွဲခြားလုပ်ကိုင်ခြင်း (အခန်း ၆ ကိုကြည့်ပါ) ဆိုင်ရာသူ့ရဲ့အယူအဆတွေနဲ့ အတူတစ်ကျော့ပြန် သူရဲကောင်းတစ်ယောက်ဖြစ်လာခဲ့ပြန်တယ်။

၂၀၀၇ ခုနှစ်မှာ အင်္ဂလန်ဘဏ်ကထုတ်ဝေတဲ့ပေါင် ၂၀ တန် ငွေစက္ကူပေါ်မှာ စမစ်ရဲ့မျက်နှာကို ရိုက်နှိပ် ဖော်ပြခံခဲ့ရတယ်၊ ဒါဟာပထမဆုံးသောစကော့လူမျိုးတစ်ယောက်အဖြစ် ထိုက်ထိုက်တန်တန်ဂုဏ်ပြု ခံခဲ့ရတာဖြစ်တယ်။



"အသားရောင်းသူ၊ ဘီယာရောင်းသူ၊ ဒါမှမဟုတ် မုန့်ဖုတ်သမားရဲ့ စေတနာသဒ္ဒါတရားကနေ ကျွန်တော်တို့ရဲ့ ညစာကိုမျှော်ကိုးလို့ရဘဲ၊ ကိုယ့်ကိုယ်ပိုင်အကျိုးစီးပွားအပေါ် သူတို့တွေရဲ့အလေးထားမှုကသာ ကျွန်တော်တို့ရဲ့ညစာကိုမျှော်ကိုးနိုင်စရာ ဖြစ်ပါတယ်။ ကျွန်တော်တို့ကိုယ်တိုင်ရင်ဆိုင်ရမှာက သူတို့ရဲ့စာနာမှုမဟုတ်ဘဲ၊ သူတို့ရဲ့ ကိုယ့်ကိုယ်ကိုယ်ချစ်မြတ်နိုးမှုအပေါ်မှာပဲ ဖြစ်ပါတယ်။ သူတို့ကို ကျွန်တော်တို့ရဲ့လိုအပ်ချက်တွေ အကြောင်း ဘယ်တော့မှမပြောဘဲ၊ သူတို့ရဲ့ အကျိုးအမြတ်အကြောင်းကိုသာပြောပါ။"

အဒမ်စမစ်

အထက်အောက်ညွှန်ကြားခြင်းက စီးပွားရေးကို ပိုမိုကောင်းမွန်စွာလည်ပတ်နိုင်တယ်လို့ ယူဆတဲ့သူတွေကို ထိထိမိမိ အင်အားချိနဲ့ သွားစေတဲ့တိုင်အောင်၊ တကယ်တော့ ဒါဟာအပြုသဘောဆောင်တဲ့ စီးပွားရေးသီအိုရီ တစ်ရပ်ပဲဖြစ်တယ် (အခန်း ၁၆ ကိုကြည့်ပါ)။

စည်းကမ်းချက်တချို့တလေရှိတဲ့တိုင်အောင် အစိုးရတွေနဲ့ အုပ်ချုပ်သူတွေဆိုတာထက် တစ်သီးပုဂ္ဂလ လူတစ်ဦးချင်းက ဘာကိုထုတ်လုပ်မယ်၊ ဘာကိုစားသုံးမယ်ဆိုတာ ဆုံးဖြတ်နိုင်သင့်တယ်ဆိုတဲ့ အချက်ကို ကိုယ်ပျောက်လက်က မီးမောင်းထိုးပြတာပဲဖြစ်တယ်၊ စမစ်ကကိုယ်ကျိုးစီးပွားနဲ့ အတ္တအကျိုး သက်သက်ဝိသမလောဘအပေါ် ကွဲကွဲပြားပြားဖြစ်အောင် ဂရုတစိုက်အားထုတ်ခဲ့တယ်။ ကိုယ်ကျိုးစီးပွားဆိုတာက စားသုံးသူတွေအပေါ် မတော်မတရားပြုမူဆက်ဆံခြင်းကနေ တားကွယ် ပေးမယ့် ဥပဒေတွေနဲ့ စည်းမျဉ်းစည်းကမ်းတွေချမှတ်ထားတဲ့ မူဘောင်တစ်ရပ်အတွင်းမှာ သာရှိရမှာဖြစ်တယ်။ ဒီလိုမူဘောင် ချမှတ်ရာမှာ ပစ္စည်းဥစ္စာပိုင်ဆိုင်ခွင့်၊ တီထွင်ဖန်တီးမှုနဲ့ မူပိုင်ခွင့်အခွင့်အရေး အလုပ်သမားတွေအပေါ် အကာအကွယ်ပေးတဲ့ ဥပဒေတွေပါဝင်တယ်။ "ကိုယ်ပျောက်လက်"ကို တရားဥပဒေစိုးမိုးမှုက ကျားကန်ပေးဖို့တော့လိုအပ်မှာဖြစ်ပါတယ်။

ဒီသဘောတရားကဂေါ်ဒွန်ဂက်ကိုကို မှားယွင်းသွားစေခဲ့တာပဲဖြစ်တယ်၊ ဝိသမလောဘစိတ် ရှိသူတွေကတော့ သူတို့ချမ်းသာကြွယ်ဝဖို့ တခြားသူတွေထိခိုက်နစ်နာစေအောင်အားထုတ်ရာမှာ ဥပဒေကို လက်တစ်လုံးခြားလိမ်လည်လှည့်ဖျားဖို့ သဘောကျကြမှာဖြစ်တယ်၊ အဒမ်စမစ်ကတော့ ဒါမျိုးကို ဘယ်တုန်းကမှ မထောက်ခံခဲ့ဘူး။

အနှစ်ချုပ်အတွေးအခေါ်

## ကိုယ်ကျိုးစီးပွားဟာ လူ့အဖွဲ့အစည်းအတွက် ကောင်းတယ်

# ၀၂ - ဝယ်လိုအားနဲ့ ရောင်းလိုအား

## Supply and Demand

**ဘောဂဗေဒဘာသာရပ်နဲ့ လူသားချင်းဆက်ဆံရေးရဲ့ အဓိကမဟုတ်ချက်မှာဝယ်လိုအားနဲ့ ရောင်းလိုအားဥပဒေသတည်ရှိနေတာဖြစ်တယ်။ ဈေးဆိုင်တွေပေါ်က ကုန်ပစ္စည်းတွေရဲ့ ဈေးနှုန်းတွေ၊ ကုမ္ပဏီတွေကရရှိတဲ့အမြတ်အစွန်းတွေနဲ့ မိသားစုတစ်စုက ဆင်းဆင်းရဲရဲကျန်နေခဲ့ချိန်မှာ တခြားတစ်စုက ချမ်းချမ်းသာသာဖြစ်လာပုံတွေအပေါ် ဒီမောင်းနှင်အားနှစ်ခုအပြန်အလှန်တုန့်ပြန်ဆောင်ရွက်ပုံနည်းလမ်းက အဆုံးအဖြတ်ပေးတယ်။**

ပွဲပါမက်ကတ်တွေက သုတို့ရဲ့အရည်အသွေးကောင်းတဲ့ဝက်အူချောင်းတွေအတွက် ကျသင့်ငွေကောင်းခံရာမှာ တခြားပုံမှန်တံဆိပ်(brand)တွေထက် ဘာကြောင့်ပိုက်ဆံအများကြီးပိုပိုတောင်းခံရတယ်ဆိုတာ၊ ကွန်ပြူတာကုမ္ပဏီတစ်ခုက နတ်ဘုတ်တစ်လုံးကိုအရောင်အပြောင်းအလဲလုပ်ရုံလေးနဲ့ ဘာကြောင့်ဝယ်သူဆီက ငွေပိုတောင်းနိုင်တယ်လို့ သဘောထားကြတယ်ဆိုတာတွေကို ဝယ်လိုအားနဲ့ ရောင်းလိုအားဥပဒေသက ရှင်းပြပေးနိုင်တယ်၊ သချာနဲ့ရူပဗေဒ ဘာသာရပ်တွေကို အခြေခံဥပဒေသတချို့နဲ့တွက်ချက်လို့ရသလိုပဲ၊ ဝယ်လိုအားနဲ့ရောင်းလိုအားကြားက ရိုးရှင်းတဲ့ အပြန်အလှန်သက်ရောက်မှုကိုလည်း နေရာတကာမှာတွေ့မြင်ရမှာဖြစ်တယ်၊

ဒီသက်ရောက်မှုကို အီကွေဒေါက Otavalo မြို့ရဲ့ လူပြည့်ကျပ်နေတဲ့လမ်းတွေနဲ့ နယူးယောခ်မြို့ ဝေါစထရိစ်လမ်းမကြီး တစ်ဝိုက်ကလမ်းမကျယ်ကြီးတွေမှာ တွေ့ရမှာဖြစ်တယ်။ အပေါ်ယံကွာခြားမှုအနေနဲ့ကြည့်ရင်တော့ တောင်အမေရိကရဲ့ ဖုန်ထူတဲ့လမ်းတွေပေါ်မှာ လယ်သမားတွေနဲ့ ပြည့်နေတာတွေ့ရမှာဖြစ်ပြီး ပန်ဟတ်တန်မှာတော့ ဘဏ်လုပ်ငန်းရှင်တွေနဲ့ ပြည့်နေတာတွေ့ရမှာဖြစ်ပါတယ်၊ သမားရိုးကျစီးပွားရေးပညာရှင်တွေရဲ့ မျက်လုံးထဲမှာတော့ ဒီနေရာနှစ်ခုဟာ ထပ်တူနီးနီးပါပဲ။ နည်းနည်းပိုပြီး နီးနီးကပ်ကပ် ကြည့်လိုက်ရင်တော့ ဒီနှစ်နေရာစလုံးဟာ ကြီးမားတဲ့အထင်ကရ ဈေးကွက်ကြီးတွေဆိုတာ တွေ့ရမှာပါ။ Otavalo ဆိုတာ လက်တင် အမေရိကရဲ့အကြီးဆုံးနဲ့ အကျော်ကြားဆုံး ဈေးကွက်ကြီးတစ်ခုပါ၊ တစ်ဖက်ကကြည့်ရင်လည်း ဝေါလထရိစ်ဆိုတာကနယူးယောခ် စတော့အိတ်ချိန်းရဲ့ မွေးရပ်မြေပါ၊ ဒီနေရာနှစ်ခုဟာ ရောင်းဝယ်ဖေါက်ကားဖို့ရာ လူတွေသွားလာ လှုပ်ရှားကြတဲ့နေရာတွေပါ။

> တန်ဖိုးကို ရောင်းလိုအားကသတ်မှတ်သလား၊ ဝယ်လိုအားကသတ်မှတ်သလားဆိုတာဟာ စက္ကူတစ်စကိုဖြတ်ရာမှာ ကတ်ကြေးတစ်လက်ရဲ့အပေါ်ဘက်အသွားက ဖြတ်တာလားအောက်ဖက်အသွားက ဖြတ်တာလား အငြင်းပွားရသလိုပါပဲ၊
>
> အဲလ်ဖရက် မာရှယ်၊ ဗိတိန်ယခေတ်စီးပွားရေးပညာရှင်

ဈေးကွက်က ရောင်းသူတွေနဲ့ဝယ်သူတွေကို အတူတကွသယ်ဆောင်လာခဲ့တာဖြစ်ပါတယ်၊ ဈေးဆိုင်တွေမှာ ကုန်ပစ္စည်းတွေကို ခင်းကျင်းကာနဲ့ရောင်းချတာမျိုးရှိသလို၊ဝေါစထရိစ်မှာ ဘာကုန်ပစ္စည်းမှမမြင်ရဘဲ ကွန်ပြူတာကွန်ရက်တွေချိတ်ဆက်လို့ အရောင်းအဝယ်ပြုကြတာတွေလည်း ရှိပါတယ်၊ ရောင်းလိုအားနဲ့ဝယ်လိုအားအကြားဆက်စပ်မှုဟာ ဈေးနှုန်းပါပဲ၊ ဝယ်လိုအား၊ ရောင်းလိုအားနဲ့ ဈေးနှုန်းဆိုတဲ့အရာလေးသုံးခုက လူ့အဖွဲ့အစည်းနဲ့ ပတ်သက်တဲ့အကြောင်းအရာအများအပြားကို ပြောပြနိုင်ပါတယ်၊ သူတို့ဟာ ဈေးကွက်စီးပွားရေးရဲ့အခြေခံမှုတွေပါပဲ၊ ဝယ်လိုအားဆိုတာ တစ်စုံတစ်ခုသောဈေးနှုန်းမှာ ရောင်းချသူထံကနေ လူတွေဝယ်ယူလိုတဲ့ကုန်ပစ္စည်း၊ ဒါမှမဟုတ် ဝန်ဆောင်မှုပဲဖြစ်တယ်၊ ဈေးနှုန်းတွေပိုကြီးလာလေ၊ ဝယ်ယူမယ့်ဆန္ဒနည်းလာလေဖြစ်ပြီး ပြောရရင် နောက်ဆုံးမှာ ဝယ်ယူဖို့လုံးဝငြင်းဆန်တဲ့အဆင့်အထိ ရောက်သွားနိုင်တယ်။ အလားတူ၊ ရောင်းလိုအားဆိုတာဟာလည်း တစ်စုံတစ်ရာသောဈေးနှုန်းမှာ ရောင်းချသူတွေအနေနဲ့ ထုတ်လုပ်ရောင်းချလိုတဲ့ ကုန်ပစ္စည်းတွေ၊ ဝန်ဆောင်မှုတွေရဲ့ပမာဏပဲ။ ထုတ်လုပ်ရောင်းချသူတွေ

**အချိန်ဖြဂဏား**

**၁၇၇၆**
အဒမ်စမစ်ရေးသားတဲ့ The Wealth of Nations စာအုပ်ထုတ်ဝေ

**၁၈၀၇**
ပြင်သစ်စီးပွားရေးပညာရှင် Jean-Baptiste Say က ဝယ်လိုအားဟာ အချိန်ကြာလာတဲ့အခါ ရောင်းလိုအားနဲ့ အမြဲတမ်းသဟဇာတဖြစ်လိမ့်မယ်ဆိုတဲ့ ဥပဒေသတစ်ရပ်ကိုချမှတ်

**၁၈၉၀**
အဲလ်ဖရက်မာရှယ်က ရောင်းလိုအား - ဝယ်လိုအား မျဉ်းကွေးတွေနဲ့ဇယားတွေကို အများနားလည် အောင်တင်ပြ

**၁၉၃၀ ခုနှစ်များ**
ဆာဂျွန်ဟစ်က ရောင်းလိုအားနဲ့ ဝယ်လိုအားဆိုင်ရာ ဘောဂဗေဒသဘောတရားကိုပြန်လည်သန့်စင်မွမ်းမံ

အဖို့မှာလည်း ကုန်ပစ္စည်းတွေ၊ ဝန်ဆောင်မှုတွေအတွက် ငွေကြေးနဲ့ အချိန် ဆိုတဲ့ စရိတ်စကတွေကြောင့် ဈေးနှုန်းကျလေ၊ ထုတ်လုပ်ရောင်းချလိုစိတ် နည်းလေပဲ။

## ဈေးနှုန်းက အမှန်တရားလား

ဈေးနှုန်းတွေဆိုတာ ထုတ်ကုန်တစ်ခုရဲ့ ဝယ်လိုအား ဒါမှမဟုတ် ရောင်းလိုအားအတက်အကျကို ဖော်ပြနေတဲ့ အချက်ပြကိရိယာပါပဲ။ ၂၀ ရာစုရဲ့ အစောပိုင်းနှစ်တွေမှာ အမေရိကန်ပြည်ထောင်စုက အိမ်ဈေးတွေဟာ တရိပ်ရိပ်နဲ့ လျှင်လျှင်မြန်မြန် တက်လာတာတွေ ရှိတယ်။ ဒါဟာ အိမ်ပေါင်ပြီး ငွေချေးရတာ သက်သက်သာသာဖြစ်လို့ အိမ်ပိုင်ရှင်တွေဖြစ်ဖို့ မိသားစုတွေအနေနဲ့ ပိုပြီးစွန့်စွန့်စားစား ဝယ်ယူလာကြတာတွေကြောင့်ပဲဖြစ်တယ်။ ဒီဝယ်လိုအားက အိမ်ရာဆောက်လုပ်ရောင်းချသူတွေကို အိမ်တွေပိုဆောက်ဖို့ တွန်းအားဖြစ်စေတယ်၊ အထူးသဖြင့် ဖလော်ရီဒါနဲ့ ကယ်လီဖိုးနီးယားမှာပါ။ နောက်ဆုံး အိမ်တွေ အပြီးသတ်ဆောက်လုပ်ပြီးချိန်မှာ ရောင်းလိုအားတွေ ရုတ်တရက် အလျှံအပယ်ဖြစ်လာတာကြောင့် အိမ်ဈေးတွေကို အလျင်အမြန်ပဲ ထိုးကျသွားစေခဲ့တယ်။

စီးပွားရေးပညာနဲ့ ပတ်သက်လို့ တစ်လောကလုံး မသိချင်အဆုံးဖြစ်နေတဲ့ လျှို့ဝှက်ချက်ကတော့ တကယ့်လက်တွေ့မှာ ဈေးနှုန်းတွေဟာ အားမျှခြေတစ်ရပ်မှာ ရှိနေတယ်ဆိုတာမျိုးက ကြုံတောင့်ကြုံခဲ ရှားရှားပါးပါးဖြစ်ရပ်ဆိုတာပါပဲ။ ဥပမာ – နှင်းဆီပန်းဈေးတွေဟာ တစ်နှစ်ပတ်လုံး တက်လိုက်ကျလိုက် ဖြစ်နေတာပါ။ ရာသီအလိုက် နှင်းဆီတွေ လှိုင်လှိုင်ထွက်ချိန်မျိုးမှာ နှင်းဆီပန်းဈေးတွေ ကျသွားမယ်။ နှင်းဆီပန်းရှားတဲ့ရာသီမှာတော့ ရောင်းချသူတွေ နည်းသွားပြီး နှင်းဆီပန်းဈေးတွေ တစ်ခါပြန်တက်လာတာတွေ ရမှာဖြစ်တယ်။ ဒီလိုပါပဲ၊ ဖေဖော်ဝါရီ ၁၄ ရက် ဗယ်လင်တိုင်းနေ့မှာတော့ နှင်းဆီပန်း ဝယ်လိုအားတွေ များလာတာကြောင့် နှင်းဆီဈေးနှုန်းတွေ ခုန်တက်သွားတာတွေ ရမှာပါ၊

အိမ်ဈေးနှုန်းတွေကိုပဲ ပြန်လေ့လာကြည့်ရင် ဘယ်စီးပွားရေးပညာရှင်ကမှ ပျမ်းမျှအနေနဲ့ အိမ်တစ်လုံးဟာ ဘယ်လောက်ထိုက်တန်တယ်ဆိုတာ မတွက်ချက်ခဲ့ဖူးသေးပါဘူး။ အိမ်ဈေးနှုန်းဟာ လူတစ်ယောက်ရတဲ့လစာရဲ့ ဘယ်နှစ်ဆလောက် ဖြစ်သင့်တယ်၊ သုံးဆ သို့မဟုတ် လေးဆလောက်ဆိုတာမျိုး သမိုင်းကကျွန်တော်တို့ကို ပြောပါတယ်။ ဒါပေမဲ့လို့ တိတိကျကျ ကိန်းသေပေါက်သိနိုင်တဲ့ နည်းလမ်းမျိုးတော့ မရှိပါဘူး၊

လူတစ်ယောက်ဟာ ကုန်ပစ္စည်းတစ်ခုရဲ့ ဈေးနှုန်းကနေ လူတွေနဲ့ ပတ်သက်တဲ့ အခြေခံအဆင့် သင်ခန်းစာတချို့ကို လေ့လာသင်ယူနိုင်ပါတယ်၊ လွန်ခဲ့တဲ့နှစ်အနည်းငယ်တုန်းက Apple



## ဝယ်လိုအားနဲ့ ရောင်းလိုအား သက်ဝင်လှုပ်ရှားပုံ

အီကွေဒေါနိုင်ငံမှာ မာရီယာဆိုတဲ့ အမျိုးသမီးတစ်ယောက်ဟာ အင်ဒီးစ်တောင်တန်းဒေသထွက် ပုံစံ အိမ်တွင်းဖြစ် လက်ရက်စောင်တွေကို ဈေးထဲက သူ့ဆိုင်ခန်းငယ်လေးမှာ ရောင်းချနေပါတယ်။ စောင်တစ်ထည်ကို ၁၀ ဒေါ်လာ၊ ဒါမှမဟုတ် ဒီထက်လျှော့ရောင်းစရာအကြောင်းမရှိဘူးလို့ သူနားလည်ပြီး သားပါ၊ ဒီဈေးနဲ့ဆို စောင်ရက်နိုင်မှာမဟုတ်သလို၊ ဆိုင်ခန်းလည်းငှားနိုင်မှာ မဟုတ်ဘူးလေ၊ ပထမဆုံး စောင်တစ်ထည်ကို ဒေါ်လာ ၅၀ သတ်မှတ်လိုက်တယ်။ ဒီဈေးနဲ့ဆို သူက စောင်အထည် ၈၀ လောက်ရောင်းရချင်တယ်။ ဒါပေမဲ့ ဝယ်မယ့်သူတွေအဖို့ကော့ ဒီဈေးက သိပ်မြင့်လွန်းနေလို့ တစ်ထည်မှတောင် မရောင်းရဘူး။ ဒီတော့ စပြီး ဈေးလျှော့ရောင်းဖို့လုပ်တယ်။ ဒါမှလည်း သူ့ကုန် လက်ကျန်တွေကို မြန်မြန်ဖြတ်နိုင်မှာဖြစ်တယ်။ သူက တဖြည်းဖြည်းချင်း ဈေးကို လျှော့ရောင်းတယ်၊ ဈေးတစ်ခါချလိုက်တိုင်း ဝယ်သူတွေ တိုးတိုးလာတယ်၊ စောင်တစ်ထည်ကို ဒေါ်လာ ၄၀ နဲ့ ရောင်းတုန်းက အထည် ၂၀ လောက်ရောင်းရတယ်၊ ဒေါ်လာ ၃၀ ဆိုတော့ စောင် ၄၀ လောက်ကုန်တယ်၊ တစ်ထည်ကို ဒေါ်လာ ၂၀ အထိ ဈေးချလိုက်ချိန်မှာတော့ ဈေးလျှော့လိုက်တာ သိပ်များသွားပြီလို့ သူသဘောပေါက်သွားတယ်၊ အကြောင်းက သူ့မှာရှိတဲ့ စောင်လက်ကျန်တွေက လျော့လျော့သွားပြီး၊ ဝယ်လိုအားနဲ့ အပြိုင် နောက်ထပ်စောင်အသစ်တွေ ထပ်မဖြည့်နိုင်တာကြောင့်ပဲ။ ဒီမှာတင် စောင်တစ်ထည်ကို ဒေါ်လာ ၃၀ နဲ့ရောင်းတာဟာ သူ့စောင်အသစ်ရက်နိုင်တဲ့ပမာဏနဲ့ လူတွေဝယ်ချင်တဲ့အရေအတွက်ကို ထိန်းထားနိုင်တဲ့ အနေအထားပဲဆိုတာ သူနားလည်သွားခဲ့တယ်။ ဒါဟာ စီးပွားရေး ပုံစံကားချပ်တွေထဲမှာ အရေးကြီးဆုံးလို့ဆိုရမယ့် ဝယ်လိုအားနဲ့ ရောင်းလိုအားမျဉ်းကွေးကို သူ့ပုံဖော်လိုက်နိုင်တာပဲဖြစ်တယ်၊ သူဟာ သူ့စောင်တွေကို ရောင်းရမယ့် အားမျှဈေးနှုန်း (equilibrium price) ကို တွေ့ရှိသွားခဲ့တယ်။ အမည်းမျဉ်းက မာရီယာရဲ့ စောင်တွေအပေါ် လူတွေရဲ့ ဝယ်လိုအားမျဉ်း ဖြစ်ပြီး အစက်လေးတွေနဲ့ပြထားတဲ့ မျဉ်းကတော့ ရောင်းလိုအားမျဉ်းဖြစ်တယ်။ ဈေးနှုန်းကို သုညလို့ သတ်မှတ်ထားတဲ့နေရာမှာ ဝယ်လိုအားကို စောင်အထည် ၁၀၀ နဲ့ပြထားတယ်၊ ရောင်းလိုအားကတော့ မြင်တဲ့အတိုင်းပဲ၊ တစ်ထည်မှ ရောင်းမှာ မဟုတ်ဘူး (အကြောင်းက ထုတ်လုပ်မှုကုန်ကျတဲ့ စရိတ်က ပိုများနေလို့လေ)။ တစ်ထည်ကို ဒေါ်လာ ၂၀ ဆိုရင် ဝယ်လိုအားက အထည် ၆၀ လောက်ဝယ်ချင်ပြီး ရောင်းလိုအားကတော့ အထည် ၂၀ လောက်ပဲ ရောင်းချင်တယ်၊ ဒီပုံစံဇယားအရ တစ်ထည်ရဲ့ အားမျှဈေးနှုန်းဟာ ဒေါ်လာ ၃၀ ဆိုတာတွေ့ရမှာဖြစ်တယ်၊ တစ်ထည်ရောင်းဈေး ဒေါ်လာ ၃၀ ဆိုတဲ့နေရာမှာ ရောင်းလိုအားနဲ့ ဝယ်လိုအား (စောင်အထည် ၄၀) တူညီနေတာကို ဂရပ်ဖ်မျဉ်းတွေကို ကြည့်ရင် တွေ့နိုင်မယ်၊

ရောင်းလိုအားနှင့် ဝယ်လိုအားရလဒ်
အားမျှခြေဈေးနှုန်း
ဈေးနှုန်း ($)
50, 40, 30, 20, 10, 0
0, 20, 40, 60, 80, 100
အရေအတွက်(စောင်)
○ ရောင်းလိုအား
+ ဝယ်လိုအား

ကုမ္ပဏီကနေ လက်ပ်တော့ ကွန်ပြူတာ အသစ်ကို အဖြူနဲ့အနက်အရောင်နှစ်မျိုးနဲ့ ထုတ်လုပ်ရောင်းချခဲ့ရာမှာ အနက်ရောင်လက်ပ်တော့က ပိုပြီးဈေးကြီးနေတယ်။ အမြန်နှုန်းတို့၊ သိုလှောင်နိုင်စွမ်းတို့ဗတဲ့ စက်ရဲ့စွမ်းရည်တွေတူပေမယ့် လက်လီဈေးမှာကိုက အနက်ရောင်စက်တစ်လုံးကို ဒေါ်လာ ၂၀၀ လောက်ပိုဈေးကြီးနေတယ်၊ ထူးဆန်းတာက ဒီလိုဈေးကွာဟနေပေမယ့် ရောင်းချရာမှာတော့ အောင်အောင်မြင်မြင်ပဲရောင်းချနိုင်တာတွေ့ရတယ်။ လှံလောက်တဲ့ဝယ်လိုအား မရှိဘဲနဲ့တော့ ဒီလိုဘယ်လုပ်လို့ရနိုင်ပါ့မလဲ။ ဒီနေရာမှာ ရှင်းရှင်းလင်းလင်းမြင်နိုင်တာက ဘာမှ သိပ်မကွာခြားတဲ့ အဖြူရောင်လက်ပ်တော့နဲ့ လူတွေကကွာခြားတယ်လို့ခွဲခြားချင်တော့လည်း ဈေးပိုပေးရတာကိုပဲ သဘောကျပြီး လိုလိုလားလားပေးဝယ်ကြတော့တာပါပဲ။

## ဆန်းကြယ်တဲ့ဈေးနှုန်းအလျှော့အတင်းသဘော

တစ်ခါတစ်ရံ ရောင်းလိုအားနဲ့ဝယ်လိုအားဟာ ဈေးနှုန်းအပြောင်းအလဲကိုတုန့်ပြန်ရာမှာ အတိုင်းအဆရှိတဲ့သဘောရှိတယ်၊ တယ်လီဖုန်းကုမ္ပဏီတစ်ခုဟာ ဖုန်းခေါ်ဆိုခတွေကိုဈေးတက်လိုက်မယ်ဆိုရင် သုံးစွဲသူတွေအဖို့ ဖုန်းခေါ်ဆိုမှုအကြိမ်ရေကို ချက်ချင်းဆိုသလိုခပ်များများလျှော့ချချင်ချလိုက်မယ်။ သုံးစွဲသူတွေအဖို့ ဖုန်းခေါ်ဆိုမှုအကြိမ်ရေကို ... ဒါမှမဟုတ်တခြားဖုန်းကုမ္ပဏီကထုတ်တဲ့ဖုန်းအမျိုးအစားကိုပြောင်းသုံးချင်သုံးမယ်။ ဒေဘဂဗေဒ ဝေါဟာရအရ တော့ သုံးစွဲသူတွေရဲ့ဝယ်လိုအားဟာ ဈေးနှုန်းအလျှော့အတင်းရှိနေတယ်၊ ဝယ်လိုအားဟာ ဈေးနှုန်းအပြောင်းအလဲနဲ့အတူလိုက်ပြီး ပြောင်းလဲနေတဲ့သဘောပဲ။

သုံးစွဲသူတွေဟာ ကုန်ကျစရိတ်ရဲ့အပြောင်းအလဲအပေါ် ခပ်ဖနဲ့ဖနဲ့၊ ခပ်နည်းနည်းသာ တုန့်ပြန် နိုင်တယ်ဆိုရင်တော့ သူတို့ဟာ ဈေးနှုန်းအပြောင်းအလဲအပေါ်အလျှော့အတင်းလိုက် မလုပ်နိုင်ဘူးလို့ ဆိုရမယ်၊ ဥပမာ – ဒီထောင်စုနှစ်ရဲ့အစောပိုင်းကာလတွေမှာ ရေနံဈေးတွေ တစ်ဟုန်ထိုး မြင့်တက်ခဲ့တဲ့အခါ ကားပိုင်ရှင်တွေအဖို့ ဈေးတက်တဲ့အပေါ် ဘာမှသိပ်ပြီး ထူးထူး ခြားခြား ပြောင်းလဲတုန့်ပြန်တာတွေ မလုပ်နိုင်ဘူး။ လောင်စာဆီစရိတ်ကို ချွေတာဖို့ရာ ဈေးကြီးတဲ့ လောင်စာဆီကိုဈေးကြီးပေးဝယ်ရတဲ့ ... လျှပ်စစ်ကားတွေ၊ ဟိုက်ဘရစ်ကားတွေကိုလည်း မဖြစ်မနေပြောင်းလဲသုံးစွဲတာမျိုးမလုပ်နိုင်ခဲ့ကြဘူး။



“ကြက်တူရွေးတစ်ကောင်ကို ရောင်းလိုအားနဲ့ဝယ်လိုအားဆိုတဲ့ အသုံးတွေကိုသင်ပေးလိုက်ပါ၊ စီးပွားရေးပညာရှင်တစ်ယောက်ကို ခင်ဗျားရသွားမယ်။”

သောမတ်စ် ကာလေး

အလားတူပဲ ပြိုင်ဆိုင်မှုပြင်းထန်တဲ့ရေနံကုမ္ပဏီတွေအနေနဲ့ လည်းပိုပြီးကုန်ကျလာတဲ့စရိတ်ကိုကာမိရုံလောက်ပဲ တတ်နိုင်တယ်။ တဖြည်းဖြည်းကြာလာတဲ့အခါမှာ တချို့ကိုယ်ပိုင်ကားစီးသူတွေဟာ အများပြည်သူသုံးယာဉ် တွေကို ပြောင်းသုံးလာကြတယ်။ ဈေးကြီးတဲ့ပစ္စည်းတွေနေရာမှာ တခြားတစ်နည်းနဲ့အစားထိုးပြီး အပြောင်းအလဲလုပ်လာတဲ့ သဘောပဲ။ ဒါပေမဲ့လည်းများစွာသော မိဘားစုတွေအဖို့တော့ ဆီဈေးတက်တဲ့အပေါ် တခြားပြောင်းလဲရွေးချယ်စရာမရှိသလောက်ဖြစ်နေတာမို့ ဒီဝန်ကို နိုင်သလောက် ဆက်ထမ်းနေရဦးမှာပါပဲ၊

ဝယ်လိုအားအတွက် အလျှော့အတင်းရှိခြင်းမရှိခြင်းတွေရှိနိုင်သလို ရောင်းလိုအားအတွက်လည်း အလားတူပါပဲ။ စီးပွားရေးလုပ်ငန်းတွေဟာ ဈေးနှုန်းနဲ့လိုက်လျောညီထွေပြုနိုင်စွမ်းရှိပါတယ်၊ ပြောရရင် ဈေးနှုန်းအလျှော့အတင်းလုပ်နိုင်တယ်ပေ့ါ၊ သူတို့ရဲ့ထုတ်ကုန်တွေ၊ ရောင်းကုန်တွေရဲ့ ဝယ်လိုအားကျဆင်းလာတဲ့အခါမျိုးမှာ ဒါကို တုန့်ပြန်တဲ့အနေနဲ့ အလုပ်သမားဦးရေ လျှော့ချတာတွေ၊ ရင်းနှီးမြှုပ်နှံမှုလျှော့ချတာမျိုးတွေကို လုပ်နိုင်မှာဖြစ်တယ်။ သို့သော်လည်းတခြားနေရာတွေမှာတော့ ထပ်ပြီးအလျှော့အတင်းမလုပ်နိုင်တာမျိုးတွေလည်းရှိတယ်။ ဒီလိုအလျှော့အတင်းလုပ်ဖို့သိပ်မလွယ်လှ ဘူးဆိုတဲ့သဘောပေ့ါ၊ ဥပမာ – ကာရင်ဘီယန်ဒေသက ငှက်ပျောသီးရောင်းချသူကုန်သည်တစ်ယောက်ဟာ လက်တင်အမေရိကက ငှက်ပျောသီးထုတ်လုပ်ရောင်းချသူတွေနဲ့ အကြီးအကျယ်ပြိုင်ဆိုင်ရတဲ့အခါ ဒါမှမဟုတ် သူ့ငှက်ပျောသီးတွေကို စားသုံးသူတွေ စိတ်ဝင်စားမှုလျော့ကျလာတဲ့အခါမျိုးတွေမှာ သူ့လုပ်ငန်းကနေရင်းနှီးမြှုပ်နှံမှုတွေလျှော့ချဖို့ဆိုတာ အင်မတန်ခက်ခဲပါတယ်၊ ဆိုင်ခန်းငယ်လေးဖွင့်ပြီး ဈေးရောင်းသူပဲဖြစ်ဖြစ်၊ ဖေါ်စထဲမိစ်က ဘဏ်လုပ်ငန်းရှင်ကြီးတစ်ယောက်ပဲဖြစ်ဖြစ် ဘယ်လိုလုပ်ငန်းရှင်မျိုးမဆို စီးပွားရေးဆိုင်ရာဆုံးဖြတ်ချက်တွေမချခင်မှာ ကနဦးအင်အားက ဈေးနှုန်းနဲ့ရောင်းသူ ဝယ်သူတွေကြားက အားပြိုင်မှုအခြေအနေပဲ၊ ရောင်းသူဝယ်သူဆိုတာ တစ်နည်းအားဖြင့်ဈေးနှုန်းတွေကို သတ်မှတ်ပြဋ္ဌာန်းပေးမယ့်ရောင်းလိုအားနဲ့ဝယ်လိုအားတွေပဲပဲ၊

အနှစ်ချုပ်အတွေးအခေါ်

**ရောင်းလိုအားနဲ့ဝယ်လိုအား ညီမျှတဲ့အခါ စံထားနိုင်တဲ့ဈေးနှုန်းကိုသတ်မှတ်နိုင်တယ်**

# ၀၃ – မာလ်သူစီယံထောင်ချောက်

## The Malthusian Trap

**အကျော်ကြားဆုံး၊ ဩဇာအရှိဆုံးနဲ့ ကြာရှည်ခိုင်မြဲမှုအရှိဆုံးစီးပွားရေးသီအိုရီတွေထဲကတစ်ခုကို မျိုးဆက်တစ်ဆက်ပြီးတစ်ဆက်မှားယွင်းကြောင်း သက်သေပြခဲ့ကြတယ်ဆိုတာကတော့ ဒီရောဂါ ဖြစ်ရပါပဲ။ ဒါပေမဲ့ လူသားမျိုးနွယ်တွေအနေနဲ့ ကမ္ဘာ့ရဲ့ သယံဇာတတွေကို အလျှင်အမြန် ချဲ့ထွင်သုံးစွဲလာကြတာကြောင့် ကိုယ့်ကိုယ်ကိုယ်မျိုးတုန်းပျက်စီးအောင်လုပ်သလိုဖြစ်လာနေတာကလည်း မြေကြီးလက်ခတ်မလွဲပါပဲ။ ဒါထက်ပိုပြီးညှို့ယူဖမ်းစားနိုင်တဲ့ အတွေးအခေါ်ဆိုလို့ အနည်းအကျဉ်းလောက်ပဲရှိမယ်ထင်ပါတယ်။ မာလ်သူစီယံထောင်ချောက်ကို လေ့လာကြည့်ပါ။**

အကုကြည့်မှန်ပြောင်းနဲ့ချဲ့ထွင်ရိုက်ကူးထားတဲ့ ဆဲလ်ပွားခြင်းပုံရိပ်တွေပါတဲ့ဇီဝဗေဒသင်ခန်းစာတွေနဲ့ လူတော်တော်များများအဖို့ ရင်းနှီးကောင်းရင်းနှီးပါလိမ့်မယ်။ ဆဲလ်တစ်ခုကနေ ပွားလာလိုက်တာနောက်တစ်ခုပြီးတစ်ခု၊ တစ်ခုပြီးတစ်ခု၊ တစ်စတ္တန့်ပြီးတစ်စတ္တန့် ပိုပိုပြီးအလျှင်အမြန်ပွားလာတဲ့သဘောကိုနားလည်ပါလိမ့်မယ်။ ဒီလိုဆဲလ်တွေပွားလာရင်းကတဖြည်းဖြည်းအခန်းထဲမှာပြည့်သိပ်ကျပ်ညှပ်လာလိုက်တာနေရာလပ်မရှိတဲ့အထိဖြစ်လာရင် နောက်ထပ်ဘာများဆက်ဖြစ်မယ်ထင်ပါသလဲ။

အခုတော့ ဆဲလ်တွေနေရာမှာလူတွေလို့သဘောထားကြည့်ရအောင်ပါ၊ သူတို့ကိုလည်း ထပ်ညွှန်းကိန်းဆပွားနှုန်းတစ်ခုနဲ့ မျိုးပွားကြည့်ရအောင်။ ကျွန်တော်တို့အနေနဲ့ ကိုယ့်ဘာသာကိုယ်တည်တံ့ရှင်သန်နိုင်စေဖို့ ခပ်မြန်မြန်ချဲ့ထွင်ပွားများနိုင်ပါ့မလား။ လွန်ခဲ့တဲ့ထောင်စုနှစ်နှစ်ခုလောက်ကအင်္ဂလိပ်လူမျိုးစီးပွားရေးပညာရှင် ထောမတ်စ်မာလ်သပ်စ်က ကျွန်တော်တို့တွေလည်း ဒီလိုဖြစ်နေကြတယ်လို့ လက်ခံယုံကြည်ခဲ့တယ်။ သူက လူသားတွေဟာ သူတို့ရဲ့စားသောက်စရာအရင်းအမြစ်တွေရှိနေတာထက်ပိုပြီး

**အချိန်ပြဇယား:**

| ၁၇၇၆ | ၁၇၉၈ |
| --- | --- |
| အဒမ်စမစ်ရေးသားတဲ့ The Wealth of Nations စာအုပ်ထုတ်ဝေ | ထောမတ် ရောဘတ် မာလ်သပ်စ် ရေးသားတဲ့ Essay on the Principle of population စာအုပ်ထုတ်ဝေ |



တိုးပွားလာနေတယ်လို့ တွက်ပြခဲ့တယ်။ ပိုပြီးတိတိကျကျပြောရရင် လူသားတွေတိုးပွားနေတာက မြှောက်ပွားကိန်းသဘောဆောင်တယ်လို့ ဆိုတယ်။ (ဥပမာ ၂၊၄၊၈၊၁၆၊၃၂...စသဖြင့် ဆတိုးကိန်းအဖြစ်တိုးပွားနေတဲ့သဘောမျိုး) ဒါပေမဲ့ လူသားတွေအတွက် စားသောက်ရာတွေတိုးပွားနေပုံကတော့ ပေါင်းပွားကိန်းသဘောဆန်တယ်လို့ သူကဆိုတယ်။ (ဥပမာ - ၂၊၄၊၆၊၈...စသဖြင့် ပေါင်းပွားကိန်းအဖြစ်သာတိုးပွားနေတဲ့သဘောဖြစ်တယ်။)

မာလ်သပ်စ်ကိုယ်တိုင်ကသူရေးတဲ့ Essay on the Principle of Population ဆိုတဲ့စာအုပ်ထဲမှာ လူသားတွေဟာအသက်ရှင်သန်ရပ်တည်နိုင်ဖို့ အစားအစာလိုအပ်ပြီး၊ လူသားတွေဟာ လျှင်မြန်တဲ့နှုန်းတစ်ခုနဲ့ ဆတိုးတိုးပွားနေတယ်လို့ ဆိုခဲ့တယ်။ သူကအခုလိုသုံးသပ်ပြခဲ့တယ်၊

"လူဦးရေတိုးပွားနှုန်းကလူသားတွေ အတွက် ကမ္ဘာကြီးကထုတ်လုပ်ပေးနိုင်တဲ့ အစားအစာတိုးပွားထုတ်လုပ်နိုင်မှုထက် အတိုင်းအဆမဲ့ပိုများနေတယ်လို့ ကျွန်တော်ပြောလိုတယ်။ ဒါကိုထိန်းချုပ်မထားဘူးဆိုရင် လူဦးရေဟာထပ်ကိန်းဆပွားနှုန်းအချိုးနဲ့ တိုးပွားလာမှာဖြစ်တယ်။ အစားအစာကတော့ ပေါင်းပွားနှုန်းအချိုးနဲ့သာတိုးပွားနေတာဖြစ်တယ်။ ဒီလိုကိန်းဂဏန်းတွေရဲ့တိုးပွားနှုန်းမတူမှုကို နှိုင်းယှဉ်ကြည့်ရင်အဆမတန်ကွာဟမှုရှိနေတာကိုတွေ့ရမှာဖြစ်တယ်။"

သူ့အမြင်မှာတော့ လူသားမျိုးနွယ်တွေအနေနဲ့ စိတ်ပျက်ဖွယ်ရာအခြေအနေဆီကို မလွဲဧကန်ဦးတည်ရွေ့လျားနေတယ်လို့မြင်တယ်။ ကလေးမွေးဖွားနှုန်း (သူတွေးပြတဲ့နှုန်းကတော့ မယုံကြည်နိုင်လောက်အောင်ပါပဲ။) ကိုသာသတိနဲ့ ထိန်းချုပ်ပြီး မလျှော့ချခဲ့ဘူးဆိုရင် လူဦးရေထုထပ်လာမှုကို မနှစ်မြို့ဖွယ်ရာထိန်းချုပ်ဟန့်တားမှုသုံးရပ်နဲ့ သဘာဝတရားကြီးက ထိန်းချုပ်တန့်သတ်လိမ့်မယ်လို့ဆိုတယ်။ ဒီကန့်သတ်မှုသုံးရပ်ကတော့ ငတ်မွတ်မှုကပ်ဘေး၊ ရောဂါကပ်ဘေးနဲ့ စစ်မက်ဘေးတွေပဲဖြစ်တယ်။ လူတွေဟာစားသောက်စရာမရှိဖြစ်လာလိမ့်မယ်။ ပလိပ်ရောဂါ၊ ဒါမှမဟုတ် တခြားသောကာစ်ရောဂါတွေခံစားရလိမ့်မယ်။ သယံဇာတအရင်းအမြစ်တွေ ပိုပြီးရှားပါးလာတာကြောင့် တစ်ယောက်နဲ့တစ်ယောက်တိုက်ခိုက်ကြလိမ့်မယ်။

| ၁၈၀၅ | ၁၈၅၉ |
| --- | --- |
| Haileybury မှာ မာလ်သပ်စ် စီးပွားရေးပညာပါမောက္ခဖြစ်လာ | မာလ်သပ်စ်ရဲ့အတွေးအခေါ်တွေ လွှမ်းမိုးနေပြီး ချားလ်စ်ဒါဝင် ရေးသားတဲ့ On the Origin of Species စာအုပ်ထုတ်ဝေ |

ဒီလောက်ဆိုရင် မာလ်သူစီယံထောင်ချောက်ကို မာလ်သူစီယံကပ်ဘေးကြီး၊ ဒါမှမဟုတ် မာလ်သူစီယံ အကျဉ်းအကျပ်လို့ဘာကြောင့်ညွှန်းဆိုကြတယ်ဆိုတာ နားလည်လောက်ပါပြီ။ ဒီလေးနက်တဲ့ဖြေရှင်းစရာပြဿနာကြီးကို ကမ္ဘာ့လူဦးရေထိန်းချုပ်ရေးအပေါ် ထောက်ခံသူ ကျွမ်းကျင်ပညာရှင်တွေက ဒီနေ့ခေတ်အထိ မရိုးနိုင်အောင်ပြောနေကြတုန်းပါပဲ၊ ဒါဟာ လူသားမျိုးနွယ်တွေရေရှည်မတည်တံ့နိုင်တော့ဘူးဆိုတာကို သရုပ်ဖော်ပြဖို့ရာ များစွာသော သဘာဝပတ်ဝန်းကျင်ဆိုင်ရာလှုပ်ရှားမှုတွေ အနေနဲ့ လက်ခံထားတဲ့အတွေးအခေါ်တစ်ရပ်ပဲဖြစ်တယ်၊

“မားလ်သပ်စ်ကိုအကြိမ်ပေါင်းများစွာ မြေမြှုပ်သင်္ဂြိုဟ်ခဲ့ပြီးပါပြီ။ သူ့နဲ့အတူ မာလ်သူစီယံ ရှုထံ့မှုကိုပါမြှုပ်နှံခဲ့ပါတယ်။ ဒါပေမဲ့ ဂျိုးရတ်ဟာဒင် ပြောခဲ့သလိုပါပဲ မကြာခဏမြေမြှုပ် သင်္ဂြိုဟ်ခံရတဲ့ ဘယ်လိုလူမျိုးမဆို ဘယ်တော့မှ အပြီးတိုင်မသေဆုံးနိုင်ပါဘူး။”

**Herman E. Daly**

အမေရိကန်စီးပွားရေးပညာရှင်

## သီအိုရီပြဿနာတွေ

မားလ်သပ်စ်မှားခဲ့ပါတယ်။ ဒါပေမဲ့ သူမှတ်တမ်းတင်ခဲ့သလို ကမ္ဘာ့လူဦးရေဟာ သူ့အမြင့်ဆုံးလို့ ထင်ထားတဲ့ သန်း ၉၈၀ ကနေသန်းပေါင်း ၆၅၀၀ ကျော် ရှိလာခဲ့ပါပြီ။ ၂၀၅၀ခုနှစ်ရောက်ရင်တော့ သန်း ၉၀၀၀ ကျော်ရှိလာလိမ့်မယ်လို့ ခန့်မှန်းထားကြပါတယ်၊ ဒါပေမဲ့ ကမ္ဘာပေါ်ကလူများစု အနေနဲ့တော့ ပိုပြီးကောင်းကောင်းစားသောက်နိုင်၊ အရင်ကထက် ပိုကျန်းမာပြီးအသက်လည်း ပိုရှည်လာကြပါတယ်။ ဒီတော့ မားလ်သပ်စ်မှားယွင်းခဲ့တဲ့ နယ်ပယ်နှစ်ရပ်ကိုလေ့လာကြည့်ရအောင်၊

၁၊ လူသားတွေအနေနဲ့ ဒီပြဿနာတွေကိုဖြေရှင်းဖို့ နည်းပညာတွေကိုတီထွင်ဖန်တီးနိုင်ခဲ့ကြပါတယ်၊ တစ်စိတ်တစ်ပိုင်းအနေနဲ့ ကျေးဇူးတင်ရမှာကရောင်းလိုအားနဲ့ ဝယ်လိုအားဥပဒေသတွေကိုပါ။ ဒီဥပဒေသနှစ်ခုက ထုတ်လုပ်ရောင်းချသူတွေကို ပိုမိုကောင်းမွန်ထိရောက်တဲ့ စားသောက်ကုန်ထုတ်လုပ်မှုနည်းလမ်းတွေကို တီထွင်ဖန်တီးဖို့ တွန်းအားပေးခဲ့ပါတယ်၊ လယ်ယာစိုက်ပျိုးရေးဆိုင်ရာ တော်လှန်ရေးတွေကိုလည်း ဆက်တိုက်ဆိုသလိုမြင်ခဲ့ကြရပါတယ်၊ တော်လှန်ရေးတစ်ရပ်ဆင်နွှဲတိုင်းမှာ အသင့်ရနိုင်တဲ့ အရင်းအမြစ်သယံဇာတတွေက သိသိသာသာပိုတိုးလာတာတွေ့ရတယ်၊ ဈေးကွက်ရဲ့အကူအညီနဲ့ လူသားတွေဟာအစားအစာပြဿနာကိုဖြေရှင်းနိုင်ခဲ့တယ်။



၂။ လူဦးရေဟာအမြဲတမ်းဆပွားကိန်းအရှိုးနဲ့မတိုးပွားခဲ့ပါဘူး။ ကာလတစ်ခုကြာပြီးတဲ့နောက်မှာ သဘာဝတရားက ပြန်ညှိပေးတတ်တဲ့သဘောရှိတယ်။ ဆဲလ်တွေလို ပန်းကန်တစ်ချပ်လုံးပြည့်တဲ့အထိတစ်သမတ်တည်းပွားနေတာမဟုတ်ဘူး။ လူသားရဲ့သဘောက ပြည့်စုံကောင်းမွန်တဲ့အခြေအနေတစ်ရပ်ရောက်တဲ့အခါ မျိုးပွားမှုလျော့ကျလာတယ်။ မကြာသေးမီကာလကပဲ လူသားရဲ့မျိုးပွားနိုင်မှုလျော့ကျလာပြီး ဂျပန်၊ ကနေဒါ၊ ဘရာဇီးလ်၊ တူရကီနဲ့ ဥရောပနိုင်ငံအားလုံးမှာ မွေးဖွားနှုန်း

## ထောမတ်စ် ရောဘတ် မားလ်သပ်စ် ၁၇၆၆ – ၁၈၃၄

စီးပွားရေးပညာကိုစိတ်ပျက်စရာသောကစဖွဲ့အဖြစ် ထောမတ်စ်ကာလိုင်လို သဘောထားခဲ့တဲ့သူတစ်ယောက်ဖြစ်ပေမယ့် ထောမတ်စ်မေးလ်သပ်ဟာတကယ်တော့ လူသိများထင်ရှားသူ၊ ဟာသလုပ်တတ်တဲ့စရိုက်ရှိသူ၊ အပေါင်းအသင်းမင်တတ်ပြီး လူတိုင်းကို လေးလေးစားစား ဆက်ဆံတတ်သူတစ်ယောက်ဖြစ်ပါတယ်။ သူ့ရဲ့စိတ်ညစ်စရာ၊ စိတ်ပျက်စရာစီးပွားရေးပညာရပ်အတွေးအခေါ်တွေနဲ့တော့ နည်းနည်းမှမဟပ်မိပါဘူး။ သူဟာပညာတတ်ချမ်းသာကြွယ်ဝတဲ့ မိသားစုကမွေးဖွားခဲ့တာပါ။ သူ့အဖေက အတွေးအခေါ်ပညာရှင်တွေဖြစ်တဲ့ ဒေးဗစ်ဟျူမ်းတို့၊ ရူးဆိုးတို့နဲ့ ဒါကျွမ်းခင်မင်သူတစ်ယောက်ပါ။ အင်္ဂလိပ်တန်သင်းထောက်ဘုန်းတော်ကြီး လုပ်ခဲ့တဲ့ ကာလကလွဲရင် သူဟာသူ့ရဲ့ဘဝကိုစာသင်ယူတာနဲ့ စာသင်ပေးတာနှစ်ခုနဲ့ပဲ အချိန်ကုန်လွန်စေခဲ့တာ ဖြစ်ပါတယ်၊

စီးပွားရေးပညာကို ရက်ရက်စက်စက်ပြောင်းလဲလွယ်တဲ့ ပညာရပ်မျိုးလို့ မြင်ကြတာကြောင့် အဲ့ဒီခေတ်က တက္ကသိုလ်အများစုမှာ စီးပွားရေးပညာကို ဘာသာရပ်တစ်ခုသက်သက်အဖြစ် အသိအမှတ်မပြုကြဘူး။ ဒါကြောင့် မားလ်သပ်စ်ဟာသင်္ချာဘာသာရပ်ကို ကင်းဘရစ်လက်အောက်ခံ Jesus ကောလိပ်မှာသင်ယူခဲ့ပြီး၊ နောက်ပိုင်းမှာတော့ အဲဒီကျောင်းမှာပဲ သင်္ချာပြန်သင်ပေးခဲ့တယ်၊ သို့သော်လည်း ဒါဟာ ၁၉ ရာစုအစောပိုင်းကာလမှာ စီးပွားရေးပညာရပ်လို့ လူသိထင်ရှားဖြစ်လာဖို့ရာ သက်သေအထောက်အထားတစ်ရပ်ဖြစ်ခဲ့တယ်။ သူဟာကမ္ဘာ့ပထမဆုံးသော စီးပွားရေးပညာပါမောက္ခဖြစ်လာခဲ့ပြီး ဒီဘာသာရပ်ကို Hertfordshire က အရှေ့အိန္ဒိယ ကုမ္ပဏီကောလိပ်မှာ သင်ကြားပေးခဲ့တယ်။ (ဒီကျောင်းကို အခုအချိန်မှာတော့ Haileybury လို့ လူသိများတယ်၊) ၁၈၈၁ ခုနှစ်မှာတော့ ဒီဘာသာရပ်ရဲ့အရေးပါမှုကို ရှင်းရှင်းလင်းလင်းဖြစ်စေခဲ့တယ်။ အဲဒီနှစ်မှာ မားလ်သပ်စ်ရဲ့စီးပွားရေးပညာရပ်ဆိုင်ရာ ရှေ့ဆောင်တီထွင်မှုလက်ရာတွေကိုအသိအမှတ်ပြုခဲ့ပြီး Royal Society ရဲ့ fellow တစ်ယောက်ဖြစ်လာခဲ့တယ်၊

ကျဆင်းလာတာကြောင့်လူဦးရေကျဆင်းမှုကို လိုက်လျောက်တဲ့ ကားဆီးမှုတွေမလုပ်နိုင်ခဲ့ကြဘူး။ သက်တမ်းပိုရှည်လာလို့ လူဦးရေထဲမှာတဖြည်းဖြည်းနဲ့ အသက်အရွယ်ကြီးရင့်သူတွေ ပိုများလာနေတယ်။ ဒါပေမဲ့ ဒီအကြောင်းကတော့ သက်သက်ဆွေးနွေးရမယ့်ပြဿနာပါ (အခန်း ၃၂ ကို ကြည့်ပါ)။

စီးပွားရေးသမိုင်းပညာရှင် Gregory Clark ကတော့ ဝိရောဓိဖြစ်စရာကောင်းတဲ့သူရဲ့ A Farewell to Alms စာအုပ်မှာအခုလိုရေးထားခဲ့တယ်၊ တကယ်တော့ ၁၇၉၀ ပြည့်နှစ်မတိုင်ခင်အထိ လူတွေဟာ မာလ်သူစီယံထောင်ချောက်မှာပိတ်မိနေခဲ့တယ်၊ ဒါပေမဲ့ အဲဒီနောက်ပိုင်းမှာ အကြောင်းတရားမျိုးစုံပေါင်းဝင်တွေမှုကြောင့် အင်္ဂလန်ဟာထောင်ချောက်ကလွတ်မြောက်ခဲ့တယ်။ အဲ့ဒီပေါင်းစပ်မှုထဲမှာ ရောဂါဘယတွေကြောင့် သေဆုံးခဲ့ရတဲ့ ဆင်းရဲသားတွေရဲ့ ကံကြမ္မာဆိုးတွေ၊ အထက်တန်းတန်းနဲ့ လူလတ်တန်းစားကလေးတွေကနေသူတို့နေရာမှာအစားထိုးဝင်ရောက်နေရာယူပေးရမယ့် လိုအင်ချက်တွေ (အောက်သက်သို့လူမှုရွှေ့လျားမှု)နဲ့ ဒီလိုလူတန်းစားတွေရဲ့အလုပ်ကြိုးစားမှုမှာ အထုံပါလာမှုဆိုတဲ့ အကြောင်းတရားတွေပါဝင်တယ်၊ ကမ္ဘာကြီးရဲ့နယ်မြေအစိတ်အပိုင်းအတော်များများကတော့ ဒီလိုတွေ ကြုံစံစားခြင်းမရှိသေးဘဲနဲ့ ထောင်ချောက်ထဲမှာပဲ ပိတ်မိနေတုန်းရှိနေသေးတယ်လို့ သူက အခိုင်အမာဆိုတယ်၊

ဒါပေမဲ့ လုံးဝမှားယွင်းမှုမရှိတဲ့အရာကတော့ မာသူစီယံနစ်ဇင်အခြေခံထားတဲ့ law of diminishing returns ဆိုတဲ့ သီအိုရီပဲဖြစ်တယ်။ ဒီသီအိုရီမှာ စီးပွားရေးလုပ်ငန်းတွေအတွက် အရေးကြီးတဲ့ သင်ခန်းစာတွေပါဝင်တယ်။ စီးပွားရေးလုပ်ငန်းတစ်ခု၊ ဒါမှမဟုတ် စက်ရုံတစ်ရုံအကြောင်းစဉ်းစားကြည့်ရအောင်၊ ပိုင်ရှင်သူဌေးအနေနဲ့ တစ်ပတ်ကိုဝန်ထမ်းတစ်ယောက်ထပ်ခန့်ဖို့ဆုံးဖြတ်ထားတယ်၊ အစပိုင်းမှာဝန်ထမ်းတစ်ယောက်တိုးလာတိုင်းထုတ်လုပ်မှုကမြန်းစနဲ့ခုန်တက်သွားတယ်။ သိတင်းပတ်အနည်းငယ်ကြာပြီးတဲ့နောက်မှာတော့ နောက်အလုပ်သမားသစ်တစ်ယောက်ထပ်ခန့်လိုက်တိုင်းမှာ အရင်လူလောက် ထုတ်လုပ်မှုမတိုးလာတော့တဲ့ အနေအထားရောက်လာတယ်။ တိတိကျကျသတ်မှတ်ထားတဲ့လုပ်ငန်းခွင်အရွယ်အစားအတွက်၊ ဒါမှမဟုတ် တိတိကျကျသတ်မှတ်ထားတဲ့ စက်အရေအတွက်နဲ့ အလုပ်လုပ်ဖို့ရှိတဲ့အခါမျိုးမှာ လက်အပိုတစ်စုံကအများကြီးခြားနားသွားအောင်လုပ်နိုင်ရုံလောက်ပါပဲ၊

### ကမ္ဘာပျက်မယ့် နေ့ရက်လား

အနောက်ကမ္ဘာလို့ ကျွန်တော်တို့လွယ်လွယ်ခေါ်တဲ့ (ဥရောပ၊ အမေရိကန်ပြည်ထောင်စု၊ ဂျပန်နဲ့ လက်တစ်ဆုပ်စာ စီးပွားရေးဖွံ့ဖြိုးပြီးနိုင်ငံတွေ) ဟာ မာလ်သူစီယံထောင်ချောက်က ရုန်းထွက်နိုင်ခဲ့ကြတယ်။ သူတို့ ရုန်းထွက်ခဲ့ကြတာက စိုက်ပျိုးထွက်ကုန်ထုတ်လုပ်နိုင်စွမ်းအားကို မြှင့်တင်ရင်းနဲ့ တစ်ပြိုင်



နက်တည်းမှာပဲ သူတို့ဟာ ချမ်းသာကြွယ်ဝလာခဲ့ကြသလို သားသမီးအရေအတွက်လည်း ပိုပြီးနည်းပါးလာခဲ့ကြတာကြောင့်ဖြစ်တယ်၊ ခေတ်မီနည်းပညာတီထွင်မှုတွေက စက်မှုတော်လှန်ရေးကို မွေးဖွားပေးခဲ့ပြီး နောက်ဆုံးမှာတော့ ချမ်းသာကြွယ်ဝမှုကိုမြှင့်တင်နိုင်ခဲ့သလို ကျန်းမာရေးအဆင့်အတန်းကိုလည်း ပိုပြီးမြင့်မားလာစေခဲ့တယ်၊ ဒါပေမဲ့ ကံမကောင်းအကြောင်းမလှစွာဘဲ ဒီထောင်ချောက်ထဲ ပိတ်မိနေဆဲ ကမ္ဘာကြီးရဲ့ အစိတ်အပိုင်းတွေကလည်း ရှိနေတုန်းပါပဲ၊

ဆဟာရသဲကန္တာရတောင်ပိုင်းမှာရှိတဲ့ အာဖရိကနိုင်ငံအများအပြားမှာလယ်မြေတွေကအစားအစာထွက်ရှိမှုနည်းပါးလွန်းလို့ လူများစုဟာချောင်းစရာအပိုအလျှံမရဘဲဝမ်းစာလောက်ပဲရတဲ့လယ်တွေမှာလုပ်ကိုင်နေကြရတယ်။ သူတို့အစို့ သီးနှံ တွေပိုစိုက်ပျိုးဖို့ ခေတ်မီနည်းပညာတွေသုံးပြီးလယ်ယာထုတ်ကုန်တွေကို တိုးမြင့်ခဲ့တဲ့အခါ သူတို့ရဲ့လူဦးရေပမာဏကလည်းလိုက်ပြီးပေါင်းပွလာခဲ့တယ်။ သီးနှံအထွက်ညံ့တဲ့နှစ်တွေမှာမကြာခဏဆိုသလိုလိုက်ပါလာတတ်တဲ့ ဝေမ်ွတ်မှုကပ် ဘေးကြီးတွေကသီးနှံအထွက်ကောင်းတဲ့ နှစ်တွေမှာတိုးပွားလာမယ့် သူတို့ရဲ့လူဦးရေနဲ့ ချမ်းသာကြွယ်ဝလာမှုတွေကိုမတိုးလာအောင် ထိန်းထားပေးတယ်၊

### ကမ္ဘာပျက်မယ့် အချိန်လား

မာလ်သူစီယံလက်သစ်တွေကတော့ လူသားရဲ့စဉ်းစားဆင်ခြင်နိုင်တဲ့ဦးနှောက်ကကမ္ဘာပျက်ကပ်ကြီးကို ရာစုနှစ်နှစ်စုကျော်ကြာ နှောင့်နှေးအောင်ဆိုင်းထားနိုင်ပေမယ့် အခုအချိန်မှာတော့ ကျွန်တော်တို့တွေဟာ နောက်ထပ်ခြောက်ကမ်းပါးစွန်းတစ်ခုထိပ်ကို ရောက်နေပြီလို့ ဆိုတယ်။ ဟားလ်သင်ရဲ့ထောက်ပြ ဝေဖန်မှုက အစားအစာကို ဇဟိုပြုအဓိကထားတာဖြစ်ပေမယ့် နောက်တစ်ယောက်အနေနဲ့ ဒီနေရာမှာ လူသားရဲ့အဓိကအထောက်အပံ့အဖြစ်ရှိနေတဲ့ ရေနံနဲ့စွမ်းအင်ကို လွယ်လွယ်လေးအစားထိုးလိုက်ရုံပါပဲလို့ သူတို့က အခိုင်အမာပြောပါတယ်။ ရေနံထုတ်လုပ်မှုက ထိပ်ဆုံးမှတ်အထိရောက်နေပြီး တဖြည်းဖြည်းကျန်လာနေပြီဖြစ်သလို ကမ္ဘာ့လူဦးရေကလည်း ဆက်ပြီးမထိန်းထားနိုင်တဲ့ အနေအထားကို မကြာမီ ရောက်လာတော့မှာဖြစ်ပါတယ်။ ဒီကနေ့အချိန်အထိ ဟားလ်သင်မှန်ကန်ကြောင်း သက်သေပြနိုင်ခြင်း တနေ တားဆီးထားတဲ့ နည်းပညာတိုးတက်မှုတွေ၊ ဒါမှမဟုတ် လူဦးရေထိန်းချုပ်မှုတွေက အထောက်အကူပြုနိုင်ဦးမလားဆိုတာကိုတော့ ဆက်လက်စောင့်ကြည့်ရဦးမှာဖြစ်ပါတယ်၊

အနှစ်ချုပ်အတွေးအခေါ်

**အဘောမသတ်နိုင်တဲ့ လူဦးရေတိုးပွားမှုကို အလေးဂရုပြု**

# ၀၄ – အခွင့်အလမ်းစရိတ်

## Opportunity Cost

**ခင်ဗျားတို့အနေနဲ့ ချမ်းသာကြွယ်ဝပြီး ဩဇာတိက္ကမ ရှိကောင်းရှိတဲ့တိုင်အောင် လိုချင်တာမှန်သမျှကိုလုပ်ဖို့ လုံလောက်တဲ့အချိန်နာရီတွေကို တစ်နေ့အတွင်းမှာ ဘယ်တော့မှ ရှာနိုင်မှာမဟုတ်ပါဘူး။ စီးပွားရေးပညာက ဒီပြဿနာကို အခွင့်အလမ်းစရိတ်ဆိုတဲ့ အယူအဆကနေ ကိုင်တွယ်ဖြေရှင်းတယ်။ အခွင့်အလမ်းစရိတ်ဆိုတာ ရိုးရိုးရှင်းရှင်းပြောရရင် တစ်စုံတစ်ယောက်ရဲ့ အချိန်တွေ၊ ဒါမှမဟုတ် ငွေတွေကို တခြားတစ်စုံတစ်ခုအပေါ်မှာ ပိုပြီးကောင်းအောင် သုံးစွဲနိုင်မလားဆိုတာကို ရည်ညွှန်းခေါ်ပြတာပဲ ဖြစ်တယ်။**

ကျွန်တော်တို့ရဲ့အချိန်နာရီတိုင်းမှာ တန်ဖိုးတစ်ရပ်ရှိပါတယ်၊ အလုပ်တစ်ခုမှာ ကျွန်တော်တို့လုပ်နေတဲ့ တစ်နာရီတိုင်းအတွက် တခြားအလုပ်တစ်ခုကို လွယ်လွယ်ကူကူပြောင်းလုပ်နိုင်သလို၊ အိပ်ချင်လည်းအိပ်နိုင်၊ တီဗီကြည့်ချင်လည်း ကြည့်နိုင်ပါတယ်၊ ဒီလိုရွေးချယ်မှုတစ်ခုချင်းစီမှာ မတူညီတဲ့အခွင့်အလမ်းစရိတ်တစ်ခု ရှိပါတယ်။ တိတိကျကျပြောရရင်တော့ ဒါဟာအခွင့်အလမ်းများစွာကို ကျွန်တော်တို့ လွှဲချော်လိုက်ရလို့ နစ်နာဆုံးရှုံးရတဲ့တန်ဖိုးပါပဲ။

ခင်ဗျားအနေနဲ့ ဘောလုံးပွဲတစ်ပွဲကြည့်ဖို့ ရည်ရွယ်ထားပေမယ့် လက်မှတ်တွေကလည်း ဈေးကြီး ပြီးတော့ ဘောလုံးကွင်းအသွားအပြန်အတွက်အချိန်ကလည်း နှစ်နာရီထက် မနည်းကုန်မယ်ဆိုပါစို့။ ဒီဘောလုံးပွဲကို အိမ်ကနေပဲထိုင်ကြည့်ပြီး ကျန်တဲ့ငွေနဲ့အချိန် (ဘောလုံးပွဲအချိန်ကိုဆိုလိုတာမဟုတ်ဘဲ၊ ဘောလုံးကွင်းအသွားအပြန်အတွက် လမ်းမှာကြာသောအချိန်)ကို သူငယ်ချင်းတွေနဲ့ ညစာစားလိုက်မယ်ဆိုတာမျိုး

**အချိန်ပြဇယား**

| ၁၇၇၆ | ၁၇၉၈ |
|---|---|
| အဒမ်စမစ်ရေးသားတဲ့ The Wealth of Nations စာအုပ်ထုတ်ဝေ | သောမတ်ရောဘတ် မားလ်သပ်စ်ရေးသားတဲ့ Essay on the Principle of Population စာအုပ်ထုတ်ဝေ |



" ယေဘုယျအနေနဲ့ လူအပွဲအစည်း ရှုထောင့်ကကြည့်ရင် တစ်ခုခုအတွက် ကုန်ကျစရိတ်ဆိုတာ သူ့ကို တခြားအသုံးချရာမှာ ရရှိမယ့်တန်ဖိုးပါပဲ။ "

ဟောမက်စ် ဆိုဝဲလ်
အမေရိကန်စီးပွားရေးပညာရှင်

ဘာကြောင့် မတွေးမိနိုင်ရမှာတုန်း။ ဒီလိုလုပ်တာဟာ ခင်ဗျားရဲ့ငွေနဲ့အချိန်ကို အခြားတစ်နည်းနဲ့ အသုံးပြုတာပဲဖြစ်ပြီး၊ ဒါဟာအခွင့်အလမ်းစရိတ်ပဲဖြစ်တယ်။

တခြားဥပမာတစ်ခုပေးရရင် တက္ကသိုလ်တက်၊ မတက် စဉ်းစားတာမျိုးပေါ့။ တစ်ဖက်မှာက ကုန်ဆုံးရတဲ့နှစ်တွေအတွက် အသိဉာဏ်ပညာပိုင်းမှာရော၊ လူမှုရေးပိုင်းမှာပါ ထိုက်ထိုက်တန်တန် အကျိုးခံစားခွင့်တွေရမှာဖြစ်တယ်။ ဘွဲ့ရပညာတတ်တွေဟာ ပိုမိုကောင်းမွန်တဲ့ အလုပ်အကိုင်အခွင့်အလမ်းတွေကိုလည်း ရရှိကြတယ်ပါတယ်။ အခြားတစ်ဖက်ကကြည့်ရင်တော့ တက္ကသိုလ်တက်ရင် ကျူရှင်စရိတ်၊ စာအုပ်ဖိုးနဲ့ ကျောင်းစရိတ်တွေရှိမှာဖြစ်တယ်။ ဒါပေမဲ့ ဒါဟာအခွင့်အလမ်းစရိတ် မဟုတ်သေးပါဘူး။ အခွင့်အလမ်းစရိတ်က တက္ကသိုလ်မှာရှိနေမယ့် သုံးနှစ်၊ သို့မဟုတ် လေးနှစ်ဘာကာလအတွက် တက္ကသိုလ်မတက်ဘဲ ခင်ဗျားအနေနဲ့ ငွေရမယ့်အလုပ်တစ်ခုခု အလွယ်တကူလုပ်နိုင်မယ်၊ အဲ့ဒီအလုပ်ကပိုက်ဆံရမယ်၊ ပြီးတော့ ခင်ဗျားရဲ့ အလုပ်လျှောက်လွှာမှာ တန်ဖိုးရှိတဲ့အလုပ်အတွေ့အကြုံကို ထပ်ဖြည့်နိုင်မှာပဲဖြစ်တယ်။

### ဖွန့်လွှတ်ထားခဲ့ရတဲ့ အခွင့်အလမ်းများ

အခွင့်အလမ်းစရိတ်ဆိုတဲ့ အယူအဆဟာ လူတစ်ဦးချင်းစီအတွက် အရေးကြီးသလိုပဲ၊ စီးပွားရေးလုပ်ငန်းတွေအတွက်လည်း အရေးကြီးပါတယ်။ ဗိနပ်စက်ရုံတစ်ရုံဆိုကြပါစို့။ ပိုင်ရှင်ကသူ့စက်ရုံရဲ့ သားရေဖိနပ်ထုတ်လုပ်မှုနှုန်းကို သိသိသာသာတက်စေမယ့်

| ၁၈၁၇ | ၁၈၈၉ |
|---|---|
| ဒေးဗစ်ရီကာဒိုရေးသားတဲ့ Principles of Political Economy and Taxation စာအုပ်ထုတ်ဝေ | Friedrich von Wieser က အခွင့်အလမ်းစရိတ်အယူအဆကို စနစ်တကျသတ်မှတ်ထုတ်ဖော် |

ဝက်အသစ်တစ်လုံးဝယ်ဖို့ ငွေငါးသိန်းရင်းနှီးမြှုပ်နှံဖို့ ဗီစဉ်တယ်။ ဒီပိုက်ဆံတွေကို အေးအေးဆေးဆေး ဘဏ်ငွေစာရင်းထဲသာထည့်ထားလိုက်ရင် တစ်နှစ်ကိုငါးရာခိုင်နှုန်းအတိုးရမှာ ဖြစ်တယ်။ ဒါကြောင့် ဒီရင်းနှီးမြှုပ်နှံမှုရဲ့အခွင့်အလမ်းဝရိတ်ကတစ်နှစ်ကို နှစ်သောင်းခွဲဖြစ်တယ်။ စက်အသစ်ဝယ်ဖို့ရင်းနှီးလိုက်ရတာကြောင့် ဒီအတိုးရမယ့်ငွေကိုစွန့်လွှတ်ထားလိုက်ရတယ်။

### ငွေရှာခြင်း

ကစားပွဲတစ်ပွဲမှာ အသင်းမှားပြီး အလောင်းအစားလုပ်ထားမိတဲ့အခါ ဒါမှမဟုတ် ငွေတစ်သန်းလောက်ရရမယ့်ဟာကို အရင်းအနှီးတွေပြန်ထုတ်လိုက်မိလို့ မရတော့ဘဲ ဆုံးရှုံးရတော့မယ့်အခါမျိုးတွေမှာ စိတ်မသက်မသာခံစားကြရတဲ့ အတွေ့အကြုံမျိုးကို ကျွန်တော်တို့အများစုတွေ့ကြုံခဲ့ကြဘူးပါတယ်၊ ဒီလိုမသက်မသာခံစားရတာဟာ တကယ့်ကိုအခွင့်အလမ်းစရိတ်သဘောပါပဲ။ ဆိုလိုတာက လွဲချော်သွားတဲ့ အခွင့်အလမ်းပေါ့။ ၁၉၀၀ ပြည့်နှစ်မှာ UK အစိုးရရဲ့ တစ်ပေါင်တန်အာမခံငွေတိုက်ချေးငွေစာချုပ်ကို ဝယ်ပြီး ရင်းနှီးမြှုပ်နှံထားတယ်လို့ စဉ်းစားကြည့်ရအောင်။ နှောင်နှစ်တစ်ရာကြာတဲ့အခါမှာ ဒီစာချုပ်က ပေါင် ၁၄၀ တန်နေပါပြီ။ ငွေတစ်ပေါင်ရဲ့ ဖေါင်းပွမှုနှုန်းကို ခြေရာခံကြည့်တဲ့အခါ ၅၄ ပေါင်လောက်တန်နေပြီဆိုတာတွေ့ရမှာဖြစ်တယ်၊ ဒါပေမဲ့ အကယ်၍သာ ဒီငွေတစ်ပေါင်ကို UK အီကွီတီထဲမှာသာ ရှယ်ယာထည့်ဝင်မှုလုပ်ထားခဲ့မိရင် သူ့တန်ဖိုးက နှစ်ပေါင်းတစ်ရာကြာတဲ့အခါ ၁၆၉၄၆ ပေါင် တန်ကြေးဖြစ်နေပြီဆိုတာတွေ့ရမှာဖြစ်တယ်၊ ဒီဖြစ်ရပ်မှာ ရှယ်ယာထည့်ဝင်ရင်းနှီးမြှုပ်နှံဖို့ ပျက်ကွက်ခဲ့တဲ့အခွင့်အလမ်းစရိတ်က အလွန့်အလွန် ကြီးမားတဲ့ပမာဏဖြစ်သွားပြီဆိုတာတွေ့ရမှာပါ။

အိမ်တစ်လုံးဝယ်တဲ့အခါ အခွင့်အလမ်းဝရိတ်ဘယ်လောက်ဖြစ်မယ်ဆိုတာတော့ ပိုပြီးကြိုတင်ဟောကိန်းထုတ်ရခက်သွားပါတယ်။ အိမ်ဈေးတွေမြန်မြန်တက်ရင်တော့ အိမ်ဝယ်မယ့်အစား ငှားနေမိသူတွေကို ချမ်းသာမှာကြောက်တဲ့သူတွေလို့ ပြောနိုင်တာပေါ့။ ဒါပေမဲ့ အိမ်ဈေးတွေကျရင်တော့ ဒီအရက်ကိုအိမ်ငှားနေသူတွေက မခံရလို့ ဒီလိုဆုံးဖြတ်တာက ပိုကောင်းတယ်လို့ ပြောနိုင်မှာပါပဲ။ အလားတူ ထင်ရှားတဲ့သဘောတစ်ခုကတော့ ကိုယ့်ပိုက်ဆံတွေကို ဘဏ်မှာသွားအပ်ထားလိုက်မိတဲ့အခါ တစ်ခြားနေရာတစ်ခုမှာရင်းနှီးမြှုပ်နှံလိုက်လို့ ရလာမယ့်အကျိုးအမြတ်တွေကို စွန့်လွှတ်နေရတာမျိုးပဲ ဖြစ်ပါတယ်။



စီးပွားရေးပညာရှင်တွေအဖို့တော့ ဆုံးဖြတ်ချက်တိုင်းကို ငွေကြေး၊ ပျော်ရွှင်မှုတို့နဲ့ ချိန်ဆပြီး ရယူနိုင်ဖို့ရာ စွန့်လွှတ်ရမယ့်အရာကို ပညာဉာဏ်နဲ့ ထိန်းချုပ်စေတယ်၊ ကိုယ်ရရှိမယ့်အရာနဲ့ ကိုယ်ဆုံးရှုံးရမယ့်အရာကို တိတိကျကျသိခြင်းအားဖြင့် ခင်ဗျားအနေနဲ့ ပိုပြီးအသိအမြင်များလာမှာ ဖြစ်သလို ပိုပြီးဆင်ခြင်တုံတရားရှိတဲ့ဆုံးဖြတ်ချက်တွေကိုချမှတ်နိုင်ပါလိမ့်မယ်။

"ဒီနေရာမှာ လုံးဝကုန်ကျစရိတ်မရှိတဲ့ နေ့လယ်စာဆိုတာမရှိပါဘူး" ဆိုတဲ့ အကျော်ကြားဆုံး စီးပွားရေးပညာဆိုင်ရာစည်းမျဉ်းဥပဒေသတစ်ခုကို စဉ်းစားကြည့်ရအောင်ပါ။ အကယ်၍ လူတစ်ယောက်က ခင်ဗျားကို နေ့လယ်စာကျွေးဖို့ ကမ်းလှမ်းတဲ့အခါ ခင်ဗျားအနေနဲ့ ဒီလိုနေ့လယ်စာလိုက်သုံးဆောင်တဲ့အပေါ် သူ့ကိုဘာမှပြန်ပေးဖို့မလိုဘူး။ ယုတ်စွအဆုံး နေ့လယ်စာစားရင်း သူနဲ့စကားမြည်ပြောတာမျိုးတောင် မလုပ်ရင်ရတယ်ဆိုပါစို့။ ဒီနေ့လယ်စာဟာ လုံးဝကုန်ကျစရိတ်မရှိတဲ့ နေ့လယ်စာတော့ မဖြစ်သေးပါဘူးလို့ဆိုတယ်။ ဘာဖြစ်လို့လဲဆိုတော့ စွန့်လွှတ်လိုက်ရတဲ့အခွင့်အလမ်းတွေဆိုတဲ့ သဘောတရားအရ ခင်ဗျားအနေနဲ့ စားသောက်ဆိုင်မှာကုန်ဆုံးလိုက်ရတဲ့ အချိန်တွေအတွက် ကုန်ကျစရိတ်တစ်တော့ ရှိနေဦးမှာကြောင့်ပါပဲ၊

❝ တစ်စုံတစ်ခုရဲ့စရိတ်ဆိုတာ ဒါကိုရဖို့ ကိုယ်စွန့်လွှတ်လိုက်တဲ့ အရာပါပဲ။ ❞

**Greg Mankiw**
ဟားဗတ်စီးပွားရေးပါမောက္ခ

တချို့လူတွေကအခွင့်အလမ်းစရိတ်ဆိုတဲ့အတွေးအခေါ်ကိုအလွန့်အလွန်စိတ်ပျက်စရာအဖြစ် မြင်တာတွေလည်းရှိပါတယ်၊ ကိုယ့်ရဲ့အချိန်တွေကို တခြားတစ်နေရာရာမှာ သုံးစွဲခြင်းကပိုပြီး အမြတ်အစွန်းရမရ၊ ပိုပြီးကျေနပ်ပျော်ရွှင်ဖွယ်ကောင်းမကောင်း တွက်ချက်ရင်းနဲ့ ကိုယ့်ရဲ့ဘဝတစ်ခုလုံးကို အချိန်ကုန်ဆုံးနေရတဲ့ဘဝမျိုးကိုစိတ်ကူးကြည့်လိုက်ပါလို့ သူတို့ကဆိုပါတယ်။ ဒါပေမဲ့ ကျွန်တော်တို့အနေနဲ့ ဆုံးဖြတ်ချက်တွေချမှတ်တဲ့အခါတိုင်း သတိရှိရှိနဲ့ အကျိုးအပြစ်ကို ချင့်ချိန်တတ်တာမျိုးကတော့ လူ့သဘာဝပဲလို့ ဆိုရမှာပါ။

စီးပွားရေးလောကထဲမှာ လူသိများတဲ့ ကြွေးကြော်သံတစ်ခုက "ပိုက်ဆံအတွက်တန်ဖိုး" တဲ့။ ဆိုလိုတာကလူတွေဟာ သူတို့ရဲ့ငွေသားတွေကို ထတ်နိုင်သမျှ တန်ဖိုးတက်စေချင်ကြတယ်။ ဒါပေမဲ့ အတော်လေး လျှင်လျှင်မြန်မြန် ကျော်ကြားလာတဲ့ နောက်ကြွေးကြော်သံတစ်ခုလည်း



ရှိသေးတယ်။ "အချိန်အတွက်တန်ဖိုး" တဲ့။ ကျွန်တော်တို့ရဲ့အရင်းအမြစ်တွေအပေါ် အကြီးမားဆုံးအကန့်အသတ်က ကျွန်တော်တို့တစ်ခုခုလုပ်ဖို့ပေးအပ်ထားတဲ့အချိန်တွေပဲ။ ဒါကြောင့် ကျွန်တော်တို့မြှုပ်နှံလိုက်ရတဲ့အချိန်တွေအပေါ် ကျွန်တော်တို့ပြန်ရလာမယ့်အရာကို အများဆုံးဖြစ်ဖို့ ကြည့်တတ်ကြတယ်။ အစုဒီအခန်းကို ခင်ဗျားဖတ်ဖို့ အချိန်နည်းနည်းတော့ ပေးရလိမ့်မယ်၊ ဒီလိုပေးရတဲ့အချိန်တွေမှာ ခင်ဗျားအနေနဲ့ အိပ်တာ၊ စားတာ၊ ရုပ်ရှင်ကြည့်တာ စသဖြင့် တခြားတစ်ခုခုလုပ်နေနိုင်တယ်၊ ဒါပေမဲ့ အပြန်အလှန်ပြောရရင် အစုဒီအခန်းကိုခင်ဗျားဖတ်လိုက်တဲ့အတွက် ဒီအခန်းကခင်ဗျားကို စီးပွားရေးပညာရှင်တစ်ယောက်လို တွေးခေါ်တတ်ဖို့ ခင်ဗျားရဲ့ဆုံးဖြတ်ချက်တွေနဲ့ပတ်သက်တဲ့ အခွင့်အလမ်းစရိတ်တွေကို ထည့်စဉ်းစားတတ်ဖို့ အကူအညီပေးမှာဖြစ်တယ်။

## အိမ်ကအခွင့်အလမ်းစရိတ်

အခွင့်အလမ်းစရိတ်ဆိုတာကို ကျွန်တော်တို့ သိသိ၊ မသိသိ၊ ကျွန်တော်တို့အနေနဲ့တော့ ဆုံးဖြတ်ချက်တွေ ရှုမှတ်တိုင်းမှာ ဒီအယူအဆပေါ်အခြေခံပြီးဆုံးဖြတ်နေကြတာပါပဲ။ တကယ်လို့များ ခင်ဗျားအိမ်ကရေပိုက်ကရေတွေယိုနေတယ်ဆိုပါစို့။ ဒီပြဿနာကို ဖြေရှင်းဖို့ ခင်ဗျားကိုယ်တိုင်အရင်ဆုံးဖြတ်ရတော့မယ်။ ရေပိုက်ပြင်တဲ့ ပစ္စည်းပစ္စယတွေနဲ့ ရေပိုက်ပြင်နည်းစာအုပ်ဝယ်ပြီး ကိုယ့်ဘာသာပြင်မယ်ဆိုရင် ရေပိုက်သမားခေါ်ပြင်တာထက် ပိုပြီးငွေကြေးအကုန်အကျသက်သာတယ်လို့ ခင်ဗျားကထင်နေတယ်။ ဒါပေမဲ့ ဒီနေရာမှာ မမြင်ရတဲ့ အပိုကုန်ကျစရိတ်ကရှိနေတယ်။ ရေပိုက်သမားနဲ့ပြင်လိုက်ရင် ခင်ဗျားပြင်တာထက်ပိုကောင်းတဲ့လက်ရာကိုရနိုင်မယ့်အပြင် ဒီထက်လည်းအချိန်ကုန်သက်သာနိုင်ပါတယ်။ ဒီလိုတွေးခေါ်ပုံမျိုးက နှိုင်းရအကျိုးသီအိုရီ (Comparative advantage) နဲ့လည်း အတော်လေးနီးစပ်တယ် (အခန်း ၇ ကိုကြည့်ပါ)။

## အစိုးရရဲ့အခွင့်အလမ်းစရိတ်

ကမ္ဘာတလွှားက အစိုးရတွေဟာလည်း လုပ်ငန်းတွေကို ပုဂ္ဂလိကပိုင်လုပ်တဲ့အခါ အခွင့်အလမ်းစရိတ်ဆိုင်ရာ အငြင်းအခုံတွေလုပ်ကြရပါတယ်၊ ဒီလိုပုဂ္ဂလိကပိုင်လုပ်လိုက်ခြင်းကြောင့် အများပြည်သူဝန်ဆောင်မှုလုပ်ငန်းတွေဟာ ပုဂ္ဂလိကကဏ္ဍမှာ ပိုပြီးကောင်းမွန်စွာလည်ပတ်နိုင်ရုံသက်သက်လောက်နဲ့တင်မကဘဲ၊ ပုဂ္ဂလိကပိုင်အဖြစ် ရောင်းချလိုက်တာကြောင့်



ရလာတဲ့ ငွေကြေးတွေကို အများပြည်သူအတွက် ပိုထိရောက်တဲ့ ရင်းနှီးမြှုပ်နှံမှုတွေ လုပ်ဆောင်နိုင်တယ်လို့ အစိုးရတွေက အကြောင်းပြကြတယ်။

ဒါပေမဲ့လို့ အခွင့်အလမ်းစရိတ်အပေါ်ကြည့်တဲ့အမြင်အရ ဆုံးဖြတ်ချက်တွေဟာလည်း တစ်ခါတစ်ရံမှားယွင်းသွားနိုင်ပါတယ်။ ၁၉၉၉ ခုနှစ်မှာ ဗြိတိသျှဝန်ကြီးချုပ် ဂေါ်ဒွန် ဘရောင်းက သူ့နိုင်ငံရဲ့ ရွှေတန် ၄၀၀ နီးပါးကို ရောင်းထုတ်ဖို့ ဆုံးဖြတ်ခဲ့ပါတယ်။ ဒီရွှေတွေဟာ သူ့နိုင်ငံမှာ အရန်စုဆောင်းထားတဲ့ရွှေတွေထဲက အလွန်များပြားတဲ့ပမာဏပဲဖြစ်ပါတယ်၊ ဒီနေရာမှာ သိထားရမှာက ဒီရွှေတွေဟာအင်္ဂလန်ဘဏ်ရဲ့မြေတိုက်ခန်းတွေထဲမှာ နှစ်ပေါင်းများစွာ မထိမတို့ ဘာမှမလုပ်ဘဲ ဒီအတိုင်းထားထားခဲ့တာဖြစ်တယ်၊ လူတွေက ရွှေဆိုတာ ဆင်းရဲသားတွေရဲ့ရင်းနှီးမြှုပ်နှံမှုလို့ သဘောထားကြတာကြောင့် သူ့ရဲ့တန်ဖိုးဟာလည်း ကျဆင်းနေခဲ့တယ်၊ ဘွန်းစာချုပ်လို အစိုးရအာမခံစာချုပ်တွေမှာ အလားတူရင်းနှီးမြှုပ်နှံခဲ့တဲ့ ငွေသားတန်ဖိုးက ဒီလောက်ကြာရှည်တဲ့ကာလတွေအတွင်းမှာ တန်ဖိုးမှန်မှန်တက်နေတာတွေရှိမှာဖြစ်တယ်၊ ဒါကြောင့် UK ငွေတိုက်က ဒီရွှေတွေကို ပျမ်းမျှတစ်အောင်စ ၂၇၆ ဒေါ်လာနဲ့ ရောင်းထုတ်ပြီးတခြားဘွန်းစာချုပ်အမျိုးမျိုးနဲ့ ဖလှယ်ထားဖို့ ဆုံးဖြတ်ခဲ့တယ်၊

နောက်ဆယ်စုနှစ်တစ်စုကျော်ကာလမှာ ရွှေဈေးတွေ ထိုးတက်လာပြီးတစ်အောင်စကို ၉၈၁ ဒေါ်လာလောက်ဖြစ်လာမယ်ဆိုတာကို လူတော်တော်များများက ကြိုမမြင်နိုင်ခဲ့ကြပါဘူး။ ဒီတော့ကာ ဂေါ်ဒွန်ဘရောင်း ရောင်းချခဲ့တဲ့ ဒေါ်လာ ၃.၅ ဘီလီယံဟာ အခုအချိန်မှာတော့ ဒေါ်လာ ၁၂.၅ ဘီလီယံလောက်တန်နေခဲ့ပါပြီ၊ UK အစိုးရဟာ ဒီလိုရွှေတွေရောင်းချပြီး ရင်းနှီးမြှုပ်နှံမှုတွေ လုပ်ခဲ့တာကနေ အကျိုးအမြတ်တချို့ရခဲ့ပါတယ်။ ဒါပေမဲ့ ရွှေတွေကို ဒီတိုင်းထားပြီးနောက်မှ ရောင်းရင်ရလာမယ့် အကျိုးအမြတ်နဲ့တော့ မနှိုင်းယှဉ်သာပါဘူး။ ဒီဖြစ်ရပ်ဟာအခွင့်အလမ်းစရိတ်ရဲ့ အန္တရာယ်ရှိမှုတွေထဲက တစ်ခုကို ဖော်ပြခဲ့တာဖြစ်ပြီး မြက်ခင်းဟာ အမြဲစိမ်းနေတယ်ဆိုတာ ခင်ဗျားယုံအောင်တွန်းအားပေးလိုက်တဲ့ဖြစ်ရပ်တစ်ခုပါပဲ။

အနှစ်ချုပ်အတွေးအခေါ်

**အချိန်ဟာ ငွေပဲ**

# ၀၅ - မက်လုံးများ
## Incentives

**Coral Spring ဟာ ဂျမေကာနိုင်ငံမှာ လှသိနည်းပြီး ထူးခြားဆန်းကြယ်တဲ့ ကမ်းခြေတစ်ခု ဖြစ်ခဲ့တာ နှစ်ပေါင်းအတော်ကြာခဲ့ပါပြီ။ ဒီကမ်းခြေဟာ ကာရစ်ဘီယံကျွန်း မြောက်ဘက်ခြမ်းက အဖြူဆုံး သဲဖြင်နဲ့ အသာယာဆုံးကမ်းရိုးတန်းတစ်လျှောက်မှာ တည်ရှိတယ်။ ၂၀၀၈ ခုနှစ် မနက်ခင်းတစ်ခုမှာ ဟိုတယ်တစ်လုံး တည်ဆောက်နေတဲ့အနားကို ရောက်လာတဲ့ နယ်မြေဖွံ့ဖြိုးရေးဆောင်ရွက်သူတွေဟာ ထူးထူးခြားခြားတစ်စုံတစ်ရာကို တွေ့ရှိသွားပါတယ်။ သဲတွေမရှိတော့ပါဘူး။ သူခိုးတွေဟာ ညဘက်မှာရောက်လာကြပြီး သဲတွေကို ကုန်တင်ကားကြီး အစီး ၅၀၀ နဲ့ အပြည့်အသိပ်ထည့်ပြီး ခိုးယူသွားခဲ့ကြတယ်။**

သဲဆိုတာ ကမ္ဘာ့နေရာတော်တော်များများမှာ ဘာမှသိပ်ပြီး အဖိုးတန်လှတာမျိုး မဟုတ်ပေမယ့် ဂျမေကာမှာတော့ ဒီလိုမဟုတ်တာထင်ရှားနေပါပြီ။ ဒါဆိုဒီဖြစ်မှုကို ဘယ်သူကျူးလွန်ခဲ့သလဲ၊ ခရီးသွားလုပ်ငန်းတွေထဲက ပြိုင်ဘက်တစ်ယောက်ယောက်ကများ သူ့ကိုယ်ပိုင်ကမ်းခြေအတွက် သဲတွေလိုလို့လား။ ဒါမှမဟုတ် ဆောက်လုပ်ရေးလုပ်ငန်းရှင်တစ်ယောက်ကများ သူ့လုပ်ငန်းအတွက် သဲတွေလိုလို့လား။ ဘာပဲဖြစ်ဖြစ် ထင်ရှားတာတစ်ခုကတော့ တစ်ယောက်ယောက်ကတော့ သဲတွေကိုရချင်ဇောနဲ့ လုပ်မိလုပ်ရာလုပ်လိုက်ပြီဆိုတာပါပဲ။ ဒီလိုလုပ်ဖို့ သူ့မှာမက်လုံးကောင်းကောင်းတစ်ခု တွေ့ရှိမှာသေချာပါတယ်။

ဒီကိစ္စမှာ စုံစမ်းထောက်လှမ်းသူတွေရဲ့အလုပ်က စီးပွားရေးပညာရှင်တစ်ယောက် လုပ်ရသလိုပါပဲ။ ဘယ်အရာကများ ဒီလူတွေကို ဒီလိုလုပ်ဖို့ဆုံးဖြတ်ချက်တွေချအောင် တွန်းပို့လိုက်တာလဲဆိုတာကို သူတို့အနေနဲ့ ရှာဖွေဖော်ထုတ်ရပါမယ်။



စုံစမ်းထောက်လှမ်းသူအနေနဲ့ လူတွေဘာကြောင့် ဒီအရာတွေကိုလုပ်ရသလဲဆိုတဲ့ နောက်ကွယ်က ကျင့်ဝတ်ဆိုင်ရာ၊ နိုင်ငံရေးဆိုင်ရာနဲ့ လူမှုဗေဒဆိုင်ရာမေးခွန်းတွေကနေ သူ့ကိုယ်သူဖယ်ခွာပြီး အဆက်ဖြတ်နိုင်အောင်လုပ်ရပါမယ်။ ပြီးတော့ သူ့ရဲ့အတွေ့အကြုံကရလာတဲ့ အသိတရားပေါ် အခြေခံပြီး ဒီလိုဆုံးဖြတ်ချက်ဆီကိုရောက်အောင် တွန်းပို့လိုက်တဲ့ မောင်းနှင်အားတွေကို စူးစမ်းလေ့လာရပါမယ်။

### အကြောင်းရင်းကိုရှာဖွေခြင်း

ရာဇဝတ်သားတစ်ယောက်ဟာဘဏ်တစ်ဘဏ်ကိုဓားပြတိုက်တာဟာ ဓားပြတိုက်လို့ ရလာမယ့် ငွေသားကထောင်ထဲမှာနေရမယ့်ကာလဆိုတာထက် ပိုကြီးတဲ့မက်လုံးဖြစ်နေတာ ကြောင့်ပဲ။ အခွန်ကောက်ခံတဲ့နှုန်းတွေတက်လာတဲ့အခါ နိုင်ငံတစ်နိုင်ငံကနိုင်ငံသားတွေဟာ အလုပ်ကြိုးစားလုပ်လိုစိတ်လျော့ကျသွားတတ်ကြတယ်။ အကြောင်းက အချိန်ပိုလုပ်လို့ သူတို့နောက်ထပ်ရလာမယ့်ငွေတွေအပေါ်အခွန်ပိုပြီးထမ်းဆောင်ရမှာဖြစ်လို့ သူတို့ရဲ့ မက်လုံးတွေကို လျော့ကျသွားစေတာကြောင့်ပဲ။ လူတွေဟာရနိုင်ဖို့အလားအလာရှိတဲ့ ဆုလာဘ်ကို တုံ့ပြန်တတ်ကြတယ်။ ဒါဟာအခြေခံအကျဆုံးစီးပွားရေးနိယာမတစ်ရပ်ပါပဲ။

ခင်ပွန်းနဲ့ ခင်ပွန်းပတ်ဝန်းကျင်ကလူတွေဟာ သေချာတဲ့ဆုံးဖြတ်ချက်တွေဘာကြောင့် ချမှတ်ရတယ်ဆိုတဲ့အကြောင်းကို နက်နက်နဲနဲတွေးကြည့်ရအောင်၊ စက်ပြင်ဆရာတစ်ယောက်က ခင်ပွန်းကားကို ပြင်ပေးတာဟာ ခင်ပွန်းကိုလမ်းပေါ်မှာကားပြန်မောင်းစေချင်လို့မဟုတ်ပါဘူး၊ ဒီလိုလုပ်လိုက်တာကြောင့် သူပိုက်ဆံရလာမှာမို့လို့ပါ၊ စားပွဲထိုးအမျိုးသမီးတစ်ယောက်က ခင်ပွန်းကို ဝန်ဆောင်မှုပေးတာဟာ ခင်ပွန်းဆာလောင်နေတာကြောင့်မဟုတ်ဘဲ၊ သူ့အတွက်ပိုက်ဆံရလို့လုပ်ပေးတာပါပဲ။ ပြီးတော့ သူမရဲ့ရှိုးသာပြုံးရွှင်နေမှုတွေကလည်း သူမဟာ ကြင်နာတတ်သူတစ်ယောက်သက်သက်ဖြစ်နေတာကြောင့်မဟုတ်ဘဲ စားသောက်ဆိုင်တွေဟာ စီးပွားရေးလုပ်ငန်းတွေရဲ့ထုံးစံအတိုင်းယှဉ်ပြိုင်ရန်းကန်ရတဲ့ သဘာဝရှိတာကြောင့်ပါ။

**အချိန်ပြဇယား:**

| ၁၇၂၃ | ၁၇၉၈ | ၁၈၀၃ | ၁၈၁၇ | ၁၈၇၁ | ၁၈၉၀ |
|---|---|---|---|---|---|
| အဒမ်စမစ်ကိုမွေးဖွား | ထောမတ် ရောဘတ် မားလ်သပ်စ် ရေးသားတဲ့ Essay on the Principle of Population စာအုပ်ထုတ်ဝေ | Jean-Baptiste Say က စီးပွားရေးမှာ ဝယ်လိုအားမပြည့်မီဘူးဆိုတာ ဘယ်တော့မှမဖြစ်နိုင်ဘူးလို့ ပြောဆို | ဒေးဗစ်ရီကာဒိုရေးသားတဲ့ Principles of Political Economy and Taxation စာအုပ်ထုတ်ဝေ | Carl Menger က မက်လုံးဆိုင်ရာလေ့လာမှုတွေကိုတော်လှန်ပစ်ရင်းအရွှန်းတွက် အသုံးဝင်မှုဆိုင်ရာ အခြေခံစည်းမျဉ်းတွေကို ပထမဆုံးအကြိမ်ဖော်ထုတ်ပြ | Principles of Economics စာအုပ်ကို Alfred Marshall ရေးသားထုတ်ဝေ |

ငွေကြေးဆိုတာစီးပွားရေးမှာအရေးကြီးတဲ့အစိတ်အပိုင်းတစ်ရပ်ဖြစ်ပေမယ့် မက်လုံးဆိုတာမျိုးက ငွေသားသက်သက် ချည်းပဲတော့မဟုတ်ဘူး။ အမျိုးသား၊ အမျိုးသမီးတွေဟာ ရိုန်းဆိုတွေ့ဆုံကြဖို့ အတွက် ဝတ်စားဆင်ယင်မှုတွေမှာ ငွေပိုသုံးတတ်ကြတာဟာ ချစ်ခြင်းမေတ္တာဆိုတဲ့ မက်လုံးကြောင့်ပါပဲ။ ခင်ဗျားအနေနဲ့ လစာကောင်းတဲ့အလုပ်တစ်ခုကို အချိန်ပိုပေးရတာကြောင့် ငြင်းပယ်ပြီး လစာနည်းတဲ့အလုပ်ကို ပိုပြီးစားပေးရတာဟာ အချိန်ပိုရလို့ဆိုတဲ့မက်လုံးရှိနေတာကြောင့်ပဲဖြစ်တယ်။

အရောင်းဆိုင်းရဲ့နောက်ကွယ်မှာ ဖုံးကွယ်ထားတဲ့မက်လုံးတွေရှိပါတယ်၊ ဥပမာ စူပါမက်ကတ်ဆိုင်တွေဟာ ဈေးဝယ်သူဖေါက်သည်တွေကို ကဒ်ပြားလေးတွေပေးပြီး ဒီကဒ်ပြားလေးတွေနဲ့ ဈေးလာဝယ်သူတွေကို အခါအားလျော်စွာ ဈေးလျှော့ပေးတာတွေလုပ်ကြတယ်။ ဒါက ဈေးဝယ်သူတွေကို သူတို့ဆိုင်ရဲ့ပုံမှန်ဖေါက်သည်ဖြစ်လာဖို့ မက်လုံးပေးတာဖြစ်ပြီး ဒီလိုလုပ်ခြင်းကြောင့် သူ့ဆိုင်မှာပိုပြီး အရောင်းတက်လာမှာဖြစ်ပါတယ်။ ဒါပေမဲ့ စူပါမက်ကတ်တွေအတွက် နောက်ထပ်အရေးကြီးတဲ့မက်လုံးတစ်ခုက ဒီလိုကဒ်ပြားလေးတွေပေးထားခြင်းက သူ့ဆိုင်မှာ ဈေးလာဝယ်သူတွေ ဘာတွေလာဝယ်နေတယ်ဆိုတာ တိတိကျကျခြေရာခံလို့ရနိုင်တယ်ဆိုတဲ့မက်လုံးပဲ။ အကျိုးဆက်အနေနဲ့ သူ့ရဲ့စင်တွေပေါ်မှာ တင်ရောင်းရမယ့်ကုန်ပစ္စည်းတွေ ဘယ်လောက်လက်ကျန်ထားရမယ်ဆိုတာကို ပိုပြီးတိတိရောက်ရောက်သိလာမှာဖြစ်သလို၊ ဖေါက်သည်တွေစိတ်ကြိုက်အထူးကမ်းလှမ်းမှုတွေနဲ့ ဈေးဝယ်သူတွေကို မြူဆွယ်နိုင်မှာလည်းဖြစ်ပါတယ်။ ဒါ့အပြင် ဈေးလာဝယ်သူ တွေရဲ့ စိတ်အစွဲလေးတွေနဲ့ ပတ်သက်တဲ့ အသေးစိတ်အချက်အလက်တွေကို ဖြင့်ပကာအရောင်းကိုယ်စားလှယ်တွေဆီကို ရောင်းချနိုင်ပြီး အဲဒီကနေလည်း အပိုဝင်ငွေရနိုင်မှာဖြစ်တယ်။ ကိုယ်ပျောက်လက် (invisible hand) ကြောင့် ရောင်းသူဘက်ရော၊ ဝယ်သူဘက်မှာပါ အကျိုးအမြတ်ခံစားခဲ့ရတာဟာ ဒီဖြစ်စဉ်လမ်းကြောင်းကြီးတစ်ခုလုံးရဲ့ အဆင့်တိုင်းမှာ ခိုင်မာတဲ့ မက်လုံးတွေကို နှစ်ဖက်စလုံးက တုံ့ပြန်ခဲ့ကြတာကြောင့်ပဲဖြစ်တယ်။

> တကယ်တော့ မက်လုံးဆိုတာ လူတွေကို အလုပ်ပိုလုပ်စေတဲ့အရာတွေပဲ
>
> နီကီတာခရုရက်ခ်

ဆင်ခြင်တုံတရားရှိတဲ့ စီးပွားရေးဆိုင်ရာဆုံးဖြတ်ချက်တွေလိုပဲ ပရောဟိတအလုပ်မျိုးတွေကိုလည်း မက်လုံးဆိုတဲ့ဘောင်ထဲမှာ ထည့်စဉ်းစားနိုင်တယ်ဆိုရင် ဝိရောဓိဖြစ်စရာဖြစ်ကောင်းဖြစ်မယ်။ လူတွေထိုက်သင့်သလောက်လှူတန်းမှုတွေ ပြုတာဟာ မွေးရာပါကြင်နာသနားစိတ်ကြောင့်လား၊ ဒါမှမဟုတ် စိတ်ကျေနပ်ပီတိဖြစ်ရတာကြောင့် လှူကြတန်းကြတာလား။ စေ့ဆော်ကိုယ်လှူဒါန်းတာ



တွေဟာလည်း ဒီသဘောပါပဲ။ ဆုလာဘ်တွေကို မမျှော်လင့်ဘဲ လူတွေရဲ့ တုံ့ပြန်တတ်မှုတွေကို အပြုအမူဆိုင်ရာဘောဂဗေဒ (Behavioural economics)က ရှင်းရှင်းလင်းလင်းဥပမာပေးဖေါ်ထုတ်ထားခဲ့ပေမယ့် ဆုံးဖြတ်ချက်အများအပြားကို နောက်ကြောင်းပြန်ခြေရာခံကြည့်ရင်တော့ မက်လုံးတွေနဲ့ ချိတ်ဆက်နေတာကို တွေ့ရမှာပါပဲ (အခန်း ၄၆ ကိုကြည့်ပါ)။

ဒီမက်လုံးဆိုတာမျိုးတွေက အမြဲတစေ ငွေရေးကြေးရေးကိစ္စတွေနဲ့ပတ်သက်နေတာမျိုးမဟုတ်ပါဘူး။ ဒါပေမဲ့ စီးပွားရေးပညာရှင်တွေအဖို့ ချစ်ခြင်းမေတ္တာတို့၊ ကျော်ကြားမှုတို့ဆိုတာတွေထက် ငွေကြေးကို ပိုပြီးအဓိကထားကြတာက ငွေသားဟာ ကိုယ့်ကိုယ်ကိုယ်ဂုဏ်ယူကျေနပ်နေတာမျိုး၊ ဒါမှမဟုတ် ပျော်ရွှင်ကျေနပ်နေတာမျိုးတွေထက်တော့ ပိုပြီးတိုင်းတာရလွယ်ကူတာကြောင့်ပါပဲ။

## ကျန်းမာရေးဆိုင်ရာမက်လုံးများ

မက်လုံးအကြောင်းတကယ်သဘောပေါက်နားလည်လာခြင်းက အာဖရိကတိုက်မှာ အေအိုင်ဒီအက်စ်ရောဂါပျံ့နှံ့လာခြင်းကို ကိုင်တွယ်ဖြေရှင်းရာမှာ ဆန်းသစ်တဲ့ ချဉ်းကပ်ပုံနည်းလမ်းတစ်ရပ်ကို အစပျိုးပေးခဲ့တယ်။ လိင်မှုတစ်ဆင့်ရောဂါကူးစက်မှုနှင့်ပတ်သက်၍ အာဖရိကဒေသမှ လူတွေကို ပညာပေးပြောဆိုတာတွေနဲ့ ကွန်ဒုံးဖြန့်ဝေပေးတာတွေလုပ်ပြီး ရောဂါပျံ့နှံ့မှုကို တိုက်ဖျက်ရာမှာ ကြိုးစားရင်းရှုံးနိမ့်ရင်းဖြစ်နေရတယ်။ ဒီအချိန်မှာ ကမ္ဘာ့ဘဏ်က ခါတိုင်းနဲ့မတူတဲ့ နည်းလမ်းတစ်ခုကို လုပ်ဆောင်လိုက်တယ်။ ဒီနည်းလမ်းက တန်ဇန်းနီးယားက အမျိုးသား၊ အမျိုးသမီးတွေကို အန္တရာယ်ရှိတဲ့ လိင်ဆက်ဆံမှုတွေကို ရှောင်ရှားနိုင်ရင် တစ်ယောက်ကိုဒေါ်လာ ၃၀၀၀ ပေးမယ်လို့ သဘောတူခဲ့တာပဲဖြစ်တယ်။ ဒီအတွက် ရန်ပုံငွေ ဒေါ်လာ ၁.၈ သန်းသုံးစွဲခဲ့တယ်။ တန်ဇန်းနီးယားနိုင်ငံသားတွေအနေနဲ့ ဘယ်လိုလိင်ပိုင်းဆိုင်ရာရောဂါကူးစက်မှုတွေ မရှိပါဘူးဆိုတာ ပုံမှန်စစ်ဆေးခံကြရပြီး သူတို့အနေနဲ့ အန္တရာယ်ရှိတဲ့ လိင်ဆက်ဆံမှုတွေ မပြုလုပ်ခဲ့ကြောင်း သက်သေပြနိုင်ဖို့တော့လိုတယ်။ ဒီအစီအစဉ်ကို "ပြည့်တန်ဆာမှုကို နောက်ဆုတ်စေခြင်း" လို့ ခေါ်တယ်၊

"အခြေအနေစပ်မှတည်တဲ့ ငွေသားလွှဲပြောင်းပေးမှု" လို့ခေါ်တဲ့ ဒီလိုလုပ်ရပ်မျိုးတွေကို လက်တင်အမေရိကနိုင်ငံတွေက ဆင်းရဲတဲ့ကလေးမိဘတွေအနေနဲ့ ဆေးခန်းလာပြဖို့၊ ကလေးတွေကို ကာကွယ်ဆေးထိုးဖို့နဲ့ ကျောင်းထားဖို့ တိုက်တွန်းရာမှာ အသုံးပြုခဲ့တယ်၊ ဒီနည်းက ကြီးမားတဲ့အကျိုးသက်ရောက်မှုတွေဖြစ်ထွန်းစေခဲ့တယ်။ ဒီလိုနည်းလမ်းမျိုးတွေက တခြားစီမံချက်တွေထက်လည်း ကုန်ကျစရိတ်သက်သာစေတယ်၊

## အစိုးရနဲ့မက်လုံးများ

စီးပွားရေးအကျပ်အတည်းတွေ ကြုံတွေ့နေရတဲ့အချိန်တွေမှာ အစိုးရတွေအနေနဲ့ သူတို့နိုင်ငံသားတွေရဲ့ အခွန်ထမ်းဆောင်ရမှုတွေကို လျှော့ချဖြတ်တောက်ပေးတတ်ကြတယ်။ ၂၀၀၈ ခုနှစ်ကမ္ဘာ့ရေးအကျပ်အတည်းနောက်ပိုင်း ဆက်လက်ဖြစ်ပွားခဲ့တဲ့ စီးပွားရေးကျဆင်းမှုကာလမှာ သူတို့တွေအနေနဲ့ အဲဒီလိုလုပ်ဆောင်ခဲ့ကြတယ်။ ရည်ရွယ်ချက်က လူတွေကို ငွေဆက်လက်သုံးစွဲအောင်မက်လုံးပေးဖို့နဲ့ စီးပွားရေးကျဆင်းမှုအတိုင်းအတာပမာဏကိုလျှော့ကျစေဖို့ဖြစ်တယ်။

ဒါပေမဲ့ လူတွေဟာ မုန်လာဥ(မက်လုံး)ကို တုံ့ပြန်တတ်သလို၊ ကြိမ်လုံး(ဒဏ်ပေးမှု) ကိုလည်း တုံ့ပြန်တတ်တယ်။ ဒါကြောင့် အစိုးရတွေအနေနဲ့ သူ့နိုင်ငံသားတွေကို သတ်မှတ်ထားတဲ့စံနှုန်းတွေကို သေသေချာချာလိုက်နာစေဖို့လည်း ပြစ်ဒဏ်ပေးတာတွေလုပ်တတ်ကြတယ်။ ကားရပ်နားမှု၊ လမ်းစည်းကမ်းချိုးဖောက်မှုတွေအပေါ် ဒဏ်ကြေးကောက်ခံတာတွေဟာ ထင်ရှားတဲ့ဥပမာတွေထဲကတစ်ခုပဲဖြစ်တယ်။ တခြားဥပမာတွေပေးရရင် ယစ်မျိုးခွန် (sin taxes) လို့ခေါ်တတ်ကြတဲ့ ဆေးလိပ်တို့၊ အရက်တို့လို လူ့အဖွဲ့အစည်းအတွက် ဘေးဖြစ်စေတဲ့ပစ္စည်းတွေအပေါ် အခွန်ထပ်တိုးကောက်ခံမှုတွေ လည်း ပါဝင်တယ်။ ဒါ့အပြင် ရေဆိုးထုတ်လွှတ်မှုတို့လို သဘာဝပတ်ဝန်းကျင်ကို ထိခိုက်စေတဲ့ အရာတွေအပေါ် အခွန်ကောက်ခံမှုတွေကလည်း ဒီသဘောပါပဲ။ ဖြစ်ချင်တော့လည်း ဒီလိုအခွန်မျိုးတွေက ကမ္ဘာတလွှားကအစိုးရတွေအတွက် အကြီးမားဆုံးအခွန်ဝင်ငွေပေးဆောင်နေမှုတွေထဲမှာ ပါဝင်နေတော့တာပါပဲ။

မက်လုံးပေးတာနဲ့ ဒဏ်ပေးတာဟာ အလွန်ထိရောက်ပါတယ်။ ကိုယ်ကျိုးစီးပွားအတွက် အားထုတ်မှုတွေကို တားဆီးဖို့ကြိုးပမ်းရင်းကပ်ဘေးဆိုက်သလိုအကျပ်အတည်းဖြစ်စေခဲ့တဲ့ အစိုးရတွေရဲ့လုပ်ဆောင်ချက်တွေနဲ့ ပတ်သက်တဲ့ သက်သေသာဓကတွေကိုလည်း သမိုင်းတစ်လျှောက် မနည်းမနောတွေ့ရမှာဖြစ်ပါတယ်။

အစားအစာဈေးတွေတစ်ဟုန်ထိုး ထိုးတက်သွားတာကို ထိန်းချုပ်ဖို့ကြိုးပမ်းရင်း တန်ပြန်ထိုးနက်ခံရတဲ့ အစိုးရနဲ့ပတ်သက်တဲ့ ဥပမာတွေလည်း အများကြီးပါ။ အပေါ်ယံအမြင်ပန်းအရကြည့်ရင်တော့ ဒီဝိတ်ကူးက အဆင်းရဲဆုံးမိသားစုတွေကို အစားအစာပိုမိုရရှိအောင်လုပ်ပေးတာပဲ။ ဒါပေမဲ့ ဒီလိုပေါ်လစီမျိုးတွေ မအောင်မမြင်ဖြစ်ခဲ့ရတာအကြိမ်ကြိမ်အခါခါ ရှိနေခဲ့ပါပြီ။ တကယ့်လက်တွေ့မှာ ရလာတဲ့ ရလဒ်ကတော့ အစားအစာထုတ်လုပ်မှုတွေ ပိုလို့တောင် ကျဆင်းသွားခဲ့ပါသေးတယ်၊ အကြောင်းက



ဈေးနှုန်းထိန်းချုပ်မှုတွေက လယ်သမားတွေရဲ့အစားအစာစိုက်ပျိုးထုတ်လုပ်လိုစိတ်ကို လျော့ကျသွားစေပါတယ်၊ သဘောကတော့ သူတို့မှာမက်လုံးမရှိတော့တာပါ။ ဒီတော့သူတို့အနေနဲ့ ဒီလုပ်ငန်းကိုစွန့်မလား၊ ဒါမှမဟုတ် လျှော့ထုတ်လုပ်ပြီး မိသားစုတစ်နိုင်ဝမ်းစာလောက်ပဲ ထုတ်လုပ်တော့မလားဆိုတာ ရွေးချယ်ကြရပါတော့တယ်။

နီးနီးဝပ်စပ်စပ်တင်လောက်တဲ့ဥပမာတစ်ခုကိုပြရရင်တော့ အမေရိကန်သမ္မတရစ်ချက်နစ်ဆင် လက်ထက်မှာ သူနဲ့သူ့အကြံပေးတွေရဲ့ ၁၉၇၁ ခုနှစ်ဈေးနှုန်းနဲ့ လုပ်ခလစာထိန်းချုပ်မှုဆိုင်ရာဥပဒေ ပြဋ္ဌာန်းချက်အပေါ် နောက်ပိုင်းမှာ လူအများအပြားက ဝိုင်းဝန်းဆန့်ကျင်ခဲ့ကြတဲ့ဖြစ်ရပ်ပါ။ ဒီပေါ်လစီကြောင့် အဆုံးသတ်မှာ ကြီးမားတဲ့စီးပွားရေးအကျပ်အတည်းတစ်ရပ်ဖြစ်လာပြီး နောက်ဆုံးမှာ ငွေကြေးဖောင်းပွမှုတိုးတက်လာခဲ့တယ်။ ဒါပေမဲ့ ဒီလိုလုပ်ဆောင်ခဲ့ရတာက နစ်ဆင်အစိုးရအဖွဲ့မှာ မက်လုံးတစ်ခုရှိနေတာကြောင့်ဖြစ်ပါတယ်။ အဲဒီကာလမှာ နစ်ဆင်အစိုးရအနေနဲ့ ရွေးကောက်ပွဲနဲ့ ရင်ဆိုင်နေရတာဖြစ်ပြီး ဒီပေါ်လစီနဲ့ပတ်သက်တဲ့ မနှစ်မြို့ဖွယ်ရာအကျိုးဆက်တွေ ထင်ထင်ရှားရှား ပေါ်လာဖို့ဆိုတာက အချိန်အတိုင်းအတာတစ်ရပ်တော့ ကြာတတ်တယ်ဆိုတာကို သူတို့တွေအနေနဲ့ နားလည်ထားပြီးသားဖြစ်ပါတယ်။ ရွေးကောက်ပွဲကာလအချိန်ကိုလေးအတွင်းမှာတော့ သူတို့ စီမံကိန်းက လူထုကြားမှာ ရေပန်းစားခဲ့တာကြောင့် ၁၉၇၂ ခုနှစ် နိုဝင်ဘာရွေးကောက်ပွဲမှာ နစ်ဆင်ဟာ သောင်ပြိုကမ်းပြိုအနိုင်ရပြီး သမ္မတအဖြစ် ပြန်လည်ရွေးကောက်ခံခဲ့ရပါတယ်။

နောက်ထပ်ဥပမာတစ်ခုက ကွန်မြူနစ်ဝါဒရေပန်းစားနေတဲ့ကာလက ဆိုဗီယက်ယူနီယံရဲ့အတွေ့အကြုံပါ။ ဗဟိုကစီမံကိန်းရေးဆွဲသူတွေက အစားအစာဈေးနှုန်းတွေကို ထိန်းချုပ်မှုတွေလုပ်ခဲ့တာကြောင့် လယ်သမားတွေအဖို့ သူတို့ရဲ့အင်မတန်မြေဆီမြေနှစ်ကောင်းမွန်တဲ့လယ်တွေမှာတောင်မှ ထွန်ယက်စိုက်ပျိုးလိုစိတ် (မက်လုံး) မရှိတော့ပါဘူး။ အကျိုးဆက်ကတော့ အဲဒီကာလမှာပဲ တစ်တိုင်းပြည်လုံးက သန်းနဲ့ချီတဲ့ ပြည်သူတွေဟာ အငတ်ဘေးဆိုက်ပြီးသေဆုံးခဲ့ကြရပါတယ်။

ဒီဥပမာတွေကရတဲ့သင်ခန်းစာကတော့ စီးပွားရေးမှာကိုယ်ကျိုးစီးပွားဟာ အကြီးမားဆုံးအင်အားဖြစ်တယ်ဆိုတာပါပဲ။ ကျွန်တော်တို့ရဲ့ လူသားဘဝတစ်လျှောက်လုံးမှာ မက်လုံးတွေတစ်ခုပြီးတစ်ခုရဲ့ ဆွဲဆောင်မှုနောက်ကို လိုက်ခဲ့ကြရတာပါ၊ ဒါကို လျစ်လျူရှုပစ်ပယ်လိုက်တာဟာ တကယ်တော့ လူ့သားသဘာဝဖြစ်တည်မှုကိုလျစ်လျူရှုပစ်ပယ်လိုက်တာပဲဖြစ်ပါတယ်။

### အနှစ်ချုပ်အတွေးအခေါ်

**လူတွေဟာ မက်လုံးတွေကို အလိုက်သင့် တုံ့ပြန်ကြတယ်**

# ၀၆ – အလုပ်ခွဲခြားလုပ်ကိုင်ခြင်း

## Division of Labour

**စပိန်ဒေသခံတစ်ယောက်ဟာ သူ့ရှေ့မှာက်ကအံ့ဩချီးကျူးလောက်တဲ့ဖြစ်ရပ်ကိုကြည့်ပြီး တအံ့တဩပြင့်သက်ရှူသွင်းလိုက်တယ်။ ၁၄၃၆ ခုနှစ် သူဗင်းဆင့်မြို့မှာ ရှိနေစဉ်မှာ အီတလီမြို့ပြနိုင်ငံလေးက စစ်သင်္ဘောတွေကို ဘယ်လိုလက်နက်တပ်ဆင်တယ်ဆိုတာ မြင်လိုက်ရတာကြောင့် ဖြစ်တယ်။ သူ့မွေးရပ်မြေမှာတော့ ဒီအလုပ်က အတော်ခက်ခဲပင်ပန်းပြီး အချိန်ယူတဲ့အလုပ်မျိုးပဲ။ ဒါပေမဲ့ အခုသူ့မျက်စိရှေ့မှာက်မှာ ဗင်းဆင့်မြို့သားတွေကတော့ သင်္ဘောတွေကို တစ်စီးပြီးတစ်စီး လက်နက်တပ်ဆင်နေလိုက်တာများ တစ်စီးကိုတစ်နာရီတောင် မကြာပါလား။ သူတို့ဒါကို ဘယ်လိုများလုပ်ခဲ့ကြပါလိမ့်။**

စပိန်မှာတော့ အလုပ်သမားလူအုပ်ကြီးကသင်္ဘောတွေကို လက်နက်ခဲယမ်းမီးကျောက်တွေနဲ့ စားရေရိက္ခာတွေ တင်ကြတဲ့အခါ သင်္ဘောတွေကို ဆိပ်ကမ်းမှာ ကြိုးချည်ထားရတယ်။ ဗင်းဆင့်မှာကျတော့ သင်္ဘောတစ်စီးစီကို တူးမြောင်းထဲကိုဆွဲလာပြီး သင်္ဘောတစ်စီးဖြတ်သွားတဲ့ အခါတိုင်း လက်နက်ထုတ်လုပ်သူတွေ သူတို့ရဲ့လက်နက်တွေကို သင်္ဘောကုန်းပတ်ပေါ်ချပေးကြတယ်၊ စပိန်လူမျိုးခရီးသွားဟာ ပါးစပ်အဟောင်းသားနဲ့ ဒီလုပ်ငန်းစဉ်ကို သူ့ရဲ့နေ့စဉ်မှတ်တမ်းမှာ မှတ်သားခဲ့တယ်၊ သူဟာအလုပ်ခွဲခြားလုပ်ကိုင်ခြင်းရဲ့ ထံပြဖြစ်ရပ်တစ်ခုကို နဖူးတွေ့ဒူးတွေ့ကြုံလိုက်ရတာပါ။ ဒါဟာကမ္ဘာ့ပထမဆုံးအဆင့်လိုက် အပိုင်းလိုက်ခွဲခြားထားတဲ့ စဉ်တိုက်ကုန်ထုတ်လုပ်မှုလမ်းကြောင်းတွေ (production lines) ထဲကတစ်ခုပါပဲ၊

**အချိန်ပြဇယား:**

**ဘီစီ ၃၆၀**
ပလေတိုကသူ့ရဲ့ Republic ကျမ်းမှာ အထူးပြုပါဒ (specialism) ချီးကျူးဖေါ်ပြ

**၁၄၇၀**
ဗင်းနစ်မြို့လက်နက်တိုက် – စံချိန်မီတစ်တိအပိုင်းများ[illegible] စက်တပ်ဆင်ရေးလမ်းကြောင်းနည်းပညာများ



ဒီအတွေးအခေါ်က ရိုးရိုးလေးပါ၊ အလုပ်လုပ်ရာမှာ ကျွန်တော်တို့ တစ်ဦးချင်းစီရဲ့ ကျွမ်းကျင်မှုအလိုက် အလုပ်ကိုခွဲခြားလုပ်ကိုင်ခြင်းအားဖြင့် ကျွန်တော်တို့အနေနဲ့ ပိုပြီးများများနဲ့ကောင်းကောင်းထုတ်လုပ်နိုင်မယ်ဆိုတာပါပဲ၊ အလုပ်ခွဲခြားလုပ်ကိုင်ခြင်း ကျင့်သုံးခဲ့တာဟာ နှစ်ပေါင်းထောင်ချီကြာခဲ့ပါပြီ၊ ဂရိခေတ်မှာကတည်းက ဒါက ကောင်းကောင်းအခြေခိုင်ခဲ့ပြီးသားပါ။ အဒမ်စမစ်တို့ခေတ်က နိုင်ငံတစ်ဝှမ်းကစက်ရုံအလုပ်ရုံတွေမှာလည်း ဒီလိုအလုပ်ခွဲခြားလုပ်ကိုင်ခြင်းက နေရာတကျရှိခဲ့ပါတယ်၊ ဒါပေမဲ့ ဟင်နရီဖို့ဒ်နဲ့ သူ့ရဲ့ Model-T ကားအမျိုးအစား ထုတ်လုပ်တဲ့ စနစ်လို အထွတ်အထိပ်အခြေအနေကိုရောက်ဖို့တော့ ၂၀ ရာစု အစောပိုင်းကာလရောက်တဲ့အထိ အချိန်ယူခဲ့ရပါတယ်။

အလုပ်ခွဲခြားလုပ်ကိုင်မှုဆိုတာ ပထမစက်မှုတော်လှန်ရေးကို ကူညီမောင်းနှင်ပေးခဲ့တဲ့အရာပါ။ ဒီစနစ်ကြောင့် ကမ္ဘာတစ်ဝှမ်းကနိုင်ငံတွေဟာ သူတို့ရဲ့ကုန်ထုတ်လုပ်မှုစွမ်းအားနဲ့ ချမ်းသာကြွယ်ဝမှုကို တဖြည်းဖြည်းချင်း တိုးမြင့်စေနိုင်ခဲ့တယ်၊ တကယ်တော့ ဒါဟာ ခင်ဗျားထုတ်လုပ်ချင်တဲ့ အရာဝတ္ထုအားလုံးနီးပါးရဲ့နောက်ကွယ်မှာရှိနေတဲ့ ကုန်ထုတ်လုပ်မှု နည်းလမ်းတစ်ရပ်ပါပဲ။

### ထုတ်လုပ်မှုဆိုင်ရာခက်ခဲရှုပ်ထွေးမှုများ

သာမန်ခဲတံတစ်ချောင်းကိုယူကြည့်လိုက်ပါ။
အဲ့ဒီခဲတံကိုတီထွင်ဖန်တီးရာမှာ မတူကွဲပြားတဲ့အဆင့်မျိုးစုံပါဝင်နေတာတွေ့ရမယ်။ သစ်သားခုတ်တာ၊ ခဲအတွက်သတ္တုတူးဖေါ်ပြီး ခဲဆံသွေးတာ၊ တံဆိပ်ကပ်တာ၊ အရောင်တင်ဆီသုတ်တာ၊ ခဲဖျက်တပ်တာစတဲ့အဆင့်ပေါင်းများစွာရှိပါတယ်၊ ခဲတံလေးတစ်ချောင်းထုတ်ဖို့တောင် ပါဝင်ရတဲ့လက်တွေကမရေတွက်နိုင်အောင်ပါပဲ၊ ဒါကြောင့်လည်း Foundation for Economic Education ကို တည်ထောင်တဲ့

**၁၇၇၆**
ပင်အပ်စက်ရုံရှိ လုပ်ငန်းစဉ်ကို ဖေါ်ပြပြီးအလုပ်ခွဲခြား လုပ်ကိုင်မှုကို မည်သို့လုပ်ဆောင်ရကြောင်း အဒမ်စမစ်က ရှင်းပြ

**၁၉၁၃**
ဟင်နရီဖို့ဒ်နဲ့ စက်တပ်ဆင်ထုတ်လုပ်ရေး လမ်းကြောင်း – စက်ကိရိယာအသုံးပြု အလိုအလျောက်ကားထုတ်လုပ်မှု

## ဝေဖန်ကြီးကြီးခွဲခြားလုပ်ကိုင်စေခြင်း

အလုပ်ခွဲခြားလုပ်ကိုင်စေခြင်းက အတိုင်းအတာပမာဏအကြီးအသေးကိုလိုက်ပြီး ကြောင်းကျိုးဆီလျော်မှုရှိဖို့လည်း လိုအပ်ပါတယ်။
ဥပမာ – ကျုံ့ဝိုက်ပျိုးဖို့အတွက် မြေဆီလွှာ၊ မိုးရေချိန်သင့်တော်တဲ့ဒေသတစ်ခုကို စဉ်းစားကြည့်မယ်။ ဒါပေမဲ့ ဒီဒေသမှာ အခြေချနေထိုင်သူတွေဟာ ရိတ်သိမ်းချိန်မှာ အချိန်မီပြီးစီးအောင် မရိတ်သိမ်းနိုင်တာကြောင့် တချို့သောမြေတွေကို ပလပ်မြေတွေအဖြစ် မကြာခဏချန်လှပ်ထားခဲ့ရတယ်။ အနီးဝန်းကျင်ဒေသမှာ နေထိုင်သူတွေကတော့ ဓားသွားတွေပြုလုပ်တဲ့နေရာမှာ ကျွမ်းကျင်ကြတယ်။ ဒါပေမဲ့ သူတို့ရဲ့လယ်မြေတွေကတော့ အတော်လေးညံ့ဖျင်းလို့ မကြာခဏဆိုသလို အငတ်ဘေးနဲ့ကြုံကြရတယ်၊

ဒီဒေသနှစ်ခုမှာနေထိုင်သူတွေအနေနဲ့ သူတို့ကျွမ်းကျင်တဲ့နယ်ပယ်မှာ ဇောက်ချလုပ်ကိုင်ပြီး သူတို့ထုတ်လုပ်ဖို့ အခက်အခဲရှိတဲ့အရာတွေကို ဖြင်ပကနေဝယ်ယူတင်သွင်းသင့်တယ်လို့ အလုပ်ခွဲခြားလုပ်ကိုင်ခြင်းဆိုင်ရာနိုင်မာအားကောင်းတဲ့ တွေးခေါ်ဆင်ခြင်ပုံဝနစ်ကအဆိုပြုတယ်။

Leonard Read က ၁၉၅၈ ခုနှစ်ထုတ် ခဲတံ (Pencil) ဆိုတဲ့ သူရဲ့စာအုပ်မှာ "လွယ်ကူရဲ့လား။ ဒီကမ္ဘာကြီးရဲ့မျက်နှာပြင်ပေါ်က လူသားတစ်ယောက်အဖို့ ကျွန်တော့်(ခဲတံ)ကို ဘယ်လိုလုပ်မလဲ ဆိုတာသိဖို့လေ။ တကယ့်ကို ဆန်းပြားပါပေ့ဗျာ။ ထူးခြားတာကတော့ အမေရိကန်ပြည်ထောင်စုမှာ နှစ်စဉ်ထုတ်လုပ်တဲ့ ကျွန်တော့်ရဲ့အမျိုးအစားက သန်းတစ်ထောင့်ငါးရာလောက် ရှိနေတာပါပဲ" ဆိုပြီး ရေးခဲ့တယ်။

အဒမ်စမစ်ခေတ်မရောက်ခင်အချိန်အထိ အလုပ်ခွဲခြားလုပ်ကိုင်ခြင်းဆိုတာကို ရိုးရှင်းတဲ့ သီအိုရီတစ်ခုထဲမှာပဲ ဝုပေါင်းသုံးသပ်ခဲ့တယ်။ နိုင်ငံများ၏ဓန (The Wealth of Nations) စာအုပ်မှာ စမစ်အသုံးပြုခဲ့တဲ့ ထင်ရှားတဲ့ ဥပမာတစ်ခုက ၁၈ ရာစု ဗြိတိန်နိုင်ငံကပင်အပ်စက်ရုံတစ်ရုံရဲ့ အကြောင်းပဲ။ အဲ့ဒီပင်အပ်စက်ရုံမှာပင် အပ်သေးသေးလေးတွေကို လက်နဲ့ထုတ်လုပ်ခဲ့တာဖြစ်တယ်၊



"အကုန်လုံးမခြွင်းမချန်လုပ်နေရတဲ့နေရာမှာ
အလုပ်မရှိပါဘူး။ အလုပ်ဆိုတာ
အလုပ်ခွဲခြားလုပ်ကိုင်ခြင်းနဲ့ စတင်ရတာပါ။"

**Marshall McLuhan**
ကနေဒါနိုင်ငံသား မီဒီယာပညာရှင်

လမ်းပေါ်ကသာမန်လူတစ်ယောက် တစ်နေ့ပင်အပ်တစ်ချောင်းသုံးဖို့ဆိုတာ ခဲယဉ်းတဲ့ကိစ္စပါ။ ဒါပေမဲ့ စက်ရုံမှာတော့ ကျွမ်းကျင်သူတွေ အများကြီးနဲ့ အခုလိုအလုပ်ကိုခွဲခြားလုပ်ကိုင်ကြရတယ်၊

လူတစ်ယောက်ကနန်းကြိုးခွေတွေကိုဆွဲထုတ်တယ်၊
နောက်တစ်ယောက်ကနန်းကြိုးကိုဖြောင့်တယ်၊
တတိယတစ်ယောက်ကဖြတ်တယ်၊
စတုတ္ထတစ်ယောက်က အဖျားချွန်တယ်၊
ပဉ္စမတစ်ယောက်က ခေါင်းလုံးတယ်၊
ခေါင်းလုံးတဲ့နေရာမှာ လူနှစ်ယောက်၊ သုံးယောက်လောက်လိုတယ်၊
...ဒီလိုနဲ့ ပင်အပ်တစ်ချောင်းလုပ်တဲ့အလုပ်မှာ
အဒီကနေရာရှစ်နေရာလောက်ခွဲပြီးလုပ်ကိုင်ကြရတယ်။

စမစ်ရဲ့အလိုအရတော့ လူဆယ်ယောက်ရှိတဲ့စက်ရုံတစ်ရုံဟာ အလုပ်ခွဲခြားလုပ်ကိုင်ခြင်းကြောင့် တစ်နေ့ကို ပင်အပ် ၄၈,၀၀၀ လောက် ထုတ်လုပ်နိုင်မယ်။ ထုတ်လုပ်မှုဟာ အံ့မခန်းဖြစ် လောက်အောင်ကို ရာခိုင်နှုန်း ၄၀၀,၀၀၀ လောက် တိုးတက်လာတယ်၊ ဒီလိုအလုပ်ခွဲခြားလုပ်ကိုင်ခြင်းအားဖြင့် အဖွဲ့လိုက်ထုတ်လုပ်မှုဟာ သူတို့တစ်ဦးချင်း ထုတ်လုပ်မှုစုစုပေါင်းထက် အများကြီးပိုတာတွေ့ရတယ်။

ဟုတ်ပါတယ်၊ ဒီလိုစက်ရုံအမျိုးအစားရဲ့ရှုခြင်းပုံစံကိုလွန်ခဲ့တဲ့ရာစုနှစ်တစ်ခုလောက်က ဟင်နရီဖို့ဒ် တီထွင်ခဲ့တာပါ၊ သူကရွေ့လျားနေတဲ့ထုတ်လုပ်မှုလမ်းကြောင်းတစ်ခုကို ဖန်တီးခဲ့တယ်။ အဲ့ဒီလမ်းကြောင်းထဲမှာ တည်ဆောက်ပေးရမယ့် ကားဘစ်စီးကို အလုပ်သမားအုပ်စုအသီးသီးရဲ့ရှေ့မှောက်တရွေ့လျားစက်ခါးပတ်ပေါ်မှာ

ဖြတ်သန်းနေစေတယ်၊ ဒီအုပ်စုတွေထဲက တစ်ဦးစီဟာ စံကိုက်ထားတဲ့အစိတ်အပိုင်းသစ်တွေကို ပေါင်းထည့်ပေးနေလိမ့်မယ်၊ ရလဒ်ကတော့ သူ့အနေနဲ့ ကားတစ်စီးကို ဈေးနှုန်းသက်သက်သာသာ၊ အချိန်နည်းနည်းနဲ့ ထုတ်လုပ်နိုင်ပြီး သူ့ရဲ့ပြိုင်ဘက်တွေကို ကျော်တက်သွားနိုင်တာပါပဲ၊

## စွမ်းအားများကိုစုစည်းခြင်း

ဘာပဲဖြစ်ဖြစ် အလုပ်ခွဲခြားလုပ်ကိုင်ခြင်းဟာ ဒီနေရာမှာတင် တန့်မနေပါဘူး။ ကုမ္ပဏီတစ်ခုအကြောင်းစဉ်းစားကြည့်ရအောင်ပါ။ အဲ့ဒီကုမ္ပဏီမှာမန်နေဂျင်းဒါရိုက်တာ တစ်ယောက်ဟာ အုပ်ချုပ်မှု၊ စီမံခန့်ခွဲမှု၊ တရင်းရေးဆွဲမှု၊ ဈေးကွက်ရှာဖွေမှုနဲ့ သန့်ရှင်းရေးစတဲ့ နေရာအသီးသီးကဝန်ထမ်းတွေထက် ပိုပြီးသာလွန်တယ်လို့ ယူဆရအောင်ပါ၊ ဒါပေမဲ့ သူ့ရဲ့ဝန်ထမ်းတွေကိုတာဝန်ကိုယ်စီခွဲပေးထားပြီးလုပ်ဆောင်ခြင်းက သူ့အတွက် အကျိုးအမြတ်အများဆုံးရရှိစေပါလိမ့်မယ်။

အင်္ဂလန်၊ အသံစနစ် အလားတူပါပဲ၊ ကားထုတ်လုပ်သူတစ်ယောက်အဖို့လယ်သာထိုင်ခုံကနေစပြီး၊ အင်ဂျင်၊ စတာတွေအထိ အစိတ်အပိုင်းတစ်ခုချင်းစီကို လုပ်ဖို့ဆိုတာ ဘယ်လိုမှ အဓိပ္ပါယ်မရှိပါဘူး၊ ဒီအစိတ်အပိုင်းတချို့၊ ဒါမှမဟုတ် အားလုံးကို ကျွမ်းကျင်တဲ့တခြားကုမ္ပဏီတွေဆီအပ်မယ်။ ပြီးမှ သူတို့ဆီကထွက်လာတဲ့ ထုတ်ကုန်တွေကိုပြန်ဝယ်ပြီးပြန်တပ်ဆင်မယ်ဆိုရင် ကားထုတ်လုပ်သူအတွက် ပိုပြီးအကျိုးအမြတ်ရှိပါလိမ့်မယ်။

စမ်စကာဒီစိတ်ကူးကို နောက်ထပ်တစ်ဆင့်တက်ခဲ့သေးတယ်။ သူကအလုပ်ကို သင့်တော်တဲ့အလုပ်သမားတစ်ဦးချင်းစီမှာ ခွဲခြားလုပ်ကိုင်ဖို့သာမကဘဲ၊ မတူညီတဲ့မြို့တွေ၊ နိုင်ငံတွေအလိုက်ပါ ခွဲခြားလုပ်ကိုင်ဖို့ သူကအကြံပြုခဲ့တာပါ။

## ခွဲခြားလုပ်ကိုင်မှုဘေးအန္တရာယ်

အလုပ်ခွဲခြားလုပ်ကိုင်ခြင်းမှာ ပြဿနာတွေကလည်း ကျဲကူးရေပါဆိုသလိုတွဲပါလာပါတယ်၊ ပထမတစ်ချက်က ဘယ်သူမဆိုအပိုဖြစ်နေတယ်ဆိုတာထင်ရှားတာကြောင့် ဒါကဝယ်လိုအား သိပ်မရှိတော့တဲ့ လက်မှုအတတ်ပညာတစ်ရပ်ကို ခင်ပျားအနေနဲ့ အထူးပြုလိုက်စားထားမိတဲ့အခါ ပုံမှန်ထက်ပိုပြီး အလုပ်ရှာရခက်နိုင်ပါတယ်။ ကားထုတ်လုပ်တဲ့ အလုပ်သမားတွေ၊ ကျောက်မီးသွေးတွင်းကအလုပ်သမားတွေ၊ သံမဏိလုပ်ငန်းကအလုပ်သမားတွေစတဲ့



ထောင်ပေါင်းများစွာသောအလုပ်သမားတွေဟာလည်း မကြာသေးတဲ့ ဆယ်စုနှစ်ကာလတွေ အတွင်းမှာဒီလိုကြုံခဲ့ကြရတယ်၊ သူတို့ အလုပ်လုပ်တဲ့ စက်ရုံတွေ၊ မိုင်းတွင်းတွေပိတ်သွားတဲ့အခါ သူတို့ဟာ ကာလရှည်ကြာအလုပ်လက်မဲ့ ဖြစ်ခဲ့ကြရတယ်၊ ဒုတိယအချက်ကစက်ရုံတစ်ရုံဟာ လူတစ်ယောက်၊ ဒါမှမဟုတ် အုပ်စုတစ်စုအပေါ် လုံးလုံးလျားလျားမှီခိုထားရတာမျိုး ဖြစ်လာနိုင်တယ်၊ ဒီလူတွေကလုပ်ငန်းခွင်တစ်ခုလုံးမှာ ပါဝါကိုအချုပ်ကိုင်ကြီးကြီး စွဲကိုင်ထားနိုင်ကြပြီး သူတို့မကျေနပ်တဲ့အခါ အလုပ်မလုပ်ဘဲ ဆန္ဒပြတာတွေလုပ်နိုင်တယ်။

တတိယတစ်ချက်ကတော့ အလုပ်ခွဲခြားလုပ်ကိုင်ခြင်းကြောင့် စိတ်တတ်တျဆင်းမှု အန္တရာယ်ကိုဖြစ်စေနိုင်တယ်။ အလုပ်တစ်ခုထဲကိုပဲနေ့စဉ်နဲ့အမျှ လုပ်ကိုင်နေရခြင်းက အလုပ်သမားတွေမှာ စမစ်ပြောတဲ့ "စိတ်ပိုင်းဆိုင်ရာချို့ယွင်းမှု" (mental mutilation) ကိုဖြစ်စေနိုင်တယ်။ သူတို့ဟာ တခြားသူတွေနဲ့ ရင်းနှီးကျွမ်းဝင်မှုမရှိတော့ဘဲ၊ စိတ်စွမ်းရည်လည်းနိမ့်ကျလာနိုင်တယ်။ ဒါဟာကားလ်မက်စ် လိုက်လိုက်လှဲလှဲ သဘောကျတဲ့ စိစစ်တွေရှိချက်ပဲ၊ ဒါကြောင့် ဒီသဘောတို သူ့ရဲ့ ကွန်မြူနစ်ကြေညာစာတမ်းမှာ အခြေခံအချက်အနေနဲ့ ထည့်သွင်းခဲ့တယ်၊ ဒီကြေညာစာတမ်းက အလုပ်သမားတွေဟာ ပျော်ရွှင်ကြည်နူးမှုတွေပျောက်ဆုံးလာပြီး သူတို့အပေါ် ဒီလိုအခြေအနေတွေကို ဖန်တီးထားတဲ့အလုပ်ရှင်တွေကို တဖြည်းဖြည်းနဲ့ အုံကြွဆန့်ကျင်လာကြလိမ့်မယ်လို့ ဟောကိန်းထုတ်ခဲ့တယ်၊

ဘာပဲဖြစ်ဖြစ် အလုပ်ခွဲခြားလုပ်ကိုင်ခြင်းကနေ ပေါက်ဖွားလာတဲ့ အဆက်ဖြတ်တောက် ကင်းကွာခြင်း (alienation) က သူ့ကြောင့် ရနေတဲ့ထူးကဲတဲ့အကျိုးအမြတ်တွေကို ပြင်းပြင်းထန်ထန်ဆန့်ကျင်လာကြတယ်၊ စီးပွားရေးဆင်ခြင်တွေးခေါ်ပုံစနစ်ရဲ့ အရေးအကြီးဆုံးနဲ့ ဩဇာတိက္ကမအရှိဆုံး အစိတ်အပိုင်းတွေထဲကတစ်ခုအဖြစ် ဒီလိုချဉ်းကပ်စဉ်းစားပုံတွေကို အလုပ်ခွဲခြားလုပ်ကိုင်စေခြင်းက ခေတ်သစ်စီးပွားရေး တိုးတက်ဖွံ့ဖြိုးမှုကို ပေးအပ်ခဲ့တာဖြစ်တယ်။

**အနှစ်ချုပ်အတွေးအခေါ်**

**သင်တို့ရဲ့ အထူးထုတ်ကုန်တွေအပေါ် အာရုံစိုက်ပါ။**

# ၀၇ - နှိုင်းရအကျိုး

## Comparative advantage

**ဈေးကွက်စီးပွားရေးစနစ်ကို အဓိကစွဲမြဲတဲ့ယုံကြည်ချက်နှစ်ရပ်နဲ့ အနှစ်ချုပ်ဖော်ပြရရင် အခုလိုဖော်ပြနိုင်တယ်။ ပထမတစ်ချက်က ကိုယ်ကျိုးစီးပွားအတွက်လုပ်ဆောင်မှုတွေကနေ လူ့အဖွဲ့အစည်းအတွက် ကောင်းကျိုးတွေအများကြီးဖြစ်ထွန်းလိမ့်မယ်လို့ ကိုယ်ပျောက်လက်သဘောတရားကဆိုတယ် (အခန်း ၁ ကို ကြည့်ပါ)။ ဒုတိယတစ်ချက်က စီးပွားရေးတိုးတက်မှုဆိုတာ နိုင်သူရှိတိုင်းရှုံးသူရှိနေတဲ့ အကြွင်းသုညကစားပွဲ (zero-sum game) တစ်ပွဲမဟုတ်ဘူးဆိုတဲ့အချက်ပဲ။ ဒီအယူအဆတွေကို နောက်ပိုင်းမှာဆန့်ကျင်မှုတွေ ရှိတယ်။ လူတစ်ယောက် ပိုချမ်းသာ၊ ပိုဝပြို၊ ပိုကျန်းမာလာတဲ့အခါ ကမ္ဘာပေါ်က တခြားသူတစ်ယောက် ပိုဆင်းရဲ၊ ပိုပိန်လှီ၊ ပိုချူချာသွားတယ်လို့ ယူဆကြတာလူ့သဘာဝပဲ။**

ဥပမာပေါ်တူဂီနဲ့ အင်္ဂလန်နိုင်ငံနှစ်နိုင်ငံကို ကြည့်ရအောင်ပါ။ သူတို့နှစ်နိုင်ငံဟာတစ်နိုင်ငံနဲ့ တစ်နိုင်ငံ ဝိုင်နဲ့အထည်အလိပ်တွေ ကုန်သွယ်ကြတယ် ဆိုပါစို့။ ပေါ်တူဂီဟာအင်္ဂလန်ထက် ဒီကုန်ပစ္စည်းနှစ်မျိုးစလုံးကို ပိုပြီးထိထိရောက်ရောက် ကျွမ်းကျွမ်းကျင်ကျင်လုပ်ဆောင်နိုင်တယ်။ အဝတ်အထည်ဈေးနှုန်းတွေကို အင်္ဂလန်ထက် ထက်ဝက်သက်သာအောင် လုပ်နိုင်ပြီး ဝိုင်ပုလင်းတွေကိုတော့ အင်္ဂလန်ထက် ငါးပုံတစ်ပုံသက်သာအောင်ထုတ်လုပ်နိုင်တယ်လို့ယူဆပါ။

ပေါ်တူဂီနိုင်ငံဟာ ဒီကုန်ပစ္စည်းနှစ်မျိုးကို ထုတ်လုပ်ရာမှာဘောဂဗေဒပညာရှင်တွေ ပြောတဲ့ အကြွင်းမဲ့အကျိုး (absolute advantage) ခံစားရတဲ့နိုင်ငံဖြစ်တယ်။ အပြင်ပန်းအားဖြင့်တော့ ကိုယ်အထူးပြုကျွမ်းကျင်တဲ့အရာကို ထုတ်လုပ်သင့်တယ်ဆိုတဲ့

### အချိန်ပြဇယား

| ၁၇၇၆ | ၁၇၉၈ |
|---|---|
| အဒမ်စမစ်ရေးတဲ့ The Wealth of Nations စာအုပ်ထုတ်ဝေ | ထောမတ်စ်ရောဘတ်မေးလ်သပ်စ်ရေးတဲ့ Essay on the Principle of Population စာအုပ်ထုတ်ဝေ |



အလုပ်ခွဲခြားလုပ်ကိုင်ခြင်း နိယာမကာအဖြေတစ်ခုမရနိုင်သလိုပါပဲ၊ အင်္ဂလန်ဟာ သူ့ရဲ့ဥစ္စာနေတွေကို မဖြည့်ဆည်းနိုင်သလောက်ဖြစ်နေပြီးတဖြည်းဖြည်းဆုံးရှုံးနေရတဲ့အပေါ် ကြိတ်မှိတ်လက်ခံနေရတယ်လို့ ယူဆစရာပါ၊ တကယ်တော့အဲ့ဒီလိုလည်းမဟုတ်သေးပါဘူး။

ဒီဖြစ်ရပ်မှာ အင်္ဂလန်အနေနဲ့ သူ့ရဲ့အရင်းအမြစ်တွေအားလုံးကို အထည်အလိပ် ထုတ်လုပ်မှုအပေါ်မှာပဲ မြှုပ်နှံထားပြီး ပေါ်တူဂီကဝိုင်ထုတ်လုပ်မှုအပေါ်ကိုပဲ အာရုံစိုက် လုပ်ဆောင်မယ်ဆိုရင် သူတို့ဟာ အထည်အလိပ်တွေ၊ ဝိုင်တွေကိုပိုပြီး ထုတ်လုပ်လာနိုင်ပါလိမ့်မယ်။ ဒီနောက်မှာတော့ ပေါ်တူဂီဟာ သူထုတ်လုပ်ထားတဲ့ ပိုလျှံနေတဲ့ဝိုင်ပုလင်းတွေကို အင်္ဂလန်က အထည်အလိပ်တွေနဲ့လဲလှယ်ပြီး ကုန်သွယ်နိုင်ပါလိမ့်မယ်။ ဒီဥပမာအရအင်္ဂလန်ဟာပေါ်တူဂီလောက် ကျွမ်းကျင်မှုမရှိတဲ့ ဝိုင်ထုတ်လုပ်မှုကို ပစ်ပယ်ပြီးအထည်အလုပ်ထုတ်လုပ်ခြင်းကသူ့ကို နှိုင်းရအကျိုး (comparative advantage) ရစေမှာဖြစ်ပါတယ်။ နှိုင်းရအကျိုးသီအိုရီရဲ့ ခေါင်းကိုင်ဖခင်ကြီးဖြစ်တဲ့ ဒေးဗစ်ရီကာဒိုက ၁၈၁၇ ခုနှစ်ထုတ် သူ့ရဲ့ On the Principles of Political Economy and Taxation စာအုပ်မှာ ဒီဥပမာကို အသုံးပြုခဲ့တယ်။ လူတွေ တစ်ယောက်နဲ့တစ်ယောက် ယှဉ်ပြိုင်ကြတဲ့အခါ နိုင်သူနဲ့ ရှုံးသူသာရှိမယ်လို့ မြင်နေတာကြောင့် အစောပိုင်းမှာ ဒီအယူအဆကို ယုတ္တိမရှိဘူးလို့ထင်ကြတယ်၊ ဒါပေမဲ့ နှိုင်းရအကျိုးနိယာမက နိုင်ငံတွေ တစ်နိုင်ငံနဲ့ တစ်နိုင်ငံကုန်သွယ်တဲ့အခါ နှစ်ဦးနှစ်ဖက်အကျိုးရှိတဲ့ရလဒ် (win-win result)ကို ဖြစ်ထွန်းစေနိုင်ကြောင်းပြသခဲ့တယ်၊

အကြောင်းက နိုင်ငံတစ်နိုင်ငံမှာ လူဦးရေက အတိအကျရှိနေတာဖြစ်ပြီး အဲဒီနိုင်ငံသားတွေအဖို့ သူတို့ရဲ့သီးခြားအလုပ်အကိုင်တစ်မျိုးမျိုးကိုလုပ်ဆောင်ဖို့အတွက် အချိန်က အတိအကျ ရနေတာကြောင့်ပါ၊ အကယ်၍ပေါ်တူဂီက တချို့အရာတွေကိုအင်္ဂလန်ထက်ပိုပြီး ဈေးသက်သက်သာသာနဲ့ထုတ်လုပ်နိုင်တယ်ဆိုရင်တောင်မှ တခြားအရာတစ်ခုကို ပိုပြီးဈေးပေါပေါနဲ့ ထုတ်လုပ်နိုင်ဖို့မလွယ်တော့ပါဘူး။ သဘောက သူ့မှာအထည်အလိပ်

| ၁၈၁၇ | ၁၉၄၇ |
|---|---|
| ဒေးဗစ်ရီကာဒိုက On the Principles of Political Economy and Taxation စာအုပ်မှာ နှိုင်းရအကျိုး သဘောတရားကို တင်ပြခဲ့ | ဒုတိယကမ္ဘာစစ်အပြီးမှာလွတ်လပ်တဲ့ ကုန်သွယ်ရေးအတွက်အကျပ်ရိုက်မှုတွေစတင်လာ |

## နှိုင်းရအကျိုးအလုပ်ဖြစ်ပုံ

(A)နဲ့(B) အရွယ်အစားတူတဲ့နိုင်ငံနှစ်နိုင်ငံရှိတယ်ဆိုပါစို့။ အဲဒီနှစ်နိုင်ငံဟာ ဖိနပ်နဲ့ပြောင်းဆန် ထုတ်လုပ်ကြတယ်။ နိုင်ငံ (A)က ဒီကုန်ပစ္စည်းနှစ်မျိုးလုံးထုတ်လုပ်တဲ့နေရာမှာ ပိုပြီးထိရောက်ကျွမ်းကျင်မှုရှိတယ်။ နိုင်ငံ (B)နဲ့ နှိုင်းယှဉ်ကြည့်ရင် နိုင်ငံ(B) တစ်နာရီမှာလူတစ်ယောက် ပြောင်းဆန် ၃၀ bushels ထုတ်လုပ်နိုင်ချိန်မှာ နိုင်ငံ (A) က ပြောင်းဆန် ၈၀ bushels ထုတ်လုပ်နိုင်တယ်။ နိုင်ငံ(B)က လူတစ်ယောက် တစ်နာရီမှာ ဖိနပ်အရံ ၂၀ ထုတ်နိုင်ချိန်မှာ နိုင်ငံ(A)က ဖိနပ် ၂၅ ရံထုတ်နိုင်တယ်။ ဒါကြောင့် နိုင်ငံ(B) က ဖိနပ်ထုတ်ရာမှာ နှိုင်းရအကျိုးရှိတယ်။ အကယ်၍ နိုင်ငံနှစ်နိုင်ငံစလုံးက ကုန်ပစ္စည်း နှစ်မျိုးစလုံးကို ထုတ်ဖို့ကြိုးစားရင်တော့ အောက်ပါအတိုင်းကြုံတွေ့ရမယ်။

| | Country A man hours | A output | Country B man hours | B output |
|---|---|---|---|---|
| Corn | 600 | 48,000(600×80) | 600 | 18,000 |
| Shoes | 400 | 10,000(400×25) | 400 | 8,000 |

Combined output = 66,000 bushels of corn and 18,000 shoes

ဒါပေမဲ့ နိုင်ငံ(A)က ပြောင်းဆန်ကိုပဲအာရုံစိုက်ထုတ်လုပ်ပြီး နိုင်ငံ(B)က ဖိနပ်ကိုပဲထုတ်လုပ်ကြမယ်ဆိုရင် အောက်ပါအတိုင်းကြုံတွေ့ရမယ်။

| | Country A man hours | A output | Country B man hours | B output |
|---|---|---|---|---|
| Corn | 1,000 | 80,000 | 0 | |
| Shoes | 0 | | 1,000 | 20,000 |

Combined output = 80,000 bushels of corn and 20,000 shoes

သူတို့အတွက် နှိုင်းရအကျိုးရှိတဲ့ကုန်စည်အပေါ်မှာ အာရုံစိုက်ထုတ်လုပ်နေရတာကြောင့် နှစ်နိုင်ငံစလုံးမှာ နောက်ထပ်တခြားဟာ ထုတ်လုပ်ဖို့အချိန်ပိုမရတော့ဘူး။ ဒါပေမဲ့ သူတို့ရဲ့ထုတ်ကုန်အသီးသီးအပေါ်မှာ ပိုပြီးသိသိသာသာထုတ်လုပ်လာနိုင်မှာဖြစ်ပြီး နှစ်နိုင်ငံစလုံး ပိုပြီးအဆင်ပြေလာကြလိမ့်မယ်။ အကယ်၍ နိုင်ငံတစ်နိုင်ငံအနေနဲ့ ကုန်ပစ္စည်း နှစ်မျိုးစလုံးကို ထုတ်လုပ်ရာမှာ တခြားနိုင်ငံထက်ပိုပြီး ထိရောက်ကျွမ်းကျင်ရုံသာမကဘဲ၊ ကုန်စည်တစ်မျိုးချင်းစီအတွက်လည်း အချိုးညီညီ ထိရောက်ကျွမ်းကျင်စွာ ထုတ်လုပ်နိုင်တဲ့ အခြေအနေမျိုးဆိုရင်တော့ နှိုင်းရအကျိုးနိယာမအလုပ်မဖြစ်တဲ့အခြေအနေဖြစ်ပါလိမ့်မယ်။ တကယ့်လက်တွေ့မှာတော့ ဒါမျိုးကမဖြစ်နိုင်သလောက်ပါပဲ။



“ လူမှုသိပ္ပံဘာသာရပ်တွေထဲက
မှန်ကန်ပြီး အသေးအဖွဲမဟုတ်တဲ့
အဆိုပြုချက်တစ်ခုလောက် ပြောပြစမ်းပါဦး။ ”

စတန်နီစလော ယူလမ်
သင်္ချာပညာရှင်

ထုတ်ဖို့သုံးရမယ့် အချိန်တွေကို သူ့ဖောက်ချ
ထုတ်လုပ်နေတဲ့ ပိုင်ထုတ်လုပ်မှု၊
ဒါမှမဟုတ် တခြားအရာတစ်ခုအတွက်
အချိန်ပေးသွားပြီးသာဖြစ်နေတာကြောင့်ဖြစ်ပါတယ်။

နှိုင်းရအကျိုးသဘောတရားကို နိုင်ငံတကာ စီးပွားရေးမှာ မကြာခဏဆိုသလို အသုံးချလေ့ရှိပေမယ့် တကယ်ကတော့ ပမာဏငယ်တဲ့အတိုင်းအတာတွေအတွက် ပိုအရေးကြီးတာပါ (အခန်း ၆ ကိုကြည့်ပါ။) အလုပ်ခွဲခြားလုပ်ကိုင်ခြင်းအခန်းမှာ စီမံခန့်ခွဲမှုကနေ သန့်ရှင်းရေးအထိ အရာရာတိုင်းမှာ သူ့ဝန်ထမ်းတွေထက် ပိုကျွမ်းကျင်တဲ့ စီးပွားရေးလုပ်ငန်းရှင်တစ်ယောက်အကြောင်းကို စဉ်းစားပြခဲ့ပါတယ်။ ဘာကြောင့် သူ့အနေနဲ့ အကျိုးအမြတ်နည်းတဲ့ လုပ်ငန်းတွေကို သူ့တပည့်တွေကိုလုပ်ခိုင်းပြီးအကျိုးအမြတ်ပိုရမယ့် စီမံခန့်ခွဲမှုအတွက် သူ့အချိန်တွေကိုအပြည့်အဝ မြှုပ်နှံထားခြင်းက သူ့အတွက် ပိုပြီးအကျိုးအမြတ်ဖြစ်စေကြောင်း ရှင်းပြခဲ့ရာမှာ နှိုင်းရအကျိုးနိယာမကို အသုံးပြုပြီး ရှင်းပြခဲ့တာဖြစ်ပါတယ်။

## အမြဲတမ်းလွတ်လပ်တဲ့ကုန်သွယ်ရေးလား ?

ရီကာဒိုရဲ့ နှိုင်းရအကျိုးသီအိုရီကို လွတ်လပ်တဲ့ကုန်သွယ်ရေးကို ထောက်ခံအားပေးဖို့ အခြေခံအဖြစ်ပြုရာမှာ အဓိကအသုံးပြုကြတယ်။ လွတ်လပ်တဲ့ကုန်သွယ်ရေးဆိုတာ နိုင်ငံခြားတိုင်းပြည်တွေကနေ တင်သွင်းလာတဲ့ သွင်းကုန်အပေါ်စည်းကြပ်တဲ့အခွန်တွေ၊ ကိုတာသတ်မှတ်ချက်တွေကိုပယ်ဖျက်တာပါပဲ။ သဘောတရားအရတော့ နယ်စပ်တွေကို ပိတ်ထားတာထက် တခြားနိုင်ငံတွေနဲ့ လွတ်လပ်စွာကုန်သွယ်ခြင်းအားဖြင့် ကုန်စည်နဲ့ဝန်ဆောင်မှုတွေကို ထုတ်လုပ်ရောင်းချရာမှာ ပိုပြီးခရီးရောက်မယ်၊ ပိုပြီးကြွယ်ဝချမ်းသာလာမယ်လို့ဆိုပါတယ်။

ဒါပေမဲ့ ဟီလာရီကလင်တန်နဲ့ ထင်ရှားတဲ့စီးပွားရေးပညာရှင် ပေါလ်ဆင်မြူရယ်လ်ဆင်တို့ အပါအဝင် တချို့ကတော့ ရီကာဒိုရဲ့အိုင်ဒီယာတွေက ဒီနေ့ခေတ်လိုခေတ်မီဆန်းပြားတဲ့ စီးပွားရေးလောကကြီးထဲမှာ သိပ်ပြီးအသုံးမဝင်နိုင်လောက်တော့ဘူးလို့ သတိပေးကြတယ်။ အထူးသဖြင့် သူတို့ထောက်ပြကြတာက ရီကာဒိုအနေနဲ့ သူ့သီအိုရီကိုတင်ပြခဲ့တဲ့ ၁၉ ရာစု အစောပိုင်းကာလမှာ သူတို့ရဲ့အရင်းအနှီးတွေကို ပင်လယ်ရပ်ခြား ထွက်မသွားအောင်

"နှိုင်းရအကျိုးသီအိုရီ ယုတ္တိကျကျမှန်ကန်ကြောင်း သင်္ချာပညာရှင်တစ်ယောက်ရှေ့မှာ အငြင်းအခုံလုပ်နေဖို့မလိုပါဘူး။ ဒါဟာအရေးမပါတဲ့ သေးနုပ်တဲ့အရာတစ်ခုမဟုတ်ဘူးဆိုတာ တကယ့်အရာရောက်တဲ့ ဉာဏ်ကြီးရှင်ပုဂ္ဂိုလ်ထောင်ပေါင်းများစွာက မှန်ကန်ကြောင်းထောက်ခံခဲ့ပြီးသားပါ။ ဒီပုဂ္ဂိုလ်တွေထဲမှာ ဒီအယူအဆအကြောင်းရှင်းပြပြီးတဲ့နောက်မှာမှ ဒါကိုယုံကြည်လက်ခံနိုင်ခဲ့တဲ့သူတွေ ပါဝင်သလို၊ ဒီအယူအဆတွေကို သူတို့ကိုယ်တိုင် ဘယ်တုန်းကမှ နားမလည်ခဲ့ဖူးတဲ့သူတွေလည်းပါဝင်ပါတယ်။"

ပေါလ် ဆင်မြူရယ်လ်ဆင်
အမေရိကန်စီးပွားရေးပညာရှင်၊
(သင်္ချာပညာရှင် စတန်နီစလောယူလမ်ရဲ့ စကားကို တုန့်ပြန်ပြောဆိုခဲ့သောစကား)

လူတွေအပေါ်ကန့်သတ်တားဆီးမှုတွေရှိနေခဲ့ချိန်ဖြစ်နေတာကိုပါ။ ဒါဟာဒီနေ့ခေတ်အခြေအနေနဲ့ မတူတော့ပါဘူး။ ဒီနေ့ခေတ်မှာက စီးပွားရေးလုပ်ငန်းရှင်တစ်ယောက်အနေနဲ့ ခလုတ်လေးတစ်ချက် နှိပ်လိုက်ရုံနဲ့ ဒေါ်လာဘီလီယံချီတန်တဲ့ သူ့ရဲ့အက်ဆက်တွေကို တခြားကမ္ဘာ့နေရာတစ်နေရာကို ရွှေ့ပစ်လိုက်နိုင်တဲ့အချိန်ဖြစ်နေပါပြီ။

ဂျင်နရယ်အီလက်ထရစ်ကုမ္ပဏီစီအီးအိုဟောင်း ဂျက်ဝဲ့လ်ချ်က "သင်ပိုင်တဲ့စက်ရုံတွေကို ရေယာဉ်ပေါ်မှာထားပါလို့" ပြောလေ့ရှိတယ်။ သူပြောချင်တာက စက်ရုံတွေကို လူ၊ ပစ္စည်း၊ အခွန်အခစရိတ်အသက်သာဆုံးနေရာတိုင်းဆီကို ရွှေ့ပြောင်းနိုင်စွမ်းရှိသင့်တယ်လို့ ဆိုလိုတာဖြစ်တယ်။ ဒီနေ့ခေတ်မှာတော့ ဒီလိုအခင်းအကျင်းမျိုးတွေက တကယ့်အမှန်တရားပါပဲ။ ကုမ္ပဏီတွေအနေနဲ့ ရိကာဒိုခေတ်ကလို နိုင်ငံတစ်နိုင်ငံထဲမှာပဲအသေအထိုင်ချမနေတော့ဘဲ၊ သူတို့ရဲ့အလုပ်သမားတွေနဲ့ သူတို့ငွေကြေးတွေကို သူတို့ဆန္ဒရှိရာအရပ်ဆီရွှေ့နေကြတာပါပဲ၊ တခြားစီးပွားရေးပညာရှင်တွေအပြောအရတော့ လက်တွေ့မှာ လုပ်ခလစာတွေအလျှင်အမြန် ကျဆင်းသွားပြီး တချို့နိုင်ငံတွေက နိုင်ငံသားတွေဟာ ပိုပြီးဆိုးဝါးတဲ့ အခြေအနေတွေ ကြုံလာရတယ်လို့လည်းဆိုတယ်။ တစ်ဖက်မှာလည်း နိုင်ငံတစ်နိုင်ငံမှာ နိုင်ငံခြားက ခွဲဖြန့်ထားတဲ့အလုပ်အကိုင်တွေရှိမယ်ဆိုရင် အဲ့ဒီနိုင်ငံဟာ ကုမ္ပဏီတွေဆီကနေ အကျိုးအမြတ်တွေရနိုင်တယ်လို့ ဆိုကြတယ်။ သဘောကတော့ အဲ့ဒီကုမ္ပဏီရဲ့ အမြတ်အစွန်း ပိုရမှုကနေ သူ့ဆီမှာ ရင်းနှီးမြှုပ်နှံသူတွေကို အကျိုးအမြတ်ပြန်လည်ခွဲဝေပေးတာကြောင့်



အကျိုးအမြတ်ရသလို၊ ဈေးဆိုင်တွေမှာ သူတို့ထုတ်ကုန်တွေကိုလည်း ဈေးသက်သက်သာသာနဲ့ ဝယ်လို့ရနိုင်လို့ဖြစ်တယ်။

ဈေးကွက်တစ်ခုချင်းစီက အပြည့်အဝပြိုင်ဆိုင်မှုရှိနေတယ်လို့ ယူဆထားတဲ့ တခြားသော အခြေအနေတွေကြားမှာတော့ နှိုင်းရအကျိုးဆိုတာ သိပ်ကိုရိုးရှင်းလွန်းတဲ့ သီအိုရီတစ်ခုပဲလို့ ကျွန်တော်တို့သူတွေက မြင်တယ်။ (လက်တွေ့မှာ ပြည်တွင်းကိုယ်ကျိုးစီးပွားကာကွယ်ရေးနဲ့ လက်ဝါးကြီးအုပ်ဝါဒတွေက ဈေးကွက်တွေကို အပြည့်အဝပြိုင်ဆိုင်မှုမရှိအောင်လုပ်ထားတာ သေချာတယ်၊) အပြည့်အဝပြိုင်ဆိုင်မှုရှိတဲ့ ဈေးကွက်တွေက အလုပ်အကိုင်အပြည့်အဝရှိပြီး အလုပ်ပြုတ်လာတဲ့ ဝန်ထမ်းတွေအနေနဲ့ တခြားအလုပ်တွေကို အလွယ်တကူပြောင်းရွှေ့နိုင်ကြတယ်။ တချို့ကတော့ နှိုင်းရအကျိုးသီအိုရီက အကြံပြုထားသလိုသာ စီးပွားရေးလုပ်ငန်းတွေအနေနဲ့ သီးခြားအထူးပြုထားတဲ့လုပ်ငန်းတွေကို လုပ်ဆောင်နေခဲ့မယ်ဆိုရင် လုပ်ငန်းအမျိုးအစား စုံလင်မှုကို သိသိသာသာလျော့ကျသွားစေလိမ့်မယ်လို့ဆိုတယ်။ ဒီလိုလုပ်ငန်းအမျိုးအစားကွဲပြားမှုတွေကို စွန့်ပယ်ထားတာက စားသုံးသူတွေအနေနဲ့ သူတို့ရဲ့ထုတ်ကုန်တွေအပေါ် အာသီသမရှိတော့ဘဲ ရုတ်တရက်အပြောင်းအလဲတစ်ခုခုနဲ့ ကြုံရတဲ့အခါ အလိုက်သင့်ခုခံတုန့်ပြန်နိုင်စွမ်းမရှိဘဲဖြစ်လိမ့်မယ်လို့ ထောက်ပြကြတာတွေလည်း ရှိတယ်။ အီသီယိုးပီးယားမှာ ပြည်ပပို့ကုန်ရဲ့ ၆၀ ရာခိုင်နှုန်းဟာ ကော်ဖီဖြစ်ခဲ့တယ်၊ ဒါပေမဲ့ နိုင်ငံခြားကဝယ်လိုအားအပြောင်းအလဲဖြစ်သွားတဲ့အခါ နိုင်ငံဟာအားနည်းတဲ့ စီးပွားရေးအခြေအနေတစ်ရပ်မှာကျန်ရစ်ခဲ့ရတယ်။

ဘာပဲဖြစ်ဖြစ် စီးပွားရေးပညာရှင်အများစုကတော့ နှိုင်းရအကျိုးဆိုတာဟာ အရေးအကြီးဆုံးနဲ့ အခြေခံအကျဆုံးစီးပွားရေးအတွေးအခေါ်တွေထဲကတစ်ခုဖြစ်နေဆဲပဲလို့ ဆိုကြတယ်။ အကြောင်းက နှိုင်းရအကျိုးသဘောတရားဟာကမ္ဘာ့ကုန်သွယ်ရေးနဲ့ ဂလိုဘယ်လိုက်ဇေးရှင်းဖြစ်စဉ်တွေရဲ့ အခြေခံကျတဲ့အကြောင်းအရင်းဖြစ်တာကြောင့်ပဲ၊ သူက နိုင်ငံတွေဟာအတွင်းကို ကြည့်တာထက် အပြင်ကိုမျှော်ကြည့်ခြင်းက ပိုပြီးစီးပွားဖြစ်ထွန်းနိုင်တယ်လို့ ယူဆတယ်။

## အနှစ်ချုပ်အတွေးအခေါ်

**အထူးပြုထုတ်လုပ်ခြင်း + လွတ်လပ်သောကုန်သွယ်ရေး = နှစ်ဦးနှစ်ဖက် အကျိုးရှိ**

## ၀၈ – အရင်းရှင်ဝါဒ

### Capitalism

**ဇရန်ဝစ် ဖူကူယားမားအတွက်တော့ ဒါဟာ သမိုင်းနိဂုံးလို့ သတ်မှတ်ခဲ့တဲ့ အခိုက်အတန့်လေး တစ်ခုဖြစ်ခဲ့တယ်။ အရှေ့ဥရောပနဲ့ ဟိုဘက်အလွန်က လူသန်းပေါင်းများစွာအတွက်တော့ သူတို့ ကြုံခဲ့ရဖူးတာတွေထက် ပိုလွတ်လပ်၊ ပိုကြွယ်ဝလာတော့မယ်ဆိုတဲ့ ရှေ့ပြေးနိမိတ်ပဲ။ ဒေးဗစ်ဟက်ဆယ်ဟော့ဖ်အဖို့တော့ ဒါဟာ လှိုက်လှိုက်လှဲလှဲ အားပေးဂုဏ်ပြုခံရတဲ့ တေးဂီတနဲ့ အသက်မွေးသူတစ်ယောက်ရဲ့ အအောင်မြင်ဆုံးဂီတဖျော်ဖြေပွဲတစ်ခုပါပဲ။ ဘာလင်တံတိုင်းပြိုကျသွားခြင်းကို လူပေါင်းများစွာအနေနဲ့ ကိုယ့်စိတ်တိုင်းကျကိုယ်လိုရာ အဓိပ္ပါယ်ကောက်ယူနိုင်ခဲ့ပါတယ်။**

ဒါပေမဲ့ အားလုံးထဲက အရေးအကြီးဆုံးအရာကတော့ စီးပွားရေးစနစ်တွေကို ဘယ်လိုတည်ဆောက်ပြီး လည်ပတ်ရမယ်ဆိုတဲ့အကြောင်း ပြောကြဆိုကြတဲ့ အခိုက်အတန့်ဆိုတာပါပဲ။ လေ့လာသူတွေက ဆိုဗီယက်ယူနီယံပြိုကျသွားခြင်းက ဈေးကွက်စီးပွားရေးစနစ်ဟာ တိုင်းပြည်တစ်ပြည်ကို စီမံခန့်ခွဲဖို့ အကောင်းဆုံးနည်းလမ်းဆိုတာ မငြင်းနိုင်အောင် သက်သေပြခဲ့ကြပါတယ်။ ဒီစနစ်က တိုင်းပြည်ကို ကြီးပွားချမ်းသာစေသလို၊ တိုင်းသူပြည်သားတွေကိုလည်း ကျေနပ်ပျော်ရွှင်စေပါတယ်၊ ဒါဟာ အရင်းရှင်ဝါဒအတွက် အောင်ပွဲတစ်ရပ်ဖြစ်ခဲ့ပါတယ်။

အရင်းရှင်ဝါဒဟာ တခြားစီးပွားရေးပုံစံတွေထက် ပိုပြီးဝေဖန်ထောက်ပြမှုတွေ ကြုံကောင်းကြုံခဲ့ရပါလိမ့်မယ်။ ဝင်စစ်တော့ ဒီအရင်းရှင်ဆိုတဲ့နာမည်ကိုယ်နှိုက်က ခေတ်သစ်စီးပွားရေးလောကရဲ့ မနှစ်မြို့ဖွယ်ရာအကောင်းဆုံးအမြင်တွေဖြစ်တဲ့ ခေါင်းပုံဖြတ်ခြင်း၊ တရားမျှတမှုမရှိခြင်းနဲ့ ဖိနှိပ်ချုပ်ချယ်ခြင်းတွေကို ရည်ညွှန်းပြီး

**အချိန်ပြဇယား**

| ၁၀၀၀ နှစ်များ | ၁၅၀၀ နှစ်များ |
|---|---|
| မြေရှင်ပဒေသရာဇ်စနစ်လွှမ်းမိုးထား | မာကင်တိုင်ဝါဒ (Mercantilism ) လွှမ်းမိုးလာ |



ဝှဲ ရာစုမက်စ်ဝါဒီတွေနဲ့ ဆိုရှယ်လစ်တွေက ရိုးဖဲ့နှိမ်ချပြီး ကင်ပွန်းတပ်ခဲ့ကြတဲ့နာမည်တစ်ခုဖြစ်ပါတယ်။ အစောပိုင်းကာလတွေမှာ ဒီစီးပွားရေးပုံစံဟာ ခရစ်ယာန်ချက်ကျောင်းတော်ရဲ့တိုက်ခိုက်မှုကိုခံခဲ့ရတယ်။ ဒီဝါဒက အမြတ်အစွန်းနဲ့ ငွေကြေးကို ဦးစားပေးတာကြောင့် ဘာသာရေးသင်ကြားပို့ချမှုတွေကို ဖြိမ်းခြောက်နေတယ်လို့ ယူဆခဲ့တာကြောင့်ဖြစ်ပါတယ်။ ပိုပြီးခိုင်မာလာတဲ့ဝေဖန်မှုတွေကတော့ ဒီစနစ်က မညီမျှမှုတွေကို ဖြစ်ပေါ်စေတယ်၊ မတည်ငြိမ်မှုနဲ့ အလုပ်လက်မဲ့ဦးရေကို တိုးမြင့်စေတယ်၊ စီးပွားရေးအတက်အကျကိုဖြစ်စေတတ်တယ်ဆိုတဲ့အကြောင်းတွေပဲ။ ဒီစနစ်က သဘာဝပတ်ဝန်းကျင်အပေါ် ထိခိုက်မှုတွေကို ငဲ့ညှာထောက်ထားမှုမရှိဘူးလို့ သတိပေးတာတွေလည်းရှိတယ် (အခန်း ၄၆ ကိုကြည့်ပါ)။

### ရောကျော်စနစ်

အရင်းရှင်ဝါဒဆိုတာ အရင်း (ကုန်စည်နဲ့ဝန်ဆောင်မှုတွေထုတ်လုပ်ဖို့ အသုံးပြုထားတဲ့ ကုမ္ပဏီတွေ၊ ပစ္စည်းကိရိယာတွေနဲ့ ဖွဲ့စည်းတည်ဆောက်ပုံတွေ) ကို အစိုးရပိုင်တာမဟုတ်ဘဲ၊ ပုဂ္ဂလိကလူတစ်ဦးချင်းက ပိုင်ဆိုင်တဲ့စနစ်ပါ။ ကုမ္ပဏီတွေမှာ ရှယ်ယာတွေဝယ်ပြီး ရင်းနှီးမြှုပ်နှံငွေထည့်ဝင်ထားတဲ့နည်းနဲ့ဖြစ်ဖြစ်၊ ငွေချေးစာချုပ်တွေဝယ်ယူပြီး ကုမ္ပဏီတွေကို ပိုက်ဆံချေးထားတဲ့နည်းနဲ့ပဲဖြစ်ဖြစ် ပြည်သူတွေဟာ ကုမ္ပဏီတွေကို ပိုင်ဆိုင်နေတာဖြစ်ပါတယ်။တစ်ခါတစ်ရံမှာလည်း လူတွေက ဒါကိုတိုက်ရိုက် ရင်းနှီးမြှုပ်နှံတတ်ကြပါတယ်။ တချို့လူတွေကလည်း ပင်စင်ရန်ပုံငွေတွေကတစ်ဆင့် သူတို့ကိုယ်စားရင်းနှီးမြှုပ်နှံထားတတ်ကြတယ်။ နိုင်ငံသားတိုင်းနီးပါးဟာ သူတို့ရဲ့ ပင်စင်ရန်ပုံငွေတွေကတစ်ဆင့် အဓိကကုမ္ပဏီကြီးတွေရဲ့ရှယ်ယာတွေကို ဘုမသိဘမသိ ပိုင်ဆိုင်ထားကြပါတယ်၊ သဘောတရားအရတော့ စီးပွားရေးလုပ်ငန်းတွေ ရှင်သန်နေမှုကြောင့် လူတိုင်းမှာ အကျိုးအမြတ်ရှိနေတယ်လို့ဆိုတယ်၊

ကျောင်းသုံးစာအုပ်အများစုက အရင်းရှင်ဝါဒကိုအနက်ပြန်ဖို့သိပ်ပြီးကရိကထမခံကြဘူး။ ဒါကို နားလည်ပေးနိုင်ပါတယ်။ကွန်မြူနစ်ဝါဒလို သဘောတရားရေးသက်သက်ဖြစ်ပြီး နှိုင်းယှဉ်ကြည့်ရင် ဖျက်နာစာတစ်ဖက်ထဲရှိတဲ့ စီးပွားရေးစနစ်တွေနဲ့မတူဘဲ၊ အရင်းရှင်ဝါဒက ရောကျော် (mongrel) ဖြစ်နေတာကြောင့်ပါ၊ တခြားစနစ်တွေကနေ ခိုးယူထားတာတွေရှိလို့ ရှုပ်ထွေးပြီး

| ၁၈၀၀ နှစ်များ | ၁၉၈၉ |
|---|---|
| စက်မှုတော်လှန်ရေးက အရင်းရှင်ခေတ်ကို လမ်းဖွင့်ပေး | ဘာလင်တံတိုင်းပြိုကျ ယခင်ကွန်မြူနစ်တမ္ဘာမှာ အရင်းရှင်ဝါဒပျံ့နှံ့ပြုလာ |

## လက်ဝါးကြီးအုပ်စနစ်များနှင့် အခြားပြဿနာများ

အရင်းရှင်စနစ်ကိုဝေဖန်ထောက်ပြမှုတွေက ဒီစနစ်ဟာ (ကုမ္ပဏီတစ်ခုထဲက လုပ်ငန်းနယ်ပယ်တစ်ရပ်လုံးကို သီးသန့်ထိန်းချုပ်ထားတဲ့) လက်ဝါးကြီးအုပ်မိုနိုပိုလီစနစ်၊ (ကုမ္ပဏီအုပ်စုတစ်စုက ပေါင်းကျုံ့ဖွဲ့စည်းပြီး လက်ဝါးကြီးအုပ်ထားတဲ့)အိုလီဂိုပိုလီစနစ်နဲ့ အာဏာရလူတစ်စုက စီးပွားရေးလုပ်ငန်းတွေကို ချယ်လှယ်နေတဲ့) အိုလီဂါချီ စနစ်တွေဆီကို ယိမ်းယိုင်သွားတတ်တယ်လို့ သတိပေးကြတာတွေရှိတယ်၊ ဒါဟာ ပြည့်ဝတဲ့ပြိုင်ဆိုင်မှု (perfect competition) သဘောနဲ့ ဆန့်ကျင်ဘက်ပါပဲ။ ပြည့်ဝတဲ့ပြိုင်ဆိုင်မှုအခြေအနေမှာ ဝယ်သူတွေဟာ ကုန်ပစ္စည်းတွေကို ဝယ်ယူဖို့ ရွေးချယ်စရာတွေအမြောက်အမြားရှိနေရသလို၊ ကုမ္ပဏီတွေ ဟာလည်း ဝယ်သူအားပေးတဲ့ ဖေါက်သည်ရဖို့ တစ်ခုနဲ့တစ်ခုအမြဲတမ်းပြိုင်ဆိုင်နေကြရပါတယ်။

လက်ဝါးကြီးအုပ်မှုတွေဟာ ကောင်းမွန်ပြည့်စုံတဲ့စီးပွားရေးစနစ်တစ်ရပ်ကို အတားအဆီးဖြစ်စေခဲ့ပါတယ်။ အစိုးရတွေအနေနဲ့ ကုမ္ပဏီတွေကို ရေရှည်တည်တံ့ခိုင်မာအောင် အချိန်ယူပြီး အားထုတ်ဆောင်ရွက်နေတာဟာ စီးပွားရေးသမားတွေ ပူးပေါင်းအမြတ်ထုတ်ဖို့မဟုတ်သလို၊ စီးပွားရေးနယ်ပယ်တစ်ရပ်ကို လွှမ်းမိုးချုပ်ကိုင်လာစေဖို့လည်းမဟုတ်ပါဘူး။ အပြိုင်အဆိုင်ရှိနေချိန်ထက် လက်ဝါးကြီးအုပ်စနစ်တွေက စားသုံးသူတွေဆီက ငွေပိုတောင်းခံနိုင်တာဟာ ပြဿနာတစ်ရပ်ဖြစ်ပါတယ်၊ ဒါက သူတို့ကို ဝရိုတ်လျှော့ချဖို့ စက်ခဲကဲ့ဆုံးဖြတ်ချက်တွေ ရယူခြင်းကနေ ဟန့်တားပေးပြီး ပိုပြီးအချိန်တိုတိုနဲ့အကျိုးဖြစ်ထွန်းစေတယ်၊ တစ်ဖက်ကလည်း တီထွင်ဖန်တီးမှုရှိသော ဖျက်ဆီးမှု (creative destruction) နိယာမကို လျှော့ပါးသက်သာစေတယ် (အခန်း ၃၆ ကိုကြည့်ပါ)၊

ရှုထောင့်ပေါင်းစုံဖြစ်နေတာကြောင့် အရင်းရှင်စနစ်ကို တိတိကျကျအဓိပ္ပါယ်ဖွင့်ဆိုမှုတစ်ခုလုပ်ဖို့ဆိုတာ အတော့်ကိုခက်ခဲပါတယ်၊ ဒီတစ်ချက်ထဲကြောင့်မဟုတ်ဘဲ၊ ကမ္ဘာ့နိုင်ငံအများစု ကျင့်သုံးနေတဲ့စနစ်ဖြစ်နေတာကြောင့်လည်း အဓိပ္ပါယ်ဖွင့်ဆိုဖို့ကြိုးစားတာဟာ အကြောင်းမဲ့အချည်းနှီးကိစ္စလို့ ထင်စရာပါ။ ပြည်သူတွေက လွှမ်းမိုးခြယ်လှယ်ထားတဲ့ စီးပွားရေးစနစ်ဖြစ်တာကြောင့် အရင်းရှင်စနစ်ဟာ လွတ်လပ်တဲ့ ဈေးကွက်နဲ့ အမြဲဒွန်တွဲနေပါတယ်၊ ဒီသဘောတကိုကျော်လွန်ပြီး အရင်းရှင် စနစ်ဟာ အတုအယောင်အမျိုးမျိုးကိုလည်း လက်ခံထားနိုင်ပါတယ်၊ အရင်းရှင်စီးပွားရေးလို့ ဒီနေ့ခေတ်မှာ ခေါ်လေ့ရှိတဲ့ အမေရိကန်ပြည်ထောင်စု၊ ဗြိတိန်နဲ့တခြားဥရောပနိုင်ငံတွေ၊ ဖွံ့ဖြိုးဆဲနိုင်ငံတွေက စီးပွားရေးစနစ်တွေကို လက်တွေ့မှာ ရောပြွမ်းစီးပွားရေးစနစ် (mixed economics) လို့



ခေါ်ပြတာက ပိုကောင်းပါတယ်။ ရောပြွမ်းစီးပွားရေးစနစ်ဆိုတာက လွတ်လပ်တဲ့ဈေးကွက်နဲ့ အစိုးရကြားဝင်စွက်ဖက်မှုကို ပေါင်းဝင်ထားတာပါ။ လေးဆယ်ဖဲယားလို့ ခေါ်ကြတဲ့ လုံးဝလွတ်လပ်တဲ့ စီးပွားရေးစနစ်ကိုတော့ ဘယ်တုန်းကမှမရှိခဲ့ဖူးပါဘူး။ လေးဆယ်ဖဲယားဆိုတာ ပြင်သစ်စကားဖြစ်ပြီး လုပ်ခွင့်ပြုတယ်လို့ အဓိပ္ပါယ်ရတယ်။ ဒါကြောင့် ဒီအတွေးအခေါ်ရဲ့သမိုင်းကြောင်းက ပြသထားသလိုပဲ၊ ထင်ရှားတဲ့ ဦးဆောင်နိုင်ငံအများစုဟာ တကယ့်လက်တွေ့မှာ လွန်ခဲ့တဲ့ရာစုနှစ်တွေကထက် ဈေးကွက်ရဲ့လွတ်လပ်မှုတွေ တဖြည်းဖြည်းလျော့နည်းလာနေပါတယ်၊

> “အရင်းရှင်ဝါဒရဲ့ မွေးရာပါအကျင့်ဆိုးက ကောင်းကျိုးမျှဝေရာမှာ မညီမျှတာဖြစ်ပြီး ဆိုရှယ်လစ်ဝါဒရဲ့ မွေးရာပါအကျင့်ဆိုးကတော့ ဒုက္ခသုက္ခတွေကို မျှဝေရာမှာ ညီမျှတာပါ။”
>
> ဝင်စတန် ချာချီ

### အရင်းရှင်ဝါဒဆင့်ကဲတိုးတက်လာခြင်း

အရင်းရှင်စနစ်ရဲ့အစောဆုံးပုံစံက အလယ်ခေတ်ဥရောပမှာ မြေရှင်ပဒေသရာဇ်စနစ် ပုံစံနဲ့ ပေါ်ထွက်လာခဲ့တာပါ။ ဒီစနစ်မှာ လယ်ယာလုပ်သားတွေဟာ မြေပိုင်ရှင်ကြီးတွေရဲ့အကျိုးအမြတ်အတွက် လုပ်ကိုင်ပေးခဲ့ရတယ်၊ ၁၆ ရာစုနှောင်းပိုင်းမှာ ဒီစနစ်က ကုန်သည်ဝါဒအဖြစ် ပြောင်းလဲလာခဲ့တယ်၊ ကုန်သည်ဝါဒကိုတော့ အရင်းရှင်စနစ် မတိုင်ခင် အကြမ်းဖျင်းဥပဒေရေးမြဲစနစ်တစ်ခုအဖြစ် အသိအမှတ်ပြုခဲ့ကြတယ်။ ဒီစနစ်ကို နိုင်ငံတွေ အချင်းချင်း ကြားကုန်သွယ်ရေးနဲ့ အမေရိကတိုက်က အကျိုးအမြတ်များတဲ့ အရင်းအမြစ်တွေကို ဥရောပသားတွေရဲ့ရှာဖွေတွေ့ရှိမှုတွေက အားဖြည့်ပေးခဲ့တယ်၊ ဒီကုန်သွယ်ရေးလမ်းကြောင်းတွေပေါ်က လုပ်ငန်းရှင်ကြီးတွေဟာ အလွန်အမင်းချမ်းသာကြွယ်ဝလာကြတယ်၊ သမိုင်းမှာပထမဆုံးအကြိမ်အဖြစ် သာမာန် ပြည်သူတွေဟာ ချမ်းသာကြွယ်ဝတဲ့အုပ်ချုပ်သူဘုရင်တွေ၊ မင်းမျိုးမင်းနွယ်တွေရဲ့ သူ့ကောင်း ပြုမှုအပေါ် မှီခိုအားထားနေရာကနေ ကိုယ်ပိုင်လုပ်ပိုင်ခွင့်နဲ့ ငွေကြေးအကျိုးအမြတ်ကို စတင်ရှာဖွေလာခဲ့တာဖြစ်တယ်၊

ဒါဟာအလွန်အရေးပါတဲ့ ဉာဏ်အလင်းပွင့်မှုပဲဖြစ်တယ်။ အဒမ်စမစ်ပြောခဲ့တဲ့ ကုန်သည်ဝါဒရဲ့ အနှစ်ထိ အချက်တွေနဲ့ ပတ်သက်တဲ့အကြောင်းအရာတွေ အမြောက်အမြားရှိခဲ့ပါတယ်။ လူတစ်ဦးချင်းစီအနေနဲ့ ကုန်သွယ်ခြင်းကနေတစ်ဆင့် အမြတ်အစွန်းရအောင်လုပ်နိုင်တယ်ဆိုတဲ့ ကုန်သည်ဝါဒရဲ့ မောင်းနှင်အားကတော့ နိုင်ငံများ၏ နေစာအုပ်မှာ သူထောက်ခံအားပေးခဲ့တဲ့ အရင်းရှင်စနစ်ရဲ့ အဓိကစည်းမျဉ်းတွေထဲကတစ်ခုဖြစ်တယ်။ အခုခေတ် ထက်စာရင် အဲ့ဒီခေတ်က နိုင်ငံတော်က ကုန်သည်တွေ ကို အများကြီးပိုပြီးရွှေပေါ်မြှောက် ထားခဲ့တာပါ။ လက်ဝါးကြီးအုပ်မိုနိုပိုလီလုပ်တာတွေကို

> အရင်းရှင်ဝါဒဟာ နိုင်ငံရေးဆိုင်ရာလွတ်လပ်မှုအတွက် မရှိမဖြစ်အနေအထားတစ်ရပ်ပဲလို့ သမိုင်းကညွှန်ပြနေတယ်။
>
> မီလတန်ဖရိုင်းမင်း

ခွင့်ပြုပေးခဲ့သလို၊ သွင်းကုန်အပေါ်အခွန်ရဲ့ အစွန်ကောက်ခံမှုတွေနဲ့လည်း အကူအညီပေးခဲ့ပါတယ်။ အဲ့ဒီနောက်ပိုင်းနှစ်ပေါင်းနှစ်ရာကျော်အကြာမှာ ပုဂ္ဂလိကပိုင်ဆိုင်မှုနဲ့ ဖက်စပ်ကုမ္ပဏီတွေကြောင့် ပေါ်ထွက်လာတဲ့ ဥပဒေအဆောက်အအုံတွေ၊ ပြိုင်ဆိုင်မှုနဲ့ အကျိုးအမြတ်ဆိုင်ရာစည်းမျဉ်းတွေဟာ ခေတ်သစ်အရင်းရှင်ဝါဒရဲ့ အခြေခံအုတ်မြစ်တွေဖြစ်လာခဲ့တယ်။

၁၉ ရာစုမှာ စက်မှုလုပ်ငန်းရှင်ကြီးတွေနဲ့ စက်ရုံပိုင်ရှင်ကြီးတွေဟာ ဥဗ္ဗာဓနကို ဦးဆောင်မောင်းနှင်ပေးသူတွေအဖြစ် ကုန်သည်ကြီးတွေရဲ့နေရာမှာ အစားထိုးနေရာယူလာကြတယ်။ အဲ့ဒီကာလကို လွတ်လပ်တဲ့ဈေးကွက်အတွက် ရွှေရောင်လွှမ်းတဲ့ခေတ်လို့ အသိအမှတ်ပြုခဲ့ကြတယ်၊ အဲ့ဒီအချိန်က US နဲ့ UK မှာဒီနေ့ခေတ်ထက်စာရင် ဈေးကွက်နဲ့ ကုန်သွယ်ရေးအပေါ် ကန့်သတ်ချုပ်ချယ်မှုတွေ နည်းပါးခဲ့ပြီး အစိုးရရဲ့ကြားဝင်စွက်ဖက်မှုတွေလည်း မရှိသလောက်ပါပဲ။ ဒါပေမဲ့ တချို့လုပ်ငန်းတွေမှာ လက်ဝါးကြီးအုပ်မှုတွေကို ဖြစ်ပေါ်လာစေတာတွေ၊ ၁၉၃၀ မဟာစီးပွားပျက်ကပ်ကြီးရဲ့ စီးပွားရေးနဲ့ လူမှုရေးအကျိုးဆက်တွေကြောင့် ဒုတိယကမ္ဘာစစ်ကြီးကိုပါ ဖြစ်ပွားစေခဲ့ပြီး စီးပွားရေးမှာ အစိုးရရဲ့ ကြားဝင်စွက်ဖက်မှုတွေလုပ်ဖို့ တွန်းအားဖြစ်စေခဲ့တယ်။ တချို့ကဏ္ဍတွေကို နိုင်ငံပိုင်လုပ်ခဲ့သလို၊ နိုင်ငံသားတွေအတွက် လူမှုဘဝဖူလုံရေးကို နိုင်ငံတော်ကတာဝန်ယူစောင့်ရှောက်ပေးတဲ့ နိုင်ငံတွေကို ထူထောင်လာကြတယ်။ ဝေါစထရိပ်ပြိုလဲမှု မဖြစ်ခင် ၁၉၂၉ ခုနှစ်မှာ US အစိုးရရဲ့ အသုံးစရိတ်ဟာ တစ်နိုင်ငံလုံးစီးပွားရေးကုန်ထွက်ရဲ့ ၁၀ ပုံတစ်ပုံတောင်မရှိခဲ့ဘူး။ နောင်နှစ်လေးဆယ်ကြာပြီးတဲ့နောက်မှာတော့ သုံးတစ်ပုံနီးပါးအထိရှိလာခဲ့တယ်။ ဒီနေ့ခေတ်မှာတော့ ၃၆ ရာခိုင်နှုန်းလောက်အထိ ရှိလာခဲ့တယ်။ ဒါဟာ ဘာကြောင့်လဲလို့ဆိုတာ ကောင်းကောင်းနားလည်ဖို့ သိပ်ဝေးဝေးကြည့်စရာ မလိုတော့ပါဘူး။ နောက်လာမယ့် ကိန်းဒါဆိုတဲ့အခန်းမှာ တွေ့ရမှာပါ။ ပြီးခဲ့တဲ့ရာစုတုန်းက အရင်းရှင်ဝါဒရဲ့ ဖြစ်စဉ်ဟာ အစိုးရတွေအနေနဲ့ ဘယ်လောက်အသုံးစရိတ်ရှိသင့်တယ်၊ စီးပွားရေးမှာ ဘယ်လောက်အထိ ကြားဝင်စွက်ဖက်မှုတွေ လုပ်သင့်တယ်ဆိုတဲ့ မေးခွန်းတွေအပေါ်မှာ ဗဟိုပြုလည်ပတ်နေခဲ့တယ်။

## အရင်းရှင်ဝါဒနဲ့ဒီမိုကရေစီ

အရင်းရှင်ဝါဒမှာ နိုင်ငံရေးနဲ့လွတ်လပ်မှုအတွက် အရေးပါတဲ့သွယ်ဝိုက်ပတ်သက်မှုတွေရှိတယ်။



အရင်းရှင်ဝါဒဟာ ပင်ကိုအားဖြင့် ဒီမိုကရေစီနည်းကျတယ်။ ကိုယ်ပျော်လက်ကို လည်ပတ်လုပ်ကိုင်ခွင့်ပြုထားခြင်း၊ စွန့်ဦးတီထွင်သူတွေ ကြိုးစားလုပ်ကိုင်ပြီး တိုးတက်လာတဲ့အပေါ်အားပေးခြင်း၊ လူတွေအတွက် အကောင်းဆုံးဖြစ်မယ့်အရာတွေကို အစိုးရက ဆုံးဖြတ်တာထက် တစ်ဦးချင်းရဲ့ကိုယ်ကျိုးစီးပွားအပေါ် ဦးစားပေးခြင်း၊ အစုရှယ်ယာပိုင်ရှင်တွေက ကုမ္ပဏီတွေကို ထိန်းချုပ်ခွင့်ပြုထားခြင်းအားဖြင့် အရင်းရှင်စနစ်က လူတစ်ဦးချင်းဒီမိုကရေစီနည်းကျမဲပေးခွင့်အခွင့်အရေးတွေကို လူ့အဖွဲ့အစည်းအတွင်းမှာ အမြတ်တနိုးထိန်းသိမ်းထားတယ်။ ဒီနည်းလမ်းမျိုးတွေကို တခြားအထက်အောက်စနစ်တွေမှာ မလုပ်ဆောင်နိုင်ဘူး။ အရင်းရှင်မဟုတ်တဲ့လူ့အဖွဲ့အစည်းတွေမှာ အများအားဖြင့် ရွေးကောက်ခံမဟုတ်တဲ့ အာဏာရှင်အုပ်စိုးမှုတွေ ရှိနေတာဟာ တိုက်ဆိုင်မှုမဟုတ်ပါဘူး။ ခေတ်သစ်တရုတ်နိုင်ငံနဲ့ ပတ်သက်လို့တော့ လွတ်လပ်တဲ့ဈေးကွက်တန်ဖိုးစံတွေကို သဘောတူလက်ခံထားခြင်းက နောက်ဆုံးမှာ ဒီမိုကရေစီဆီကိုဦးတည်တဲ့ ခြေလှမ်းကို တံခါးဖွင့်ကြိုဆိုလိမ့်မယ်လို့ ဟောကိန်းထုတ်ကြတယ်၊

ဒီမိုကရက်တစ်လူ့အဖွဲ့အစည်းတွေမှာ အစိုးရရဲ့ ကြားဝင်စွက်ဖက်မှုနဲ့ တစ်သီးပုဂ္ဂလအခွင့်အရေးတွေကြားမှာ အမြဲတမ်းအားပြိုင်မှုတစ်ရပ်ရှိနေသလို တချို့လူတွေကို စီးပွားဖြစ်တွန်းပေးပြီး တချို့သောနိုင်ငံသားတွေအပေါ်မှာတော့ အရင်းရှင်စနစ်ရဲ့ မမျှမတဆက်ဆံမှုတွေကို ဘယ်အတိုင်းအတာအထိခွင့်ပြုထားမလဲဆိုတဲ့အပေါ် အမြဲတမ်းလိုလို အငြင်းအခုန်ပြင်းခဲ့ကြရတယ်၊ ဒါပေမဲ့ အရင်းရှင်စနစ်အောက်က စီးပွားရေးတွေဟာ အခြားစနစ်တွေအောက်မှာထက် ပိုပြီးချမ်းသာကြွယ်ဝလာတယ်၊ ပိုပြီးလျှင်လျှင်မြန်မြန်တိုးတက်လာတယ်၊ ပိုပြီးခေတ်မီဆန်းပြားတဲ့နည်းပညာတွေကို တီထွင်ဖန်တီးပေးတယ်၊ ယေဘုယျအားဖြင့် ပိုပြီးနိုင်ငံရေးတည်ငြိမ်မှုရှိတယ်ဆိုတဲ့အမြင်ကို သဘောမတူတဲ့စီးပွားရေးပညာရှင်ကို ရှာတွေ့ဖို့ဆိုတာတော့ မလွယ်လှပါဘူး။ ဘာလင်တံတိုင်းနဲ့ ဆိုဗီယက်ယူနီယံပြိုကျသွားတဲ့အခါ အရင်းရှင်စနစ်က အနောက်နိုင်ငံတွေရဲ့စီးပွားရေးကို အရင်တွန်းမြှင့်စနစ်အောက်မှာ ရှိနေတဲ့နိုင်ငံတွေထက် အများကြီးပိုမိုကောင်းမွန်တဲ့ အခြေအနေတစ်ရပ်နဲ့ထားခဲ့တယ်။ ဒါကြောင့် အပြစ်အနာအဆာ ချို့ယွင်းချက်တွေအများအပြားရှိခဲ့ပေမယ့် အရင်းရှင်စနစ်ဟာ ခေတ်မီရှင်သန်ဖွံ့ဖြိုးနေတဲ့ စီးပွားရေးဘဝရပ်ကို လည်ပတ်စေဖို့ ရှာဖွေတွေ့ရှိထားတဲ့ အကောင်းဆုံးနည်းလမ်းတစ်ရပ်အဖြစ်ကျန်နေရစ်တာပဲဖြစ်တယ်။

**အနှစ်ချုပ်အတွေးအခေါ်**

**စီးပွားရေးတစ်ရပ်ကို လည်ပတ်ရာမှာ အကောင်းဆုံးနည်းလမ်း**

# ၀၉ - ကိန်းဝါဒ

## Keynesianism

**ကိန်းဘောဂဗေဒရဲ့အဓိကသော့ချက်က စီးပွားရေးတစ်ရပ်ကိုထိန်းချုပ်ဖို့ ကိရိယာတစ်ရပ်အနေနဲ့ ဘဏ္ဍာရေးပေါ်လစီ (အစိုးရအခွန်ကောက်ခံခြင်းနှင့်သုံးစွဲခြင်း)ကို အသုံးချသင့်တယ်ဆိုတဲ့အယူအဆဖြစ်တယ်။ ဒါဟာ ၂၀ ရာစု အကြီးကျယ်ဆုံး တွေးခေါ်ရှင်တွေထဲကတစ်ယောက်ဖြစ်တဲ့ ဗြိတိန်နိုင်ငံသားစီးပွားရေးပညာရှင်ဂျွန်မေးနတ်ကိန်း ထောက်ခံအားပေးခဲ့တဲ့အယူအဆတစ်ရပ်ပဲ။ သူ့အယူအဆတွေက မျက်မှောက်ခေတ်ကမ္ဘာကြီးရဲ့ စီးပွားရေးကို ပုံဖော်ဖို့ အထောက်အကူပြုခဲ့ပြီး ဒီအယူအဆတွေကို ဒီနေ့အချိန်အထိ ကျယ်ကျယ်ပြန့်ပြန့်လေးစားလိုက်နာနေရတုန်းပါပဲ။**

ကိန်းရဲ့အပြောင်မြောက်ဆုံးလက်ရာဖြစ်တဲ့ The General Theory of Employment, Interest and Money (1936)စာအုပ်ဟာ မဟာစီးပွားပျက်ကပ်ကြီးကိုပြည့်စုံတဲ့အဖြေထုတ်ပေးခဲ့တယ်၊ သူက အစိုးရတွေမှာ အခုအချိန်အထိ လျစ်လျူရှုထားခဲ့တဲ့တာဝန်တစ်ရပ်ရှိတယ်လို့ ဆိုတယ်။ အဲ့ဒီတာဝန်က ဒုက္ခသုက္ခတွေကြုံနေရချိန်မှာ အစိုးရတွေအနေနဲ့ ကြွေးပြီကင်းတဲ့အခြေအနေတစ်ရပ်ကို ထိန်းထားနိုင်အောင် ကူညီပံ့ပိုးမှုတွေလုပ်ဖို့ပဲ၊ ဒါဟာ ပြင်သစ်လူမျိုး Jean-Baptiste Say (1767-1832)တင်ပြခဲ့တဲ့ အယူအဆကို ပြစ်တင်ဝေဖန်လိုက်တာပဲဖြစ်တယ်၊ Say က စီးပွားရေးတစ်ရပ်လုံး အနေနဲ့တစ်ချိန်လုံး "ရောင်းလိုအားက သူ့ရဲ့ဝယ်လိုအားကို ဖန်တီးနေတယ်" လို့ဆိုတယ်၊ ကုန်ပစ္စည်းတွေ ထုတ်လုပ်နေခြင်းကိုက ဒီပစ္စည်းတွေအတွက် ဝယ်လိုအားကို အစပျိုးနိုးဆွပေးလိုက်တာလို့ ဆိုတဲ့သဘောပဲ။



### ဂျွန်မေးနတ်ကိန်း (၁၈၈၃ – ၁၉၄၆)

သီအိုရီတွေကို လက်တွေ့အသုံးချဖို့အခွင့်အရေးရခဲ့တဲ့ ရှားရှားပါးပါး စီးပွားရေးပညာရှင်တွေထဲက တစ်ယောက်လို့ဆိုရမယ်။ သူဟာ သူ့ဘဝသက်တမ်းတစ်လျှောက်လုံး ကျော်ကြားတဲ့ပညာရှင် တစ်ယောက်ဖြစ်ခဲ့ပြီး ဗာဂျီးနီးယားဝုဖ် နဲ့ အီးအမ် ဖော်စတာတို့ပါဝင်တဲ့ Bloomsbury Group ရဲ့ အဖွဲ့ဝင်တစ်ယောက်လည်းဖြစ်တယ်။ ပထမကမ္ဘာစစ်မှာ ကိန်းဟာ ဗြိတိန်ဘဏ္ဍာရေးဝန်ကြီးရဲ့ အကြံပေးလုပ်ခဲ့တယ်။ ဒါပေမဲ့ ပထမကမ္ဘာစစ်အပြီးမှာမှ ကျော်ကြားလာခဲ့တာဖြစ်တယ်၊ တဆိုင်း တချုပ်ရဲ့ ပြင်းထန်ရက်စက်တဲ့စည်းကမ်းသတ်မှတ်ချက်တွေကြောင့် ဂျာမနီမှာ အလွန်အမင်း ငွေကြေးဖောင်းပွမှုတွေဖြစ်ပြီး နောက်ထပ်ကမ္ဘာစစ်ကြီးတစ်ခုဖြစ်စေလိမ့်မယ်လို့ သူက အမြော်အမြင်ရှိရှိသတိပေးခဲ့တယ်၊ သမိုင်းက သူ့ယူဆချက်မှန်ကန်ကြောင်းသက်သေပံခဲ့တယ်၊

ကိန်းဟာ စတော့ဈေးကွက်မှာ ရင်းနှီးမြှုပ်နှံရာမှာ အောင်မြင်မှုရခဲ့တယ်၊ ဒါပေမဲ့ ၁၉၂၉ ခုနှစ် စီးပွားရေးအကြီးအကျယ်ပြိုကျပျက်စီးချိန်မှာတော့ အများအပြားဆုံးရှုံးခဲ့ရတယ်၊ ငွေကြေးဈေးကစားရာမှာတော့ သူ့ကံကြမ္မာ အကောင်းအဆိုးကဒွန်တွဲလျက်ပါပဲ၊

ဒုတိယကမ္ဘာစစ်မပြီးခင် သူမသေခင်အချိန်လေးမှာ အမေရိကန်ပြည်ထောင်စုကနေ အဓိကလိုအပ်တဲ့ချေးငွေတွေရဖို့ညှိနှိုင်းဆွေးနွေးခဲ့ပြီး နိုင်ငံတကာငွေကြေးရန်ပုံငွေအဖွဲ့နဲ့ ကမ္ဘာ့ဘဏ်ကို ပုံစံချစီစဉ်ရာမှာ ကူညီပံ့ပိုးခဲ့တယ်၊ ဒီအရေးပါတဲ့ စီးပွားရေးအင်စတီကျူးရှင်း နှစ်ခုဟာ နောက်ပိုင်းမှာ ကမ္ဘာ့စီးပွားရေးကို ပုံဖော်ပေးခဲ့တယ်၊

### စီးပွားရေးကို ရှတ်ခြည်းနာလန်ထူစေခြင်း

မဟာစီးပွားပျက်ကပ်ကြီး မကြုံရခင်အချိန်အထိ စီးပွားရေးတစ်ရပ်ကို လွှတ်ထားလိုက်ခြင်းက သူ့ဘာသာသူပိုပြီး လည်ပတ်အလုပ်လုပ်စေတယ်ဆိုတဲ့ အယူအဆရှိခဲ့ဖူးတယ်၊ ဒါဟာ ကိုယ်ပျောက် လက်အယူအဆပါပဲ (အခန်း ၁ ကို ကြည့်ပါ)၊ ကိုယ်ပျောက်လက်က အလုပ်အကိုင်ရရှိမှုကို

**အချိန်ပြဇယား**

| ၁၉၂၉ | ၁၉၃၃ | ၁၉၃၆ | ၁၉၇၀ နှစ်များ | ၂၀၀၈ |
|---|---|---|---|---|
| ဝေါလ်စထရိစတော့ဈေးကွက်ပြိုကျခြင်းက မဟာစီးပွားပျက်ကပ်ကြီးကို အစပျိုး | ဖရန်ကလင်ဒီ ရုဇဗဲလ့်က စီးပွားပျက်ကပ်ကြီးကို ရပ်တန့်သွားစေဖို့အတွက် အစိုးရအလုပ်အကိုင်တွေ ဖော်ထုတ်ဖေ… အစီအစဉ်ဖြစ်တဲ့ စီးပွားရေးအစီအစဉ်သစ် (New Deal) ကိုကြေညာ | The General Theory of Employment, Interest and Money စာအုပ်မှာ ကိန်းက အစိုးရတွေကို စီးပွားရေးဆုတ်ယုတ်ကျဆင်း နေချိန်တွေမှာ ငွေပိုချေးဖို့ တိုက်တွန်း | အနောက်အုပ်စုနိုင်ငံတွေဟာ ငွေကြေးဖောင်းပွမှုနဲ့ နုဝမ်းလုံး နေတာကြောင့် ကိန်းဝါဒ ရေပန်းစားမှု ကျဆင်းသွား | ကမ္ဘာတစ်ဝန်းက အစိုးရတွေဟာ စီးပွားရေးဆုတ်ယုတ်မှုကို တိုက်ထုတ်ဖို့ ငွေတွေချေးပြီး သုံးစွဲခဲ့ကြတာ ကြောင့် ကိန်းအယူအဆတွေ တစ်ကျော့ပြန်ခေတ်စားလာ |

"တကယ်တော့အခုအချိန်မှာကျွန်တော်တို့ဟာ အားလုံးကိန်းဝါဒီတွေချည်းပါပဲ။
ခေတ်သစ်မက်ခရိုဘောဂဗေဒပညာရှင်တွေ လုပ်ဆောင်ကြတဲ့အရာအတော်များများဟာ
အထွေထွေသီအိုရီ (The General Theory) တနေတိုက်ရိုက်ဆင်းသက် လာတာတွေပါ။
ကိန်းမိတ်ဆက်တင်ပြခဲ့တဲ့ဒီမူဘောင်ဟာ ဒီနေ့အထိကောင်းကောင်းစံနမူနာပြုစရာဖြစ်နေတုန်းပါပဲ။"

**Paul Krugman**
**အမေရိကန်စီးပွားရေးပညာရှင်**

အလိုအလျှောက်မြှင့်တင်ပေးပြီး စီးပွားရေးအခြေအနေကိုလည်း ယုံကြည့်စိတ်ချရတဲ့အဆင့်အထိ အလိုအလျှောက်မြှင့်တင်ပေးလိမ့်မယ်လို့ ယူဆခဲ့ကြတယ်။ ကိန်းက ဒါကိုပြင်းပြင်းထန်ထန် ဆန့်ကျင်ခဲ့တယ်။ စီးပွားရေးအကျဘက်ရောက်နေချိန်မှာ ကုန်ပစ္စည်းတွေရဲ့ဝယ်လိုအားတွေ ကျဆင်းလာခြင်းက စီးပွားရေးကိုကျုံ့သွား စေသလို၊ အလုပ်လက်မဲ့တွေတိုးပွားလာစေပြီး စီးပွားရေးအခြေအနေကို ပြင်းပြင်းထန်ထန်ထိုးစိုက်ကျဆင်းသွားစေတယ်လို့ သူကဆိုတယ်၊ ဒီအခြေအနေမှာ အစိုးရတစ်ရပ်ဟာ ငွေတွေချေးပြီးသုံးစွဲပေးခြင်းအားဖြင့် စီးပွားရေးကို ရုတ်ချည်းနာလန်ထူလာအောင်လုပ်ဖို့ တာဝန်ရှိပါတယ်။ အများပြည်သူဆိုင်ရာကဏ္ဍတွေမှာ ဝန်ထမ်းတွေကို ဖုတ်ပြတ်ငှားရမ်းမယ်။ အများပြည်သူဆိုင်ရာအခြေခံဆောက်အအုံစီမံကိန်းတွေမှာ ငွေတွေသုံးစွဲပစ်မယ်။ ဥပမာ – ကားလမ်းတွေ၊ မီးရထားလမ်းတွေ၊ ဆေးရုံတွေ၊ စာသင်ကျောင်းတွေဆောက်တာမျိုးပေါ့။ အတိုးနှုန်းတွေ ဖြတ်တောက်လျှော့ချလိုက်ခြင်းကလည်း စီးပွားရေးတစ်ရပ်ကို မြှင့်တက်လာစေနိုင်တယ် (အခန်း ၁၈ ကိုကြည့်ပါ)။ ဒါပေမဲ့ ဒါတွေက ပြည့်စုံတဲ့အဖြေတွေတော့ မဟုတ်ဘူးဆိုတာနားလည်ထားရမယ်။ ကိန်းရဲ့အလိုအရတော့ အစိုးရက အပိုဆောင်းသုံးလိုက်တဲ့ငွေကြေးတွေ (extra cash) က စီးပွားရေး ကိန်းရဲ့အလိုအရ ကို ခေါင်းပြူထွက်လာစေလိမ့်မယ်လို့ဆိုတယ်၊ ဥပမာ – ကားလမ်းသစ်တစ်လမ်း ဖေါက်လုပ်ခြင်းက ဆောက်လုပ်ရေးလုပ်ငန်းတွေအတွက် အလုပ်အကိုင်ကို ဖန်တီးပေးတယ်။ ဒီလုပ်ငန်းက အလုပ်သမားတွေဟာ သူတို့ရတဲ့ပိုက်ဆံကို စားစရာတွေ၊ အခြားသောကုန်စည်နဲ့ ဝန်ဆောင်မှုတွေအတွက် ပြန်သုံးကြတယ်။ ဒီလိုနဲ့စီးပွားရေးဟာ ပိုကျယ်ပြန့်လာပြီး လည်ပတ်ဖို့ အရှိန်ပြန်ရလာလိမ့်မယ်လို့ သူက ယူဆတယ်။ သူ့ရဲ့အဓိကဆိုလိုရင်းအာဘော်ကတော့ မြှောက်ကိန်း (multiplier) အယူအဆပဲ။

အမေရိကန်အစိုးရဟာ ဒေါ်လာ ၁၀ ဘီလီယံတန် လေယာဉ်တင်သင်္ဘောတစ်စင်းကို Northrop Grumman သင်္ဘောတည်ဆောက်ရေး ကုမ္ပဏီထံကနေ မှာယူလိုက်တယ်ဆိုပါစို့။ ဒါရဲ့ အကျိုးဆက်



က စီးပွားရေးထဲကို ဒေါ်လာ ၁၀ ဘီလီယံထည့်သွင်းမြှုပ်နှံလိုက်ရုံ သက်သက်လို့ ယူဆစရာဖြစ်ကောင်း ဖြစ်လိမ့်မယ်။ မြှောက်ကိန်းသဘောတရားအရတော့ တကယ့်အကျိုးဆက်က ဒီ့ထက်ပိုကြီးပါလိမ့်မယ်၊ Northrop Grumman ကုမ္ပဏီဟာ အလုပ်သမားတွေ ပိုပြီးငှားရမ်းရမှာဖြစ်သလို အမြတ် အစွန်းတွေလည်းပိုရလာလိမ့်မယ်။ သူ့ရဲ့အလုပ်သမားတွေကလည်း စားသုံးကုန်ပစ္စည်းတွေကို ပိုပြီးဝယ်ယူသုံးစွဲကြလာကြမယ်။ ပျမ်းမျှစားသုံးလိုမှုအချိုး (average consumer's "propensity to consume") ပေါ်မူတည်ပြီး လက်တွေ့မှာ ထည့်သွင်းမြှုပ်နှံ လိုက်တဲ့ပြည်သူ့ဘဏ္ဍာငွေ ပမာဏထက် အများကြီးပိုပြီး စုစုပေါင်းစီးပွားရေးကုန်ထွက် (output) ကို တိုးလာစေနိုင်တယ်။

ဒေါ်လာ ၁၀ ဘီလီယံတိုးပြီးရင်းနှီးမြှုပ်နှံလိုက်ခြင်းကြောင့် အမေရိကန်ပြည်ထောင်စုရဲ့ စုစုပေါင်းစီးပွားရေးကုန်ထွက်ကို ဒေါ်လာ ၅ ဘီလီယံတိုးလာစေတယ်ဆိုရင် မြှောက်ကိန်းတန်ဖိုးက ၀.၅ ဖြစ်လိမ့်မယ်၊ တကယ်လို့ ၁၅ ဘီလီယံတိုးလာတာ ဆိုရင်တော့ မြှောက်ကိန်းတန်ဖိုးက ၁.၅ ဖြစ်မယ်။

## ဘဝိကဝါဒရေးရာရေသောက်မြစ်ချောက်ရပ်

သမ္မတအကြံပေးဟောင်း Alan Blinder ရဲ့အလိုအရ ကိန်းဝါဒရဲ့နောက်ကွယ်မှာ ဝါဒရေးရာ ရေသောက်မြစ် ခြောက်ရပ်ရှိတယ်လို့ဆိုတယ်။

၁၊ စီးပွားရေးအခြေအနေတစ်ရပ်ရဲ့ ဖွံ့ဆောင်နိုင်မှုကို အစိုးရနဲ့ပုဂ္ဂလိကနှစ်ရပ်စလုံးရဲ့ ဆုံးဖြတ်ချက်တွေက လွှမ်းမိုးထားပြီး တစ်ခါတစ်ရံမှာ ခုတစ်မျိုးတော်ကြာတစ်မျိုးအပြောင်းအလဲ မြန်စွာ ပြုမူတတ်တယ်လို့ ကိန်းဝါဒီတွေက ယုံကြည်ကြတယ်၊

၂၊ ရေတိုပြဿနာတွေ – တစ်ခါတစ်ရံမှာတော့ ရေရှည်ထက်ပိုသွားသေးတယ်။ တိုင်းပြည်စီးပွားရေးကို အမြဲတမ်းဒဏ်ရာဒဏ်ချက်တွေချန်ထားရစ်စေနိုင်တာကြောင့် အလုပ်လက်မဲ့မြင့်တက်လာမှု ရေတိုပြဿနာဟာ ရေရှည်မှာ ပိုလို့တောင် ထိခိုက်ပျက်စီးမှုတွေ ဖြစ်လာနိုင်သေးတယ်။ ဒါကြောင့် ကိန်းက "ရေရှည်မှာတော့ ကျွန်တော်တို့အားလုံး ပျက်စီးဆုံးရှုံးသွားရမယ်" လို့ လူသိရှင်ကြားပြောခဲ့တာပဲ။

၃၊ ဈေးနှုန်းတွေ၊ အထူးသဖြင့် လုပ်အားခတွေဟာ ဝယ်လိုအားနဲ့ ရောင်းလိုအားအပြောင်းအလဲ တွေကို တဖြည်းဖြည်းပဲ တုံ့ပြန်တယ်။ တစ်နည်းပြောရရင် စီးပွားရေးအခြေအနေအားကောင်း နိုင်မာနေစေဖို့ ရှိသင့်တဲ့ပမာဏထက် အလုပ်လက်မဲ့မြင့်တက်နေတာ၊ ဒါမှမဟုတ် ကျဆင်းနေတာမျိုး မကြာခဏဖြစ်တာတွေ့ရတယ်။

၄။ စီးပွားရေးကျဆင်းမှုနဲ့ စီးပွားရေးကပ်ဆိုးတွေဟာ စီးပွားရေးရောဂါဆိုးတွေအဖြစ် ဝွဲကပ်နေချိန်မှာ

အလုပ်လက်မဲ့ဦးရေဟာ မကြာခဏမြင့်လွန်းပြီး မတည်မငြိမ်ဖြစ်တတ်တယ်။ အဲဒီအချိန်မျိုးမှာ ထွဲဆောင်မှုမရှိတဲ့ အခွင့်အလမ်းတွေကို ဈေးကွက်က ထိထိရောက်ရောက်မတုံ့ပြန်နိုင်တာကြောင့်ပဲ။ အလုပ်လက်မဲ့ဦးရေဟာ မကြာခဏမြင့်လွန်းပြီး မတည်မငြိမ်ဖြစ်တတ်တယ်။

၅။ သဘာဝအလျောက်ဖြစ်ရိုးဖြစ်စဉ် စီးပွားရေးအတက်အကျဖြစ်ခြင်းဆိုတာ အစိုးရတွေအနေနဲ့ တည်တည်ငြိမ်ငြိမ်ဖြစ်အောင် တက်တက်ကြွကြွကြိုးပမ်းအားထုတ်ရမယ့် ပြဿနာပဲလို့ ယူဆသေးတယ်၊

၆။ ကိန်းဇ်ဝါဒီတွေဟာ ငွေကြေးဓါင်းပွမှုကို တိုက်ဖျက်ဖို့ထက် အလုပ်လက်မဲ့ပြဿနာကို ဖြေရှင်းဖို့ ပိုပြီး စိတ်ဝင်စားတတ်ကြတယ်။

## အငြင်းပွားဖွယ်သဘောတရား

ကိန်းဇ်ဝါဒဟာ အမြဲတမ်း အငြင်းပွားဖွယ်ရာဖြစ်နေတယ်။ ကိန်းဇ်ဝါဒကို ဝေဖန်သူတွေ အဓိကမေးလေ့ရှိတာက အစိုးရတွေဟာ စီးပွားရေးတင်းရပ်ကို လည်ပတ်စေဖို့ အကောင်းဆုံးနည်းလမ်းကို သိကြတယ်လို့ ဘျှန်တော်တို့ ယူဆသင့်သလား။ စီးပွားရေးမတည်ငြိမ်မှုဆိုတာ တကယ်ပဲ အန္တရာယ်များတဲ့ ဖျက်နှာစာတစ်ခုလားဆိုတဲ့မေးခွန်းတွေပဲ။ ဘာပဲဖြစ်ဖြစ် ကိန်းဇ်ရဲ့ဆွေးနွေးငြင်းခုံမှုတွေဟာ ၁၉၃၀ နှစ်တာလတွေမှာဖြစ်ပွားခဲ့တဲ့ ပေါာစီးပွားပျက်ကပ်ကြီးကို အဖြေရှာဖို့ အထောက်အကူဖြစ်စေခဲ့တယ်၊ ဒီအကျပ်အတည်းကို ဖြေရှင်းဖို့ ဖရန်ကလင် ဒီ ရုစဗဲ့လ်ရဲ့ New Deal လို့ခေါ်တဲ့ စီးပွားရေးမူဝါဒ ဘင်ပေါ်ထွက်လာခဲ့တယ်၊ ဒီမူဝါဒအရ စီးပွားပျက်ကပ်အလယ်လောက်မှာ ဘီလီယံချီ ငွေကြေးသုံးစွဲပြီး စီးပွားရေးကိုနှလန် ထူလာစေဖို့ အစိုးရတစ်ရပ်အနေနဲ့ ချူဆီတည့်သွင်းခဲ့တဲ့ ဒီလုပ်ရပ်ဟာ ဂန္တဝင်တွင် ခဲ့တဲ့ ဥပမာတစ်ရပ်ပါပဲ။ ဒီလုပ်ရပ်ကြောင့်လား၊ ဒါမှမဟုတ် ဒုတိယကမ္ဘာစစ်ကြီးကပဲ စီးပွားပျက်ကပ်ကြီး ကို အဆုံးသတ်စေခဲ့တာလားဆိုတာကတော့ ငြင်းပြင်းထန်ထန် ဆက်လက်ငြင်းခုံနေကြရတုန်းပါပဲ၊ ဒါပေမယ့် အားကောင်းတဲ့အမှာစကားကတော့ အစိုးရအသုံးစရိတ်က အလုပ်ဖြစ်ခဲ့တယ်ဆိုတာပါပဲ၊

အထွေထွေသီအိုရီပေါ်ထွက်လာပြီးနောက်ပိုင်းမှာ ကမ္ဘာတစ်ဝန်းက အစိုးရတွေဟာ သူတို့ရဲ့ပြည်သူ့ အသုံးစရိတ်တွေကို တဖြည်းဖြည်းတိုးမြှင့်လာခဲ့ကြတယ်။ ဒီနေရာမှာ တစ်စိတ်တစ်ဒေသအနေနဲ့တော့ အလုပ်လက်မဲ့ဦးရေမြင့်တက်လာတဲ့ အကျိုးဆက်ကို ကိုင်တွယ်ဖို့ လူမှုထောက်ပံ့ရေးစနစ် ထူထောင်ဖို့ဆိုတဲ့ လူမှုရေးအကြောင်းတရားတွေကြောင့်လည်းဖြစ်တယ်။ တစ်စိတ်တစ်ဒေသ အားဖြင့်တော့ စီးပွားရေးရဲ့အရေးပါတဲ့နေရာတော်တော်များများကို ထိန်းချုပ်ထားဖို့ အစိုးရတွေရဲ့ အရေးပါပုံကို ကိန်းဇ်စီးပွားရေးအယူအဆက မီးမောင်းထိုးပြခဲ့တာကြောင့်ပဲ။

ဒါကအချိန်အတော်ကြာအောင် ငွေကြေးဖောင်းပွမှုနဲ့ အလုပ်လက်မဲ့ဦးရေကိုလည်း



အတော်လေးကျဆင်းသွားစေပြီး စီးပွားရေးအခြေအနေကိုလည်း ခိုင်မာလာစေပုံပါပဲ၊ ဒါပေမဲ့ ၁၉၇၀ နှစ်တွေမှာတော့ ကိန်းဇ်ဝါဒီတွေရဲ့ မူဝါဒတွေဟာ တိုက်ခိုက်ခံလာရတယ်။ အထူးသဖြင့်တော့ ငွေကြေးဝါဒီတွေ (monetarists)ရဲ့ တိုက်ခိုက်မှုကို ပိုပြီးခံလာရတယ် (အခန်း ၁၀ ကိုကြည့်ပါ)။ ငွေကြေးဝါဒီတွေက အလုပ်အကိုင်ရရှိမှုမြင့်မားအောင်ထိန်းထားဖို့ ဘဏ္ဍာရေးနဲ့ ငွေကြေးပေါ်လစီကို ပုံမှန်ပြင်ဆင်ထိန်းညှိတာနဲ့တော့ အစိုးရတွေအနေနဲ့ စီးပွားရေးတစ်ရပ်ကို အသေးစိတ်ချိန်ညှိနိုင်မှာ မဟုတ်ဘူးလို့ဆိုတယ်။ ပေါ်လစီတစ်ရပ်အတွက် လိုအပ်ချက်ကို နားလည်သဘောပေါက်ခြင်းနဲ့ ဒီပေါ်လစီရဲ့လက်တွေ့သက်ရောက်မှုကြားကာလဟာ သိပ်ပြီး ရှည်လျားလွန်းတယ်။ ပေါ်လစီချမှတ်သူတွေက ပြဿနာကို လျင်လျင်မြန်မြန်ခွဲခြားဖော်ထုတ်နိုင်ရင်တောင်မှ ဒီအတွက် ဥပဒေကြမ်းရေးဆွဲဖို့နဲ့ ပြဋ္ဌာန်းဖို့တွေအတွက် အချိန်ကြာဦးမှာဖြစ်တယ်၊ ဒီထက်ပိုကြာတာက ပိုမိုကျယ်ပြန့်တဲ့ စီးပွားရေးတစ်ရပ်လုံးကနေ တဖြည်းဖြည်းချင်းအခွန် လျှော့ချမှုတွေ လုပ်ဖို့ပါပဲ၊ အခွန်လျှော့ချမှုတွေ တကယ်သက်ရောက်မှုရှိလာချိန်မှာ ဖြေရှင်းဖို့ လုပ်ထားတဲ့ပြဿနာက ပိုဆိုးချင်လည်းဆိုးနေလောက်ပြီ၊ ဒါမှမဟုတ် ပြီးပြီးပျောက်ပျောက် ဖြစ်ချင်လည်းဖြစ်နေလောက်ပါပြီ။

ဒါပေမဲ့လည်း ဖြစ်ချင်တော့ ၂၀၀၈ ခုနှစ်ဘဏ္ဍာရေးအကျပ်အတည်းကာလမှာ ကိန်းဇ်ဟာ တစ်ကျော့ပြန် ခေတ်စားလာခဲ့တယ်။ အမေရိကန်ပြည်ထောင်စု၊ ယူနိုက်တက်ကင်းဒမ်းနဲ့ တခြားသောစီးပွားရေးတွေဆုတ်ယုတ်ကျဆင်းနေတာကို တားဆီးဖို့ အတိုးနှုန်းလျှော့ချတာ လောက်နဲ့ မလုံလောက်ဘူးဆိုတာ ထင်ရှားလာတာကြောင့် အစိုးရတွေအနေနဲ့ အခွန်တွေလျှော့ချ နိုင်ဖို့နဲ့ အသုံးစရိတ်ကို မြှင့်တင်နိုင်ဖို့ ငွေချေးသင့်တယ်လို့ စီးပွားရေးပညာရှင်တွေကတိုက်တွန်း ခဲ့ကြတယ်။ ဒါဟာ လွန်ခဲ့တဲ့ နှစ်ဆယ့်ငါးနှစ်လောက်က အသည်းအသန်ရပ်တန့်ပစ်သင့်တယ်လို့ သူတို့ ကျယ်ကျယ်ပြန့်ပြန့်မြင်ခဲ့တဲ့အရာကို အတိအကျကိုပြန်လုပ်နေရတော့တာပါပဲ။ ဘာပဲဖြစ်ဖြစ် သဘောထားကွဲလွဲမှုတွေကို ဆန့်ကျင်ပြီး ကိန်းဇ်ကတော့ ပြန်လာခဲ့ပါပြီ၊

### အနှစ်ချုပ်အတွေးအခေါ်

**နက်ရှိုင်းတဲ့စီးပွားရေးကျဆင်းမှုတွေဖြစ်ပလာအောင် တားဆီးဖို့ အစိုးရတွေဟာ ငွေကြေးသုံးစွဲသင့်တယ်**

# ၁၀ - ငွေကြေးထိန်းချုပ်ရေးဝါဒ

## Monetarism

**မွန်ဖေးနတ်ကိန်းနှင့် မီလ်တန်ဖရိုင်းမင်းတို့နှစ်ယောက်ရဲ့ စီးပွားရေးအမြင်တွေဟာ လုံးဝကွဲပြားနေခဲ့တယ်။ သူတို့နှစ်ယောက်စလုံးဟာ အံ့သြလောက်အောင် ဉာဏ်ရည်ထက်မြက်ကြသလို မကြာခဏဆိုသလို ငေါ်လုံးတွေနဲ့ ငြင်းခုံတတ်ကြသူတွေလည်းဖြစ်တယ်။ ဒါပေမဲ့ သူတို့နှစ်ယောက်ရဲ့ နောက်ခံသမိုင်းကြောင်းကတော့ မတူကြဘူး။ တစ်ယောက်က အီတန်ကောလိပ်ထွက် အင်္ဂလိပ်လူမျိုး။ နောက်တစ်ယောက်ကတော့ ဟန်ဂေရီ-ဂျူးအနွယ်၊ ဘရွတ်ကလင်မှာမွေးဖွားသူ။ အမှန်ကတော့ သူတို့နှစ်ယောက်ဟာ အရင်းအမြစ်ကျကျ ဆန့်ကျင်နေတဲ့အယူအဆတွေကို ရပ်တည်ခဲ့ကြသူတွေပါ။ လွန်ခဲ့တဲ့ နှစ် ၅၀ လုံးလုံး စီးပွားရေးဆိုင်ရာအယူအဆရေးရာတိုက်ပွဲဟာ သူတို့ကိုကိုယ်စားပြုခဲ့တယ်။**

ကိန်းက ငွေကြေးဖေါင်းပွမှုထက် အလုပ်လက်မဲ့ဦးရေကို ပိုပြီးအာရုံစိုက်တယ်၊ အစိုးရရဲ့ တစ်စုံတစ်ရာဝင်ရောက် စွက်ဖက်မှုက စီးပွားရေးကို တိုးတက်စေနိုင်တယ်လို့ သုံးသပ်ပေးခဲ့တယ်၊ ဖရိုင်းမင်းကတော့ လူတွေကို အချုပ်အချယ်မရှိလွှတ်ထားသင့်တယ်လို့မြင်တယ်။ အစိုးရရဲ့အဓိကတာဝန်ကနိုင်ငံရဲ့စီးပွားရေးမှာလည်ပတ်စီးဆင်းနေတဲ့ ငွေကြေးပမာဏကိုစောင့်ကြည့်ထိန်းချုပ်ဖို့ပဲလို့ ဖရိုင်းမင်းယူဆတယ်။ Anna Schwartz နဲ့တွဲဖက်ရေးသားခဲ့တဲ့ A Monetary History of the United States (1867-1960) စာအုပ်မှာ ငွေကြေးထိန်းချုပ်ရေးသီအိုရီတွေကို ဖရိုင်းမင်းက တင်ပြခဲ့တယ်။

### အချိန်ပြဇယား

| ၁၉၁၂ | ၁၉၇၁ |
|---|---|
| မီလ်တန်ဖရိုင်းမင်းကိုမွေးဖွား | ဖရိုင်းမင်းနဲ့ Anna Schwartz တို့ရေးသားခဲ့တဲ့ A Monetary History of the United States စာအုပ်ထုတ်ဝေ |



### မီလ်တန် ဖရိုင်းမင်း (၁၉၁၂ - ၂၀၀၆)

မီလ်တန် ဖရိုင်းမင်းဟာ ခေတ်သစ်ဘောဂဗေဒမှာ လွှမ်းမိုးမှုအရှိဆုံးတွေးခေါ်ရှင်တစ်ယောက် ဖြစ်တယ်။ သူ့ကို နယူးယောက်မြို့တော်၊ ဘရွတ်ကလင်းက ဆင်းရဲတဲ့ ဟန်ဂေရီ - ဂျူးအနွယ် မိသားစုက မွေးဖွားခဲ့တယ်။ သူဟာ ကျောင်းမှာ တတော်တဲ့ ကျောင်းသားတစ်ယောက်ဆိုတာ ပြသခဲ့တယ်။ Rutgers တက္ကသိုလ်မှာ ပညာသင်ပြီးတဲ့နောက် ချီကာဂိုတက္ကသိုလ်မှာ ဘွဲ့လွန်ဆက်တက်ခဲ့တယ်။ ချီကာဂိုတက္ကသိုလ်မှာပဲ အလုပ်လုပ်ကိုင်ရင်း မကြာခင်မှာပဲ သူ့ရဲ့လွှမ်းမိုးမှုအောက်မှာ ချီကာဂိုတက္ကသိုလ်ဟာ စီးပွားရေးပညာရပ်တွေဆွေးနွေးတဲ့ ကမ္ဘာ့ထင်ရှားနေရာတစ်ခုဖြစ်လာတယ်၊ ဒုတိယကမ္ဘာစစ်အတွင်းမှာ ကိန်းရဲ့အစိုးရငွေကြေး သုံးစွဲရေးပေါ်လစီတွေကို ဖက်ဒရယ်အစိုးရကထောက်ခံနေတဲ့အချိန်မှာ သူက အစိုးရဌာနတွေမှာ တာဝန်ထမ်းဆောင်ခဲ့တယ်၊ ၁၉၆၀ နှစ်တွေမှာ ငွေကြေးထိန်းချုပ်ရေးဆိုင်ရာ သူ့ရဲ့အတွေးအခေါ်တွေဟာ ကာကယ့်ကို ထင်ပေါ်ကျော်ကြားလာခဲ့ပြီး ၁၉၇၆ ခုနှစ်မှာ စီးပွားရေးပညာဆိုင်ရာနိုဗယ်ဆု ချီးမြှင့်ခြင်းခံခဲ့ရတယ်။

### ငွေကြေးဖေါင်းပွမှုကို အမြဲတမ်းတိုက်ဖျက်ပါ

"ငွေကြေးဖေါင်းပွမှုဆိုတာ အချိန်မရွေး၊ နေရာမရွေးဖြစ်တတ်တဲ့ ငွေကြေးဆိုင်ရာဖြစ်ရပ်တစ်ခုပဲ" လို့ ဖရိုင်းမင်းကဆိုတယ်၊ ပိုတိုနဲ့လိုရင်းပြောရရင် (ကိန်းဝါဒီတွေလုပ်လေ့ရှိတဲ့) စီးပွားရေးစနစ်တစ်ရပ်ထဲကို ထပ်ဆောင်းငွေကြေးတွေ ထည့်သွင်းလိုက်ခြင်းအားဖြင့် အစိုးရတွေဟာ ငွေကြေးဖေါင်းပွမှုကိုစတင် ဖြစ်ပေါ်စေတယ်၊ ဒါဟာ စီးပွားရေးမှာ အရေးကြီးတဲ့ ထိရိုက်နာကျင်စေမှု ကိုအရဲကိုးစွန့်စားလုပ်ဆောင် လိုက်တာပဲ၊ ဗဟိုဘဏ်တွေကို ဈေးနှုန်းထိန်းချုပ်မှုတွေကို ထိန်းသိမ်းဖို့ တာဝန်သာပေးထားမယ်ဆိုရင် အလုပ်လက်မဲ့ပြဿနာ၊ စီးပွားရေးတိုးတက်မှု၊ ကုန်ထုတ်သတ္တိစတဲ့ စီးပွားရေးရဲ့တခြားမျက်နှာစာ အများစုကို အနည်းနဲ့အများဆိုသလို ဂရုစိုက်ပြီးသားဖြစ်လိမ့်မယ်လို့ ဖရိုင်းမင်းက ယုံကြည်တယ်။

| ၁၉၈၀ နှစ်များ | ၂၀၀၆ |
|---|---|
| အတ္တလန္တိတ်သမုဒ္ဒရာရဲ့တစ်ဖက်စီမှာရှိတဲ့ ရေဂင်နဲ့ ဟာချာ်သက်ချာအစိုးရတွေက ဖရိုင်းမင်းရဲ့ အယူအဆတွေဘက်က ရပ်ခံကာကွယ်ပေး | ဖရိုင်းမင်းကွယ်လွန် |

လုပ်ခတွေလျှော့နည်းလာတာကို အလုပ်သမားတွေလက်ခံဖို့ဆိုတာ အတော်လေးခက်ခဲတယ်လို့ ကိန်းက အနိုင်အမာပြောခဲ့တယ်။ တစ်ဖက်မှာလည်း ငွေကြေးထိန်းချုပ်ရေးကျမ်းရိုးဝါဒီတွေက အလုပ်သမားတွေအတွက် ဝင်ငွေလျော့ကျလာခြင်းနဲ့ လုပ်ငန်းတွေအတွက် ဈေးနှုန်းကျဆင်းလာခြင်းတွေဟာ ငွေကြေးဖေါင်းပွမှုမြင့်တက်လာတာနဲ့ ရင်ဆိုင်ရတဲ့အခါ လက်ခံနိုင်ဖွယ်ရာရှိတယ်လို့ ဆိုကြတယ်။ ဗဟိုဘဏ်တွေက ပုံနှိပ်ထုတ်ဝေနေတဲ့ ငွေကြေးပမာဏကို ထိန်းချုပ်ခြင်းအားဖြင့် စီးပွားရေးတိုးတက်မှုနှုန်းကို ဖန်တီးပေးနိုင်လိမ့်မယ်လို့ ဖရိုင်းမင်းက ယူဆတယ်။ ငွေစက္ကူတွေ ပိုရိုက်ထုတ်လေ၊ လူတွေက ပိုသုံးလေဖြစ်လိမ့်မယ်။ ဒါက အမြန်အလှန်သဘောပါပဲ။ ဒီအယူအဆက ငွေကြေးရဲ့အရေးပါမှုကို ဘေးဖယ်ထားတဲ့ ကိန်းဝါဒ နဲ့တော့ တခြားစီပါပဲ။ အရေးကြီးတဲ့ နိုင်ငံရေးဆိုင်ရာ အယူအဆ မတူညီမှုတွေလည်း ရှိပါသေးတယ်။ ကိန်းက နိုင်ငံရေးသမားတွေအနေနဲ့ ဘဏ္ဍာရေး ပေါ်လစီ (fiscal policy)ကနေတစ်ဆင့် စီးပွားရေးကို ထိန်းချုပ်ဖို့ အားထုတ်သင့်တယ်လို့ တိုက်တွန်းခဲ့တယ်၊ ဖရိုင်းမင်းကတော့ (တင်းကြပ်တဲ့ စည်းမျဉ်းတရို့ရှိပေမယ့်) အတိုးနှုန်းကိုသုံးပြီး စီးပွားရေးကိုထိန်းချုပ်ဖို့ ဗဟိုဘဏ်တွေကို လွတ်လပ်ခွင့်ပေးဖို့ ထောက်ခံအားပေးခဲ့တယ်၊

> ဖရိုင်းမင်းရဲ့ငွေကြေးဆိုင်ရာမူဘောင်ဟာ အလွန်ကြီးမားတွင်ကျယ်စွာ သက်ရောက်ခဲ့တယ်။ ဒါကြောင့် အနိမ့်ဆုံးယေဘုယျအကြမ်းဖျင်း လေ့ရှိချက်တွေနဲ့ တင်ဒီငွေကြေးဆိုင်ရာ အသောက်အအုံဟာ ခေတ်သစ်ငွေကြေးထိန်းချုပ်ရေး သဘောတရားတွေနဲ့ ထပ်တူကျလုနီးပါး ဖြစ်လာနေခဲ့တယ်။
>
> Ben Bernanke

စီးပွားရေးအကျဘက်အလှည့်အပြောင်းမှာ စီးပွားရေးစနစ်ထဲကို ငွေတွေထပ်ထည့်ခြင်းအားဖြင့် ဗဟိုဘဏ်တွေက ငွေကျခြင်း (deflation)ကို တားဆီးသင့်တယ်လို့ ဖရိုင်းမင်းက ပြောခဲ့တယ်။ ဒီဆင်ခြင် သုံးသပ်မှုအရ မဟာစီးပွားပျက်ကပ်ကြီး အကြိုကာလမှာ Federal Reserve အနေနဲ့ အမေရိကန်ဘဏ်တွေကို တင်းကျပ်တဲ့ဥပဒေတွေ၊ အမိန့်တွေ ထုတ်ပြန်တဲ့အမှားကို ကျူးလွန်ခဲ့တာကြောင့် အများအပြားပျက်စီးဆုံးရှုံးခဲ့ရသလို စီးပွားရေးတိုးတက်မှုမရှိတော့ဘဲ ပိုလို့တောင် အထိနာခဲ့ရတယ်လို့ သူက ဆိုတယ်၊ ဒါကြောင့် သာမန်စီးပွားရေးကျဆင်းမှုလေးကနေ နောက်ဆုံးမှာ စီးပွားပျက်ကပ်ကြီးအဖြစ် ပြောင်းလဲသွားရတဲ့အတွက် သူကတော့ Federal Reserve အဖွဲ့ကို အပြစ်တင်ခဲ့တယ်။



## သူ့ခေတ်ကို ရောက်လာခဲ့ပြီ

အစောပိုင်းမှာ အစွန်းရောက်လွတ်လပ်တဲ့ဈေးကွက်အဆိုပြုချက်တွေနဲ့ ခင်းကျင်းသေးတဲ့ အခင်းအကျင်းကြီးတစ်ခုလုံးမှာ ဖရိုင်းမင်းတင်ပြခဲ့တဲ့ ဆွေးနွေးငြင်းခုံမှုတွေကို သိပ်ပြီးအလေးမထားခဲ့ကြဘူး။ ဒီအဆိုပြုချက်တွေထဲမှာ စေတနာ့ဝန်ထမ်းစစ်မှုထမ်းစေရေး၊ ငွေလဲနှုန်းကိုအရှင်မျှောခွင့်ပြုရေး၊ ပညာရေးဆိုင်ရာ ကူပွန်စနစ်ကို စတင်ရေး၊ လူမှုလုံခြုံရေးကဏ္ဍကို ပုဂ္ဂလိကသို့လွှဲပြောင်းပေးရေးနှင့် negative income tax စနစ်တည်ထောင်ပေးရေးတွေ ပါဝင်တယ်။ တကယ်တော့ ကိန်းဝါဒဟာ ၁၉၆၀ နှစ်တွေမှာ ကောင်းကောင်းအလုပ်ဖြစ်နေခဲ့ပုံရတယ်။ တိုးတက်မှုက ပုံမှန်တည်တည်ငြိမ်ငြိမ်ရှိနေတယ်၊ ငွေကြေးဖောင်းပွမှုလည်း နိမ့်ကျနေခဲ့ပြီး အလုပ်လက်မဲ့ဦးရေကိုလည်း ထိန်းချုပ်ထားနိုင်ခဲ့တယ်၊ ဖိလစ်မျဉ်းကွေးကပြောတဲ့အရာတွေဟာ မဖြစ်နိုင်သလောက်ပဲဆိုပြီး၊ ဒီပေါ်လစီတွေက ငွေကြေးဖေါင်းပွမှုနဲ့အလုပ်လက်မဲ့ဦးရေကို တိုးတက်လာစေနိုင်တယ်လို့ ရပ်ခံငြင်းခုံနေတဲ့ လူငယ်စီးပွားရေးပညာရှင်လေးကဘယ်သူပါလဲ (အခန်း ၂၂ ကိုကြည့်ပါ)။

ဒို့နောက်ပိုင်းမှာ ရေနံရှော့နဲ့ ၁၉၇၀ ပြည့်လွန်နှစ်တွေရဲ့ စီးပွားရေးကသောင်းကနင်းကာလကို ရောက်လာတယ်။ အနောက်ကမ္ဘာဟာ စီးပွားရေးအိလည်လည်ဖြစ်နေတဲ့အခြေအနေ (stagflation) ကို တောင့်ခံနေခဲ့ရတယ်၊ ဒီအခြေအနေမှာ စီးပွားရေးတိုးတက်မှုကျဆင်းသွားပြီး ငွေကြေးဖောင်းပွမှုနဲ့ အလုပ်လက်မဲ့တွေမြင့်တက်တိုးပွားလာခဲ့တယ်၊ ကိန်းဘောဂဗေဒက ဒီအတွက် အဖြေထုတ်ပေးနိုင်မယ့်ပုံမပေါ်တာကြောင့် ဖရိုင်းမင်းရဲ့သီအိုရီကို လမ်းဖွင့်ပေးသလို ဖြစ်သွားခဲ့တယ်၊ ဒီလို ရလဒ်မျိုးဖြစ်လာမယ်လို့ သူက ကြိုပြီးဟောကိန်းထုတ်ခဲ့ပြီးသားပါ။ သူက ငွေကြေးဖေါင်းပွမှုကို တိုက်ပါ၊ အလုပ်လက်မဲ့ပြဿနာကိုပတိုက်ပါနဲ့လို့ အဖြေထုတ်ပေးခဲ့တယ်၊

အတ္တလန္တိတ်သမုဒ္ဒရာရဲ့တစ်ဖက်တစ်ချက်ဆီက ဥရောပတိုက်ရော၊ အမေရိကတိုက်က နိုင်ငံရေးသမားတွေကပါ သူ့ရဲ့အယူအဆကို တဖြည်းဖြည်းချင်းသာ ထွေးပိုက်လက်ခံခဲ့ကြတယ်၊ ၁၉၈၀ နှစ်ကာလတွေမှာ Federal Reserve အဖွဲ့ရဲ့ဥက္ကဋ္ဌ Paul Volcker က ဈေးနှုန်းတွေထိန်းချုပ်မှုအောက်ကိုပြန်ရောက်ဖို့ရာအတွက် ဗိုက်မရှမ်းမြေဝရာ ဖာရာအောက်ချက်တွေနဲ့ စီးပွားရေးကျဆင်းမှုကနေတစ်ဆင့် အမေရိကန်ပြည်ထောင်စုကို ဆွဲထုတ်ခဲ့ရတယ်၊ ယူနိုက်တက်ကင်းဒမ်းမှာ အသစ်တက်လာတဲ့ဝန်ကြီးချုပ်မာဂရက်သက်ချာဟာ ငွေကြေးထိန်းချုပ်မှုဝါဒီတွေရဲ့ ပြောကြားချက်တွေကို သဘောကျစပြုလာခဲ့တယ်၊ ဂျာမနီမှာ Bundesbank ကလည်း ငွေကြေးရိုက်ထုတ်နေတဲ့အမြန်နှုန်းကို သေသေချာချာ အာရုံစိုက်စပြုလာခဲ့တယ်၊

## ငွေကြေးထိန်းချုပ်မှုဝါဒဆိုင်ရာပြဿနာများ

ဖရိုင်းမင်းမှန်သည်ဖြစ်စေ၊ မှားသည်ဖြစ်စေ ပြဿနာက စီးပွားရေးစနစ်တစ်ရပ်မှာစီးဆင်းနေတဲ့ ငွေကြေးပမာဏ၊ တစ်နည်းအားဖြင့် ငွေကြေးတိုးတက်မှုဆိုင်ရာသင့်တော်တဲ့တိုင်းတာမှုသစ်ရပ်ကို ရှာဖွေဖို့ ခက်ခဲလွန်းတယ်ဆိုတာ သက်သေပြခဲ့တာပဲဖြစ်တယ်။ သူ့အယူအဆကို လက်တွေ့ကျင့်သုံးဖို့ လုပ်ဆောင်ရာမှာ စိန်ခေါ်မှုတွေက မနည်းမနောရှိနေခဲ့တယ်။ ငွေကြေးဖောင်းပွတယ်ဆိုတာ ငွေကြေးဆိုင်ရာအချင်းအရာတစ်ရပ်ဖြစ်ကောင်းဖြစ်ပေမယ်၊ ဒါပေမဲ့ ငွေကြေးဖေါင်းပွမှုနဲ့ မဆိုင်တဲ့အကြောင်းအရာတွေကြောင့် လည်ပတ်စီးဆင်းနေတဲ့ ငွေပမာဏက မကြာခဏဆိုသလို တက်လိုက်ကြလိုက်ဖြစ်နေတာတွေ့ရတယ်။ ဥပမာပြောရရင် ဝေါစတာရီ၊ ဒါမှမဟုတ် နယူးယောန့်က ကျွမ်းကျင်သူတွေအနေနဲ့ ဘဏ္ဍာရေးဆိုင်ရာ ကိရိယာသစ်တစ်ခုကို တီထွင်လိုက်တဲ့အခါ ဒါက စီးပွားရေးစနစ်ထဲမှာ လည်ပတ်နေတဲ့ငွေပမာဏကို မကြာခဏဆိုသလို တန်ဖိုးတက်လာစေတယ်။ ဒါပေမဲ့ ပေါ်လစီတာဝန်ရှိသူတွေအနေနဲ့ အတိုးနှုန်းဆိုင်ရာဆုံးဖြတ်ချက်ချမှတ်ဖို့ အသင့်ဖြစ်နေတဲ့ အဆင့်တစ်ခုကိုရောက်တဲ့အခါ ဒီနောက်ပိုင်းမှာ အခြေအနေကောင်းတဲ့အထိ တိုးတက်လာအောင် ဘယ်အရာက မောင်းနှင်နေတယ်ဆိုတာကို ချင့်ချိန်အကဲဖြတ်ဖို့တော့ မဖြစ်နိုင်ဘူး၊ ဒါမှမဟုတ် ခက်ခဲတယ်လို့ ဆိုရမယ်။ ဒါကြောင့် လက်တွေ့မှာ ဥရောပဗဟိုဘဏ်ကလွဲရင် တခြားဗဟိုဘဏ်တွေ အားလုံးက လည်ပတ်နေတဲ့ ငွေကြေးပမာဏကို ထိန်းချုပ်ဖို့ကြိုးပမ်းမှုတွေကို စွန့်လွှတ်ထားခဲ့ကြတယ်။ ဥရောပဗဟိုဘဏ်ကတော့ သူ့ရဲ့ငွေကြေးဖောင်းပွမှုသတ်မှတ်ချက်နဲ့ယှဉ်ပြီး ပမာဏတစ်ရပ်ကို ပုံမှန်ထိန်းထားတယ်။

ငွေကြေးဝါဒကိုအလွန်လေးစားမှုရှိတဲ့ လွတ်လပ်ပွင့်လင်းတဲ့ ဈေးကွက်ဝါဒီတစ်ယောက်ဖြစ်ပေမယ့် ပြည်ထောင်စုငွေကြေးအဖွဲ့ (The Fed) က Volcker ကို ဆက်ခံခဲ့သူ Alan Greenspan အနေနဲ့လည်း ငွေကြေးဆိုင်ရာစာရင်းအင်းတွေကို လျစ်လျူရှုထားခဲ့ခြင်းအတွက် တာဝန်ရှိပါတယ်။ လွန်ခဲ့တဲ့နှစ်အနည်းငယ်လောက်က ငွေကြေးတိုးတက်မှုဆိုင်ရာကိန်းဂဏန်းတွေ ထုတ်ပြန်ပေးမှုကို The Fed အဖွဲ့က ရပ်တန့်ပစ်ခဲ့တဲ့အတွက်လည်း သူ့မှာ အထိုက်အလျောက်တော့ တာဝန်ရှိပါတယ်။

## ငွေကြေးဝါဒနဲ့ ကိန်းဝါဒနှိုင်းယှဉ်မှုရလဒ်

ဖရိုင်းမင်းနဲ့ကိန်းတို့ကြားက ပဋိပက္ခရဲ့ရလဒ်က သရေလို့ပဲဆိုရပါမယ်။ ခေတ်သစ်ဗဟိုဘဏ်တွေအနေနဲ့ ပေါ်လစီချမှတ်ရာမှာ ငွေကြေးထိန်းချုပ်ရေးနဲ့အဝင်အလာအညွှန်းကိန်းတွေ နှစ်ခုစလုံးအပေါ်



အာရုံစိုက်လေ့ရှိပါတယ်။ ၁၉၉၀ ပြည့်နှစ်တွေရဲ့နှောင်းပိုင်းကာလတွေနဲ့ ၂၀၀၀ နှစ်တွေရဲ့ အစောပိုင်းကာလတွေမှာ ငွေကြေးအပေါ်အာရုံစိုက်မှုတွေကျဆင်းသွားခဲ့ပေမယ့် သိပ်မကြာခင်မှာပဲ အာရုံစိုက်မှုတွေပြန်ရလာခဲ့တယ်။ ငွေကြေးတိုးတက်မှုအောင်မြင်မှုမရှိတဲ့ကာလမှာ စီးပွားရေးပညာရှင်တွေရဲ့ တောင်းဆိုမှုတွေက ၂၀၀၈ ခုနှစ် ကြွေးမြီအကျပ်အတည်းနောက်က လိုက်လာတဲ့ စီးပွားရေးအကျပ်အတည်းအလှည့်အပြောင်းကို ရှင်းပြဖို့အထောက်အကူဖြစ်စေခဲ့တယ်။

တစ်ဖက်မှာလည်း ဖရိုင်းမင်းအဆိုပြုခဲ့တဲ့ပေါ်လစီတွေအပေါ် သဘောထားတုံ့ပြန်မှုတွေ တိုးလာနေတယ်။ ၁၉၈၀ နှစ်ကာလတွေမှာ သက်ချာနဲ့ရေဂင်တို့ရဲ့ထောက်ခံမှုနဲ့ ဘဏ္ဍာရေးဈေးကွက် ဖြေလျှော့ခြင်း၊ ငွေကြေးဖောင်းပွမှုနဲ့ ငွေကြေးတိုးတက်မှုတွေကို တင်းကျပ်တဲ့ဥပဒေတွေ အမိန့်တွေ ထုတ်ပြန်ကားဆီးခဲ့ခြင်း ကုမ္ပဏီတွေကိုလည်း အလုပ်သမားငှားရမ်း ခန့်ထားဖြုတ်ပစ်မှုတွေကို ပိုပြီးလွတ်လွတ်လပ်လပ်လုပ်ဆောင်ခွင့်ပြုခဲ့တယ်၊ ဘဏ္ဍာရေးအကျပ်အတည်းတို့ အဝပ်းပေးခဲ့တဲ့ အကြွေးထုတ်လာမှုတွေဖြစ်ပွားစေတဲ့အတွက် တကယ့်လက်တွေ့မှာ ဒီလုပ်ဆောင်ချက်တွေက တစ်စိတ်တစ်ဒေသတော့တာဝန်ရှိတယ်။ အမေရိကန်နဲ့ ယူနိုက်တက်ကင်းဒမ်းနိုင်ငံတွေ စီးပွားရေးကျဆင်းတဲ့အခြေအနေကို မရောက်ခင်အချိန်လေးမှာ စီးပွားရေးသုံးသပ်သူ Martin Wolf ပြောခဲ့သလိုပါပဲ၊ "၁၉၅၀၊ ၁၉၆၀၊ ၁၉၇၀ နှစ်တွေမှာ ကိန်းရဲ့အယူအဆတွေကို ပျက်စီးရာပျက်စီးကြောင်း အတွက်စမ်းသပ်ခံခဲ့ရသလိုပါပဲ၊ ၁၉၈၀၊ ၁၉၉၀နဲ့ ၂၀၀၀ ကာလတွေမှာ အလားတူကံကြမ္မာနဲ့ ကြုံတွေ့ခဲ့ရတယ်။ ယုံကြည်လွန်းတဲ့အခါ နတ်ဘုရားအားလုံးအရေးနိမ့်သွားတော့တာပါပဲ၊"

ကိန်းနဲ့ဖရိုင်းမင်းတို့နှစ်ယောက်စလုံးကတော့ ဘယ်တုန်းကမှ တွေ့တွေ့ဆိုင်ဆိုင်မတွေ့ခဲ့ကြဘူး။ သူတို့ထိစပ်ခဲ့တဲ့ တစ်ခုတည်းသောအချိန်ကာလက ၁၉၃၀ နှစ်တွေမှာ ကိန်းတည်းဖြတ်ထုတ်ဝေနေတဲ့ စီးပွားရေးဂျာနယ်ကို ဖရိုင်းမင်းက စာတမ်းတစ်စောင်ရေးပို့ခဲ့တဲ့အချိန်လေးပဲ၊ အဲ့ဒီစာတမ်းက ကိန်းရဲ့ မိတ်ဆွေ၊ ကိန်းဘရစ်ဂျ်စီးပွားရေးပါမောက္ခ A.C. Pigou ကိုထောက်ပြတိုက်ခိုက်ရေးသားထားတာတွေ အထော်လေးပါလို့ ကိန်းက သူ့မိတ်ဆွေကို အဲ့ဒီစာတမ်းကို ပေးပတ်ခဲ့တယ်။ သူ့မိတ်ဆွေက ဒီဝေဖန်မှုကို လက်မခံခဲ့တာကြောင့် ကိန်းက ဒီစာတမ်းကို မသုံးဖို့ ဆုံးဖြတ်လိုက်တဲ့အကြောင်း ဖရိုင်းမင်းဆီကို စာရေး အကြောင်းကြားခဲ့တယ်။ "ဒါဟာ ကိန်းဆီကလက်ခံရရှိခဲ့တဲ့ စာနှစ်စောင်ထဲက တစ်စောင်ပါ။ နောက်တစ်စောင်ကတော့ ပယ်လိုက်တဲ့စာမူပါ" လို့ နောက်ပိုင်းမှာ ဖရိုင်းမင်းက သတိတရပြန်ပြောခဲ့တယ်။

## အနှစ်ချုပ်အတွေးအခေါ်

### ငွေကြေးတိုးပွားလာမှုကို ထိန်းချုပ်ကြ

# ၁၁ - ကွန်မြူနစ်ဝါဒ

## Communism

**လွန်ခဲ့တဲ့နှစ်အနည်းငယ်လောက်တုန်းက ဗြိတိသျှအသံလွှင့်ကော်ပိုရေးရှင်းက ရေဒီယိုအစီအစဉ်နားထောင်သူတွေကို သူတို့ရဲ့အနှစ်သက်ဆုံး တွေးခေါ်ပညာရှင်ကို ရွေးချယ်နိုင်းခဲ့ပါတယ်။ အစပိုင်းမှာ ပလေတို၊ အရစ္စတိုတယ်လ်၊ တျူးမ်နဲ့နှစ်ရှေးစတဲ့ ထင်ရှားတဲ့ တွေးခေါ်ရှင်တွေကို မဲတွေတပြုံပြုံပေးခဲ့ကြတယ်။ ဒါပေမဲ့ မဲတွေစတင်ရေတွက်လို့ ကြောင်မှာပဲ ဗြိတိန်နိုင်ငံရဲ့ အနှစ်သက်ဆုံးတွေးခေါ်ပညာရှင်ဘွဲ့ကို ဖြတ်ဖြတ်သားသားအနိုင်ရလိုက်သူ တစ်ယောက်ကို မြင်လာရပါတယ်။ သူကတော့ ကားလ်မက်စ်ပါတဲ့။**

နောက်သိပ်မကြာခင် ၂၀၀၈ ခုနှစ်နှောင်းပိုင်းမှာ မက်စ်ရဲ့အပြောင်မြောက်ဆုံး လက်ရာဖြစ်တဲ့ Das Kapital တအုပ်ဟာ ဆယ်စုနှစ်ပေါင်းများစွာကြာအောင် ရောင်းအားတက်သထက်တက်လာနေတယ်လို့ ဂျာမန်လူမျိုးစာအုပ်ရောင်းချသူ တစ်ယောက်က ကြေညာခဲ့တယ်။

သူ့ရဲ့အတွေးအခေါ်တွေနဲ့ကြိုတင်ဟောကိန်းတွေကို မှားယွင်းကြောင်းထပ်ခါထပ်ခါ သက်သေပြခံခဲ့ရပြီး ဘာလင်တံတိုင်းပြိုကျသွားချိန်မှာ သူ့ရဲ့အတွေးအခေါ်အယူအဆတွေ ထိမ်မြုပ်ပျောက်ကွယ်သွားခဲ့ပြီလို့ ထင်ခဲ့ရတဲ့ အရင်းအမြစ်ကျကျ တော်လှန်ပြောင်းလဲရေး သမား ဂျာမန်ပြည်ပြေးတစ်ယောက်ဟာ ဘယ်လိုများလူကြိုက်များတုန်းဖြစ်နေရပါလိမ့်၊ အထူးသဖြင့် ဖြောရရင်ဆိုရှယ်လစ်ဝါဒကိုပစ်ပယ်ခဲ့ရုံသာမကဘဲ၊ ကမ္ဘာမှာ ဈေးကွက်လွတ်လပ်မှုအရှိဆုံးနိုင်ငံတစ်နိုင်ငံဖြစ်လာခဲ့တဲ့နိုင်ငံမှာ သူ့ရဲ့လက်ရာတွေက ဘာကြောင့်များ အလွန်အကျွံစွဲလမ်းနှစ်သက်စရာဖြစ်နေရပါလိမ့်။

### ကားလ်မက်စ် (၁၈၁၈ - ၁၈၈၃)

လူလတ်တန်းစား ဂျူးလူမျိုး ပရိုတက်စ်တင့်မိသားစုမှာ သူ့ကိုမွေးဖွားခဲ့တယ်။ မက်စ်ဟာ သူ့ဘဝ သက်တမ်းတစ်လျှောက်လုံးနီးပါးကို တက္ကသိုလ်မှာဖြစ်စေ၊ စာအုပ်ရေးသားခြင်းနဲ့ဖြစ်စေ ကုန်ဆုံးစေခဲ့တယ်။ Bonn မြို့မှာ တက္ကသိုလ်ပညာသင်ပြီးတဲ့နောက်ပိုင်း ဘာလင်မှာ ဥပဒေ ဘာသာနဲ့ ဒဿနတဓေပတွေကို လေ့လာခဲ့တယ်။ ဂရိတွေးခေါ်ရှင် Epicurus အကြောင်း စာတမ်းတစ်စောင်ပြုစုထုတ်ဝေခဲ့တယ်၊ ဒါတွေက သူ့ကိုနိုင်ငံရေးသီအိုရီနယ်ထဲကို ဆွဲခေါ်သွားခဲ့တယ်။ ၁၈၄၂ ခုနှစ်မှာ တော်လှန်ရေးဆန်တဲ့သတင်းစာတစ်စောင်မှာ အယ်ဒီတာလုပ်ခဲ့ပြီး အစိုးရရဲ့အကြိမ်ကြိမ်ဆင်ဆာဖြတ်တောက်မှုကို ခံစားခဲ့ရတယ်။ သတင်းစာပိတ်ပိတ်သွားပြီးတဲ့နောက် ပဲရစ်မြို့ကို သူရွှေ့လာခဲ့တယ်၊ အဲ့ဒီမှာ စက်မှုလုပ်ငန်းရှင် ဖရက်ဒရစ် အိန်ဂျယ်လ်နဲ့ တွေ့တယ်၊ နောက်ပိုင်း ၁၈၄၈ ခုနှစ်မှာ အိန်ဂျယ်လ်နဲ့ပူးတွဲပြီး ကွန်မြူနစ်ကြေညာစာတမ်းကို ရေးသားခဲ့တယ်။ မက်စ်ဟာ ပြင်သစ်ကနေပြည်နှင်ဒဏ်ပေးခံရပြီး ဘယ်လ်ဂျီယံကို သွားခဲ့တယ်၊ နောက်ပိုင်း လန်ဒန်ကို ဆက်သွားခဲ့ပြီး လန်ဒန်မှာပဲ ကျယ်လွန်တဲ့အထိနေထိုင်ခဲ့တယ်၊ သူဟာ သူ့မိတ်ဆွေတွေရဲ့ပေးကမ်းထောက်ပံ့မှုတွေကို တစ်ချိန်လုံး ကြီးကြီးမားမားရနေခဲ့တယ်၊ အထူးသဖြင့် အိန်ဂျယ်လ်ရဲ့အထောက်အပံ့ကို အများဆုံးရခဲ့တယ်။ ၁၈၈၃ ခုနှစ် သူသေဆုံးချိန်မှာ သူ့ရဲ့အပြောင်မြောက်ဆုံးလက်ရာဖြစ်တဲ့ အရင်းကျမ်း အတွဲ (၂)နဲ့(၃)ကို မထုတ်ရသေးဘူး။ နောက်ပိုင်းမှာ သူ့ရဲ့မှတ်စုတွေကို အိန်ဂျယ်လ်ကပဲ စုစည်းတည်းဖြတ်ပြီး ဆက်လက်ထုတ်ဝေခဲ့တယ်။ သူ့ကို လန်ဒန်မြို့ ဟိုက်ဂိတ်သုသာန်မှာ မြှုပ်နှံသင်္ဂြိုဟ်ခဲ့တယ်။

### ထင်ရှားတဲ့သီအိုရီ

လူ့အဖွဲ့အစည်းတွေဟာ ခေတ်မမီတော့ဘဲ၊ မျှတမှုမရှိတဲ့ စီးပွားရေးစနစ်တွေကနေ အကောင်းဆုံး အပြီးသတ်ရည်မှန်းချက် ပန်းတိုင်ဆီကို သွားနေတဲ့ ဆင့်ကဲပြောင်းလဲမှုဖြစ်စဉ်တစ်ရပ်ရဲ့ အလယ်မှာ

**အချိန်ဖြဂယား**

| ၁၈၄၈ | ၁၈၆၇ | ၁၈၈၃ | ၁၉၁၇ | ၁၉၄၉ | ၁၉၄၉ |
|---|---|---|---|---|---|
| မက်စ်နဲ့ အိန်ဂျယ်လ်တို့ ရေးသားခဲ့တဲ့ The Communist Manifesto ကိုထုတ်ဝေ | အရင်းကျမ်း Das Kapital ပထမတွဲ ထုတ်ဝေ | လန်ဒန်မြို့တွင် မက်စ် ကွယ်လွန် | ရုရှားတော်လှန်ရေးက ဆိုဗီယက်ယူနီယံကို တည်ထောင်ခဲ့ပြီး လီနင်ကို အာဏာအပ်နှင်း | မော်စီတုန်းက တရုတ်ပြည်သူ့သမ္မတနိုင်ငံကို ကွန်မြူနစ်နိုင်ငံအဖြစ်တည်ထောင် | မင်ဆယ်လ်ပိုဘာရေး လက်ထက်တွင် ဆိုဗီယက်ယူနီယံ ပြိုကွဲ |

❝ ကွန်မြူနစ်ဝါဒသဘောတရားကို တကြောင်းတစ်ကြောင်းထဲနဲ့ အနှစ်ချုပ်တော်ပြရရင် ပုဂ္ဂလိကပစ္စည်းပိုင်ဆိုင်မှုကို ဖျက်သိမ်းကြလို့ပြောတာပါပဲ။ ❞

ကားလ်မက်စ်

ရောက်နေတယ်လို့ မက်စ်ကဆိုတယ်။

မြေရှင်ပဒေသရာဇ်စနစ်ကနေ စတင်တာလွှက်ပြီး ကုန်သည်ဝါဒကနေတစ်ဆင့် ခေတ်သစ်အရင်းရှင် စနစ်အထိ ရွေ့လျားလာခဲ့ချိန်မှာ လူ့အဖွဲ့အစည်းဟာ သိပ်မကြာခင်မှာပဲ ပိုပြီးမျှတ၊ ပိုပြီးစိတ်ကူးယဉ်ဆန်တဲ့ စနစ်တစ်ခုဆီ သဘာဝအလျောက်ရောက်ရှိတိုးတက်လာပါလိမ့်မယ်။ ဒီစနစ်ကတော့ သူထောက်ခံတင်ပြခဲ့တဲ့က ကွန်မြူနစ်စနစ်ပါပဲ။

ကွန်မြူနစ်လူ့အဖွဲ့အစည်းမှာတစ်ရပ်မှာ (စက်ရုံ၊ လက်နက်ကိရိယာ၊ ကုန်ကြမ်းစတဲ့) ကုန်ထုတ်လုပ်မှု နည်းလမ်းတွေကို တစ်သီးပုဂ္ဂလလူသားတစ်ဦးချင်းစီနဲ့ ကုမ္ပဏီတွေက ပိုင်ဆိုင်လိမ့်မယ်မဟုတ်ဘူး။ ဒါတွေကို လူတိုင်းကပိုင်ဆိုင်ကြလိမ့်မယ်။ အစပိုင်းမှာ နိုင်ငံတော်က ကုမ္ပဏီတွေ၊ အဖွဲ့အစည်းတွေအားလုံးကို ပိုင်ဆိုင်၊ ထိန်းချုပ်လိမ့်မယ်။ ဒီလိုထိန်းချုပ်ရာမှာ အထက် - အောက်စနစ်နဲ့ စီမံခန့်ခွဲပြီး ကုမ္ပဏီတွေအနေနဲ့ သူတို့ရဲ့အလုပ်သမားတွေအပေါ် ဖိနှိပ်မှုတွေမလုပ်အောင် သေသေချာချာလုပ်ဆောင်လိမ့်မယ်။ ဒါပေမဲ့ တဖြည်းဖြည်းနဲ့ အဲဒီနိုင်ငံတော်ဆိုတာလည်း လွင့်ပါးပျောက်ကွယ်သွားလိမ့်မယ်၊ နှစ်ပေါင်းထောင်ချီပြီး နိုင်ငံတွေမှာ အထပ်လိုက်အလွှာလိုက်တည်ဆောက်ထားခဲ့တဲ့ လူတန်းစားခွဲခြားမှုဆိုတဲ့ အတားအဆီးတွေကွယ်ပျောက်သွားတဲ့အချိန်မှာ ဒါကလူ့အဖွဲ့အစည်းရဲ့နောက်ဆုံးအဆင့်ကို ကိုယ်စားပြုတာပဲလို့ ကားလ်မက်စ်က ဆိုတယ်။

## လူတန်းစားပဋိပက္ခ

၁၈၄၈ ခုနှစ်မှာ မက်စ်နဲ့ သူ့မိတ်ဆွေအိန်ဂျယ်လ်တို့ ကွန်မြူနစ်ကြေညာစာတမ်းကို မရေးရသေးခင်အချိန်ကတည်းက ကွန်မြူနစ်ဝါဒကို ပုံစံအမျိုးမျိုးနဲ့ အဆိုပြုခဲ့ကြပြီးဖြစ်တယ်၊ ဥပမာ - ၁၅၁၆ ခုနှစ်မှာ အင်္ဂလိပ်စာရေးဆရာ၊ နိုင်ငံရေးသမား ထောမက်စ်မိုးက သူ့ရဲ့ယူတိုးပီးယားစာအုပ်မှာ ပစ္စည်းဥစ္စာတွေနဲ့ပတ်သက်ပြီး အများပိုင်ဆိုင်မှုပုံစံကို အခြေခံတဲ့ လူ့အဖွဲ့အစည်းတစ်ရပ်ကို ကောက်ကြောင်းဆွဲပုံဖော်ရေးသားခဲ့တယ်။ ၁၉ ရာစုအစောပိုင်းမှာကတည်းက ဥရောပနဲ့အမေရိကန်ပြည်ထောင်စုတွေမှာ ကွန်မြူနစ်အစုအဖွဲ့တွေ ရုတ်တရက်ပေါ်လာခဲ့ပြီးဖြစ်တယ်၊

ဒါပေမဲ့ မက်စ်ရဲ့ဦးတည်ချက်က ကမ္ဘာတလွှားက အလုပ်သမားတွေဟာ အလုံးအရင်းနဲ့



သူတို့ရဲ့အစိုးရတွေကို တော်လှန်ဖြုတ်ချပြီး မျှတတဲ့လူ့အဖွဲ့အစည်းတစ်ရပ်ကို ထူထောင်ဖို့ ကွန်မြူနစ်ဝါဒကို လက်ခံပေခဲ့တာဖြစ်တယ်၊ သူ့ရဲ့ဆင်ခြင်ပုံက လက်ရှိတည်ရှိနေတဲ့ အရင်းရှင်စနစ်ဟာ အင်မတန်မှကို တရားမျှတမှုမရှိဘူး၊ ချမ်းသာကြွယ်ဝသူတွေဟာ အရင်းကို ပိုပိုင်ဆိုင်လေ၊ ပိုပြီးချမ်းသာလေဖြစ်လာပြီး သာမန်အလုပ်သမားတွေကတော့ အဆုံးမရှိအနှိမ်ခံနေရတယ်လို့ မြင်တယ်။ သူက လူသားမျိုးနွယ်ရဲ့သမိုင်းဟာ လူတန်းစားပဋိပက္ခရဲ့သမိုင်းပဲလို့ ဆိုတယ်။ ဒီပဋိပက္ခကလည်း အထက်တန်းလွှာမင်းစိုးရာဇာတွေနဲ့ဘုဇွာ (ကုန်ထုတ်လုပ်မှုနည်းလမ်းတွေကို တိုးတိုးပြီးပိုင်ဆိုင်လာတဲ့ အရင်းရှင်လူလတ်တန်းစား) တွေကြားက ပဋိပက္ခပဲ။ ဒီပဋိပက္ခတွေဟာ ဘုဇွာတွေနဲ့ ပစ္စည်းမဲ့လူတန်းစား (အရင်းရှင်တွေအတွက် အလုပ်လုပ်ပေးနေရတဲ့အလုပ်သမားတွေ) ကြားက ပဋိပက္ခကိုဆက်ပြီး နေရာဖယ်ပေးရမယ်လို့ သူက ဆိုတယ်။

မက်စ်သီအိုရီတွေရဲ့နှလုံးသည်းပွတ်က တန်ဖိုးဟူသမျှ ထုတ်လုပ်ရန်ကြိုးပမ်းမှုလုပ်အားတွေပဲဆိုတဲ့ သီအိုရီ(Labour theory of value)ပဲ။ အရင်းကျမ်း(၁၈၆၇)မှာ တင်ပြခဲ့တဲ့ ဒီအယူအဆက ကုန်ပစ္စည်းတစ်ခုရဲ့တန်ဖိုးဟာ ဒါကို ထုတ်လုပ်ဖို့ကြာတဲ့အချိန်ပမာဏပဲလို့ ဆိုတယ်။ ဒါကြောင့် ဥပမာအနေနဲ့ပြောရရင် ဂျက်ကတ်အကျီတစ်ထည်ချုပ်လုပ်ဖို့ဆိုတာ ဘောင်းဘီတစ်ထည်ချုပ်လုပ်ဖို့ထက် နှစ်ဆလောက်ကြာတာကြောင့် တန်ဖိုးလည်း နှစ်ဆတိုက်တန်သင့်တယ်လို့ ဆိုတယ်။ ဒါပေမဲ့ ကုမ္ပဏီတွေကို စီမံလုပ်ကိုင်နေသူတွေကတော့ အမြတ်အစွန်းတွေကို အချိုးမမျှမတရားဘဲ အိတ်ထဲထည့်နေတယ် သူကစောဒကတက်ခဲ့တယ်၊ လုပ်ငန်းရှင်တွေကို မောင်းထုတ်ရတဲ့အကြောင်းက သူတို့တွေဟာ ကုန်ထုတ်လုပ်မှုဆိုင်ရာ နည်းလမ်းတွေကို ပိုင်ဆိုင်ကြပြီးအလုပ်သမားတွေအပေါ် ခေါင်းပုံဖြတ်အမြတ်ထုတ်နိုင်တာကြောင့်ပဲလို့ မက်စ်က စောဒကတက်ခဲ့တယ်၊ တန်ဖိုးဟူသမျှ ထုတ်လုပ်ရန်ကြိုးပမ်းတဲ့ လုပ်အားတွေပဲဆိုတဲ့သီအိုရီက ဘယ်လိုကောင်းကောင်းစံနမူနာပြနိုင်မလဲဆိုတဲ့အပေါ် မေးခွန်းထုတ်မှုတွေကတော့ အများကြီးပါပဲ၊ ဒါပေမဲ့ ယေဘုယျဆိုလိုရင်းကတော့ မပျောက်မပျက်ရှိနေပါသေးတယ်။ ဒါကတော့ မြေယာနဲ့ အရင်းကို ပိုင်ဆိုင်သူတွေနဲ့ မပိုင်ဆိုင်သူတွေရဲ့ နေနဲ့ အခွင့်အလမ်းကြားက အရေးပါတဲ့ပိုင်းခြားထားမှုပဲလို့ဆိုတယ်။

ဒီနေ့ခေတ်မှာ ကွန်မြူနစ်ကြေညာစာတမ်းကို ဖတ်နေတဲ့ ဘယ်သူမဆို လွန်ခဲ့တဲ့ နှစ်ပေါင်း ၁၅၀ ကျော်က တည်ရှိခဲ့တဲ့ကမ္ဘာကြီးကို ဒီစာတမ်းက ဘယ်လိုပုံဖော်ထားတယ်ဆိုတာကို ကြည့်ပြီး အံ့ဩသွားစေလိမ့်မယ်။ ဒီကနေ အလွန်ခေတ်မီတဲ့ကမ္ဘာကြီး၊ ဂလိုဘယ်လိုက်ဇေးရှင်းကမ္ဘာကြီး၊

အရှယ်ကျုံ့သွားတဲ့ကမ္ဘာကြီး၊ နိုင်ငံတကာကော်ပိုရေးရှင်းကြီးတွေ အများအပြားပေါ်ထွန်းလာတဲ့ ကမ္ဘာကြီးပေါ်မှာ စတဲ့ ကမ္ဘာကြီးကို မြင်လာရပြီး မက်စ်ကတော့ အရင်းရှင်တွေကြားက ပြိုင်ဆိုင်မှုကို အရှလိုပုံပေါ်ခဲ့တယ်။ ပြိုင်ဆိုင်မှုတွေဟာ ရက်စက်ကြမ်းကြုတ်လွန်းတာကြောင့် ဒေဝါလီခံရလို့ဖြစ်စေ၊ တခြားသူတွေရဲ့ သိမ်းပိုက်ဝါးမြိုမှုကိုခံရလို့ဖြစ်စေ၊ နောက်ဆုံးမှာ ကုန်ထုတ်လုပ်မှုစနစ်တစ်ခုလုံးနီးပါးကို လက်ဝါးကြီးအုပ် အစုအဖွဲ့လေးတစ်ခုကသာ ထိန်းချုပ်ထားတဲ့အထိဖြစ်သွားလိမ့်မယ်လို့ ဆိုတယ်။ ဒီလက်ဝါးကြီးအုပ်ထားတဲ့အဖွဲ့ဟာ တစ်ဖက်မှာလည်း အလုပ်သမားတွေအပေါ် အကန့်အသတ်မရှိ ဂုတ်သွေးစုပ်အမြတ်ထုတ်နိုင်တဲ့ပါဝါကို ရကြလိမ့်မယ်လို့ ဆိုတယ်။ အရင်းရှင်ဝါဒဟာ မူလကတည်းက ပရမ်းပတာဖြစ်နေတာကြောင့် အချိန်ကြာလာတာနဲ့အမျှ စီးပွားရေးက တက်ချီတစ်ခါ၊ ကျချီတစ်လှည့် ပိုတိုးပြီးဖြစ်လာလိမ့်မယ်၊ စီးပွားရေးကျဆင်းမှုကြီးတွေ ဆက်ခါဆက်ခါဖြစ်လာပြီး အလုပ်လက်မဲ့ဦးရေဟာလည်း အဆမတန်များပြားလာလိမ့်မယ်လို့ သူက ဟောကိန်းထုတ်ခဲ့တယ်။ တစ်ဖက်ကလည်း နေ့စဉ်နဲ့အမျှ ဒီအလုပ်တစ်ခုတည်းကိုပဲ ငြီးငွေ့ဖွယ်ရာ တကုပ်ကုပ်လုပ်နေရတဲ့ ပစ္စည်းမဲ့လူတန်းစားတွေ အနေနဲ့ တဖြည်းဖြည်းနဲ့ သည်းခံရမှုတွေပိုပိုများများလာပြီး နောက်ဆုံးမှာ တော်လှန်ရေးကြီးဖြစ်ပေါ်လာလိမ့်မယ်လို့ သူက ကြိုတင်ခန့်မှန်းခဲ့တယ်။

## ထက်သစ်ကမ္ဘာကြီးပေါ်က ကွန်မြူနစ်ဝါဒ

၂၀ ရာစုရဲ့ ခရီးတစ်ထောက်မှာ ကမ္ဘာလူဦးရေရဲ့ ထက်ဝက်နီးပါးလောက်ဟာ မက်စ်ကို နိုင်ငံရေးလမ်းပြ မီးရှူးတန်ဆောင်အဖြစ် ဟောင်းဆိုကြတဲ့အစိုးရတွေရဲ့လက်အောက်မှာ နေထိုင်ခဲ့ကြတယ်၊ ဒါပေမဲ့ ဒီရာစုအကုန်မှာတော့ ကွန်မြူနစ်စစ်စစ်နိုင်ငံတွေအဖြစ် တည်မြဲနေတဲ့အစိုးရဆိုလို့ အာဏာရှင်အစိုးရနှစ်ရပ်ပဲ ကျန်ပါတော့တယ်။ ကွန်မြူနစ်သီအိုရီက ဘာကြောင့်များ အချိန်နဲ့ရဲ့ စမ်းသပ်မှုကို ကြံ့ကြံ့ခံမရပ်တည်နိုင်ခဲ့တာလဲ၊

တစ်ပိုင်းက အရင်းရှင်စနစ်ရဲ့နောက်ဆုံးဆင့်ကဲပြောင်းလဲတိုးတက်မှုနဲ့ပတ်သက်ပြီး မက်စ်ရဲ့အမြင်မှားသွားလို့ပဲ။ အရင်းရှင်စနစ်ဟာ လက်ဝါးကြီးအုပ်စနစ်ဆီကို ကျဆင်းမသွားခဲ့ဘူး။ ဒီအတွက် တစ်ပိုင်းက အစိုးရစည်းမျဉ်းဥပဒေတွေကို ကျေးဇူးတင်ရမှာဖြစ်သလို နောက်တစ်ပိုင်းကတော့ မမြင်ရတဲ့ကိုယ်ပျောက်လက် (အခန်း ၁ ကိုကြည့်ပါ၊) ကို ကျေးဇူးတင်ရပါလိမ့်မယ်၊ အလုပ်လက်မဲ့ဦးရေဟာလည်း အတိုင်းအတာတစ်ရပ်ကို မကျော်ခဲ့ဘူး၊ စီးပွားရေးက တက်ချီတစ်ခါ၊ ကျချီတစ်လှည့်ဖြစ်နေပေမယ့် ဒီအတွက် အပြစ်တင်ရမယ့်သူတွေကတော့ အစိုးရထိန်းချုပ်မှုတွေနဲ့ ထိန်းမရသိမ်းမရတဲ့ အရင်းရှင် အင်အားစုတွေကိုပါပဲ (အခန်း ၃၁ ကိုကြည့်ပါ)၊



မက်စ်ရဲ့ပတ်ကျောက်စံတွေနဲ့အံဝင်ခွင်ကျဖြစ်စေဖို့ ဆိုရှယ်လစ်တော်လှန်ရေးနောက်မှာ ကွန်မြူနစ်ဝါဒကို ထွေးပွေ့ခဲ့ကြတဲ့ ဘယ်နိုင်ငံမဆို ရုရှားနဲ့တရုတ်နိုင်ငံတွေလိုပဲ ဝင်ငွေနိမ့်ကျ၊ ဖွံ့ဖြိုးမှုနိမ့်ကျတဲ့ လယ်ယာစိုက်ပျိုးရေးနိုင်ငံတွေပဲ အများဆုံးဖြစ်ကုန်ကြတယ်။

မက်စ်ဝါဒနဲ့ပတ်သက်လို့ ၂၀ ရာစု စမ်းသပ်မှုတွေကလည်း မူလကတည်းကပါရှိခဲ့တဲ့ သူ့ရဲ့အပြစ်အနာအဆာတွေကို ပီးမောင်းထိုးပြခဲ့တယ်။ အားလုံးထဲမှာ အရေးကြီးဆုံးကတော့ စီးပွားရေးတစ်ရပ်အပေါ် ဗဟိုကချုပ်ကိုင်မှုဟာ အောင်မြင်မှုရဖို့ အလွန့်အလွန်ကို ခက်ခဲပြီး မဖြစ်နိုင်ဘူးဆိုတာသက်သေပြခဲ့တယ်။ ၁၉၉၀ နှစ်ကာလတွေမှာ သံကန့်လန့်ကာ (Iron Curtain) ပြိုကျသွားချိန်မှာ ယခင်ဆိုဗီယက်ပြည်ထောင်စုနိုင်ငံတွေဟာ အနောက်ကမ္ဘာကို မျက်စိဖွင့်ကြည့်ခဲ့ကြတယ်။ ဒီတော့မှ စစ်အေးတိုက်ပွဲကာလရဲ့ အညင်မရအခက်မရလှ အထင်ကြီးစရာ စကားလုံးကြီးကြီးတွေကြောင့် သူတို့နိုင်ငံတွေဟာ စိတ်ပျက်စရာကောင်းလောက်အောင် စီးပွားရေးမဖွံ့ဖြိုးသေးတဲ့နိုင်ငံတွေအဖြစ် ရှိနေသေးပါလားဆိုတာ ရှင်းရှင်းလင်းလင်း သဘောပေါက်လာခဲ့ကြတယ်၊

ရောင်းလိုအားနဲ့ဝယ်လိုအားအင်အားစုတွေက တက်ကြွလှုပ်ရှားသက်ဝင်ပြီး ချမ်းသာကြွယ်ဝမှုကို လျှင်လျှင်မြန်မြန်ဖြစ်ပေါ်စေတဲ့ စီးပွားရေးပန်တီးနေချိန်မှာ ဆိုဗီယက်ယူနီယံနဲ့ တရုတ်နိုင်ငံတွေမှာ အိမ်ခြေကြီးလွန်းတဲ့ ဗဟိုချုပ်ကိုင်မှုစနစ်တွေက တီထွင်ဆန်းသစ်မှုတွေကို ထိန်းချုပ်ထားခဲ့တယ်။ လွတ်လပ်တဲ့ဈေးကွက်ရဲ့မောင်းနှင်အားဖြစ်တဲ့ ကုမ္ပဏီတွေကြားက ပြိုင်ဆိုင်မှုမရှိဘဲ၊ မြူရိုကရက်တွေတွန်းသလောက်ပဲ တအီအီနဲ့ရွေ့ကို ရွှေ့နေခဲ့တယ်။ ဆိုဗီယက်တွေရဲ့ အထူးချွန်ဆုံးတစ်ခုတည်းသော နယ်ပယ်က စစ်ရေးနဲ့ လေကြောင်းဆိုင်ရာ တီထွင်ဆန်းသစ်မှုတွေပဲ။ တကယ်တော့ ဒါကလည်း စစ်အေးကာလမှာ အနောက်ကမ္ဘာနဲ့ ပြတ်ပြတ်သားသားယှဉ်ပြိုင်ခဲ့ရတဲ့ တစ်ခုတည်းသောနယ်ပယ်ဖြစ်တာကြောင့်ပါပဲ၊

အနှစ်ချုပ်အတွေးအခေါ်

နိုင်ငံတော်က အလုံးစုံ စီမံခန့်ခွဲတဲ့ အကျဉ်းထောင်ပမာ လူ့အဖွဲ့အစည်း

# ၁၂ – တစ်ဦးပုဂ္ဂလဝါဒ
## Individualism

**ကားလ်မက်ဂ်ါက "လူတစ်ဦးချင်းစီရဲ့ ရှုးသွပ်မှု" လို့ စိတ်ဆုပ်ရှုံ့ရှာစွာ သုံးနှုန်းခဲ့တယ်။ ဒါပေမဲ့ စီးပွားရေးပူဝါဒတွေ ချမှတ်ရာမှာ လူတစ်ဦးချင်းစီရဲ့ ရွေးချယ်မှုတွေဟာ အဓိကအရေးပါတယ်ဆိုတဲ့ အယူအဆက ၂၀ ရာစုနှောင်းပိုင်းကာလမှာ လွှမ်းမိုး ကြီးစိုးလာခဲ့တယ်။ ဒီအတွေးအခေါ်ဟာ သက်ချာဝါဒနဲ့ ရေဂင်ဝါဒတွေရဲ့ မျိုးစေ့ဖြစ်ခဲ့ပြီး ဥရောပနိုင်ငံငယ်လေးတစ်နိုင်ငံဖြစ်တဲ့ ဩစတြီးယားကနေ အစပြုပေါ်ထွက်လာခဲ့တာဖြစ်တယ်။**

ဘောဂဗေဒဟာ တချို့သောဆုံးဖြတ်ချက်တွေကို လူတွေဘာကြောင့် လက်ခံရသလဲဆိုတာ လေ့လာတဲ့ဘာသာရပ်ဖြစ်ပေမယ့် ကျမ်းရိုးဘောဂဗေဒကတော့ လူတွေဟာ ဘောကကောင်းဝေးစေဖို့အတွက် ထုံးစံအတိုင်းတစ်ညီတစ်ညာတည်း ပြုမူလုပ်ကိုင်ကြတာပါပဲလို့ ဆိုလေ့ရှိတယ်။ ဥပမာ – အာလူးဈေးကြော်အမျိုးအစား အသစ်တစ်ခု ဆိုင်ပေါ် ရောက်လာပြီး လူကြိုက်များလာတဲ့အခါ လူတွေကို ဒီပစ္စည်းအပေါ်မှာ စိတ်ဝင်စားလာစေတယ်။ ဒါပေမဲ့ ၁၉ ရာစုနှောင်းပိုင်းမှာ စတင်ပေါ်ထွက်ခဲ့ပြီး ၂၀ရာစုမှာ ဩဇာကြီးလာတဲ့ ဩစတြီးယန်းဂိုဏ်းက သီးခြားကုန်ပစ္စည်းတွေကို ဝယ်သူဖို့ဆုံးဖြတ်ရာတဲ့ လူတစ်ဦးချင်းစီမှာရှိတဲ့ သီးခြားအကြောင်းပြချက်တွေအပေါ် အာရုံစိုက်ခဲ့တယ်။

ပင်မရေစီးကြောင်းဘောဂဗေဒက စုစုပေါင်းပြည်တွင်းထုတ်ကုန်နဲ့ ငွေကြေးဖေါင်းပွခြင်း တို့လိုမျိုးစုပေါင်းထားတဲ့အတိုင်းအတာတွေ (ဈေးအရအပေါင်းကြီးထဲကို အစိတ်အပိုင်း အမျိုးမျိုးပေါင်းထည့်ထားခြင်း)ကို အသုံးပြုခြင်းအားဖြင့် နိုင်ငံတစ်နိုင်ငံရဲ့ စီးပွားရေ

**အချိန်ဖြဂယား**

| ၁၈၇၁ | ၁၉၄၄ |
| --- | --- |
| Carl Menger ရေးသားတဲ့ Principles of Economics စာအုပ်ထုတ်ဝေ | Friedrich Hayek ရေးပြီး ဩစတြီးယန်းဘောဂဗေဒမှာ အရေးပါတဲ့ The Road to Serfdom စာအုပ်ထုတ်ဝေ |



" လူ့အသိုင်းအဝိုင်းဆိုတာမရှိပါဘူး။ တစ်ဦးချင်းလူယောကျ်ားနဲ့ လူမိန်းမပဲရှိတယ်။ မိသားစုတွေပဲရှိတယ်။ "

မာဂရက် သက်ချာ

ဝွမ်းဆောင်ချက်ကို တစ်ခုလုံးအနေနဲ့ပဲဖြစ်ဖြစ် တစ်ပိုင်းချင်းအနေနဲ့ပဲဖြစ်ဖြစ် ဆန်းစစ်ခဲ့တယ်။ ဒီနေ့ခေတ်အထိလည်း ဒီလိုလုပ်ဆောင်နေတုန်းပါပဲ။ အဲ့ဒီအစား ဩစတြီးယန်းဂိုဏ်းက လူတစ်ဦးချင်း ဆုံးဖြတ်ချက်ချမှတ်မှုတွေကို ရှေ့တန်းတင်သင့်တယ်လို့ မြင်တယ်။ အဆုံးမှာတော့ တစ်ဦးချင်းတစ်ယောက်ချင်းကသာ လုပ်ဆောင်နိုင်တာဖြစ်တယ်။ နိုင်ငံတွေ၊ ကုမ္ပဏီတွေ၊ အင်စတီကျူးရှင်းတွေမှာ ကိုယ်ပိုင်အသိဉာဏ်မရှိဘူး။ ဒါတွေက အမျိုးမျိုးသော လူတစ်ဦးချင်းစီကို စုစည်းထားတဲ့ စုပေါင်းအဆောက်အအုံတစ်ခုပဲ။ နိုင်ငံတစ်နိုင်ငံရဲ့ချမ်းသာကြွယ်ဝမှု၊ ဒါမှမဟုတ် မညီမျှမှုအဆင့်အတန်းတွေလို စီးပွားရေးဖြစ်ရပ်ဖြစ်စဉ်တွေဟာ နိုင်ငံရေး သမားတွေ၊ စီးပွားရေးလုပ်ငန်းကြီးတွေရဲ့ ပူးပေါင်းဆောင်ရွက်မှုကရလာတဲ့ ပေါ်လစီတွေရဲ့အကျိုးဆက်ဆိုတာ ထက် မျိုးသောင်းပေါင်းများစွာသော လူတစ်ဦးချင်းစီကနေ လုပ်ဆောင်လိုက်တဲ့ ရွေးချယ်မှုရဲ့ ရလဒ်တွေပဲလို့ ဆိုတယ်။ ဒီတော့ မညီမျှမှုလျှော့ချခြင်းဆိုတာ ဘယ်နည်းနဲ့မဆိုမရှိနိုင်ပါဘူး။ အကြောင်းက ဒါဟာ လူသားတွေပုံစံထုတ်တည်ဆောက်ထားတဲ့ ထုတ်ကုန်တစ်ခုမဟုတ်ဘဲ၊ လူ့အပြုအမူတွေရဲ့ သရုပ်သကန်ဖြစ်နေတာကြောင့်ပါပဲ။

### သိပ္ပံလား၊ ဝိဇ္ဇာလား

လူသားတစ်ဦးချင်းစီရဲ့ အဓိကကျမှုအပေါ် ဩစတြီးယန်းသီအိုရီရဲ့အခြေခံအယူအဆက စီးပွားရေးပညာဟာ သိပ္ပံသဘောထက် ဝိဇ္ဇာသဘောပိုဆန်တယ်လို့မြင်တယ်။ ဈေးကွက်တွေ၊ ညီမျှခြင်းတွေနဲ့ အကျွမ်းတဝင်ဖြစ်နေတဲ့ သမားရိုးကျပညာရပ်ဆိုင်ရာ ဘောဂဗေဒနယ်ပယ်ထဲကို ဒီအယူအဆက ရုတ်တရက်ရောက်လာတာပါ။ စီးပွားရေးမိုဒယ်တွေကိုသုံးပြီး စီးပွားရေးကျဆင်းတဲ့ ကာလ၊ အတိုးနှုန်းအပြောင်းအလဲစတာတွေကနေ ဆယ်ကျော်သက်ကိုယ်ဝန်ဆောင်နှုန်း စစ်ပွဲတစ်ပွဲဖြစ်နိုင်ခြေ စတဲ့ အပေါ်ယံကြည့်ရင် စီးပွားရေးနယ်ပယ်အပြင်ကလိုဖြစ်နေတဲ့ တချို့အရာတွေအထိ အကြောင်းအရာအားလုံးနီးပါးအပေါ်မှာ ဖြစ်နိုင်ခြေရာခိုင်နှုန်းတစ်ခုထားတာဟာ လက်ခံနိုင်ဖွယ်ရာရှိတယ်လို့ သူတို့ကစောဒကတက်ပါလိမ့်မယ်။

| ၁၉၅၅ | ၁၉၇၄ |
| --- | --- |
| မာဂရက်သက်ချာကို ပညာရပ်ဆိုင်ရာပံ့ပိုးမှုတွေအမြောက်အမြားပေးခဲ့တဲ့ ဉာဏ်ကြီးရှင်အဖွဲ့ The Institute of Economic Affairs ကို တည်ထောင် | ဖရီးဒရစ် ဟိုင်းယက်ခ် နိုဝယ်ဆုရရှိ |

ဒါပေမဲ့ ဒီလိုသိပ္ပံနည်းကျခန့်မှန်းချက်တွေအပေါ် လက်တွေ့လုပ်ကိုင်ဆောင်ရွက်နေသူတွေက ယုံကြည်ကိုးစားမှုတွေဟာ မကြာခဏဆိုသလို မှားယွင်းမှုတွေကြုံရပါတယ်။ အင်္ဂလန်ဘဏ်ရဲ့ အုပ်ချုပ်ရေးမှူး Mervyn King က လူတွေကို အစုလိုက်သတိပေးပါတယ်။ သူ့အနေနဲ့ သူ့ရဲ့ ခန့်မှန်းချက်တွေကို တင်ပြတဲ့အခါ တစ်ရာရာခိုင်နှုန်းသေချာနေတဲ့ တစ်ခုတည်းသောအရာက ဒီခန့်မှန်းချက်တွေကို မှားယွင်းကြောင်းသက်သေပြကြလိမ့်မယ်ဆိုတာပဲလို့ ဆိုတယ်။

ဩစတြီးယန်းဂိုဏ်းရဲ့ဖခင်ကြီး Carl Menger ရဲ့ Principles of Economics တအုပ်ကို ၁၈၇၁ ခုနှစ်မှာ ပုံနှိပ်ထုတ်ဝေခဲ့တယ်။ ဘောဂဗေဒကို လူ့မှုသိပ္ပံဘာသာရပ်တစ်ခုအနေနဲ့ပဲ သူက ဆက်လက်ဆုပ်ကိုင်ထားခဲ့တယ်။ သူ့ရည်ရွယ်ချက်က လူတွေရဲ့အပြုအမူတွေကို ကြောင်းကျိုးဆီလျော်မှုရှိတဲ့ မူဘောင်ထဲသွင်းပြီး ပုံစံချအမျိုးအစားခွဲခြားဖို့ ဖြစ်တယ်။ သူ့ရဲ့အဓိက အာဘော်က ဘောဂဗေဒရဲ့ ပရမ်းပတာသဘာဝအပေါ်အလေးထားစေဖို့ပဲ။

> "လိုက်နာကိုင်စွဲရှိတဲ့ ကိုယ်ပိုင်တန်ဖိုးတွေ လူတစ်ဦးချင်းစီမှာ ရှိနေတာကို အသိအမှတ်မပြုတဲ့ လူ့အဖွဲ့အစည်းတစ်ရပ်ဟာ လူတစ်ဦးချင်းစီရဲ့ ဂုဏ်သိက္ခာကို လေးစားမှုမရှိတာပဲဖြစ်ပြီး အဲ့ဒီလူ့အဖွဲ့အစည်းဟာ လွတ်လပ်မှုဆိုတာကို တကယ်မသိနိုင်ပါဘူး။"
>
> ဖရီးဒရစ် ဟိုင်းယက်ခ်
> ဩစတြီးယန်း စီးပွားရေးပညာရှင်

ဒီစိတ်နဲ့ပဲ ဩစတြီးယန်းဂိုဏ်းဝင် စီးပွားရေးပညာရှင်တွေဟာ သူတို့ရဲ့လေ့လာမှုတွေမှာ ကိန်းဂဏန်းတွေ၊ ညီမျှခြင်းတွေထည့်သွင်းခြင်းကို တတ်နိုင်သမျှရှောင်ကြဉ်ကြတယ်။ ဒီအချက်ကြောင့်ပဲ သူတို့ရဲ့စာတမ်းအများအပြားကို အချက်အလက်တွေ၊ ကိန်းဂဏန်းတွေ၊ ညီမျှခြင်းတွေ မပြည့်စုံလို့ဆိုတဲ့ အကြောင်းပြချက်နဲ့ ပညာရပ်ဆိုင်ရာဂျာနယ်တွေက ပယ်ချခဲ့ကြတယ်။

## ယေဘုယျပြုမှုထောင်ချောက်

Menger ရဲ့နောက်တဆက်ခံသူ နိုဗယ်ဆုရှင်၊ ဩစတြီးယန်းနိုင်ငံသား Friedrich Hayek လူတွေဟာ တစ်ယောက်နဲ့တစ်ယောက် မတူကြဘူးဆိုတာ လေ့လာတွေ့ရှိခဲ့တယ်။ လူတိုင်းကို နည်းလမ်းတစ်မျိုးထဲနဲ့ တိတိကျကျဆက်ဆံပေမယ့် ဒီဆက်ဆံမှုအပေါ်မှာပဲ သူတို့ရဲ့တုံ့ပြန်ပုံတွေက အတော်လေးကွဲပြားကြတယ်လို့ သူကဆိုတယ်၊ လူတွေအတူတူပဲဆိုတာ သေချာစေဖို့ တစ်ခုတည်းသောနည်းလမ်းက သူတို့ကို မတူကွဲပြားစွာဆက်ဆံရလိမ့်မယ်လို့ သူကခံယူခဲ့တယ်၊ "ဒါကြောင့် တရားဥပဒေရှေ့မှောက်ကညီမျှမှုနဲ့ ရုပ်ဝတ္ထုပစ္စည်းညီမျှမှုတွေဟာ မတူကွဲပြားရုံသာမကဘူး။ အရင်းချင်းလည်း ပဋိပက္ခဖြစ်နေတာဖြစ်တယ်။ ကျွန်တော်တို့အနေနဲ့ ဒီနှစ်ခုအနက် တစ်ခုခုကိုသာ



### ဂရန်စင်ထရယ်ဘူတာကြီးထဲက အင်္ဂလိပ်သား

ဘင့်ကိုယ်သင်ကမ္ဘာမြေပေါ်ဆင်းသက်လာပြီး နယူးယောက်မြို့က ဂရန်းစင်ထရယ်ဘူတာရုံကြီးထဲကို ရောက်နေတဲ့ အင်္ဂလိပ်သားတစ်ယောက်လို့ ယူဆလိုက်ပါ။ ဘီးတွေပေါ်တင်ထားတဲ့ ထောင့်မှန်စတုဂံပုံသေတ္တာကြီးတွေ ရောက်လာပြီး လူအများ ဥဒဟိုသွားလာနေတဲ့အဆောက်အအုံထဲက လမ်းတွေပေါ်ကို လူတွေကို သွန်ချနေတာကို မနက်တိုင်း ၈ နာရီထိုးချိန်မှာ သင်တွေ့နေရတယ်။ တစ်ခါ ညနေရောက်ပြန်တော့ ထောင်နဲ့ချီတဲ့ လူအုပ်ကြီးတွေဟာ သေတ္တာကြီးတွေထဲကို ပြန်ဝင်သွားတာတွေ မြင်ရတယ်။ နေ့စဉ်နဲ့အမျှ ဒီအပြုအမူကို စောင့်ကြည့်နေရင်းနဲ့ လူတွေရဲ့ပြုမူလှုပ်ရှားမှုတွေနဲ့ ပတ်သက်ပြီး အတော်အတန်ယုံကြည်စိတ်ချရလောက်တဲ့ သိပ္ပံနည်းကျ ညီမျှခြင်းတချို့ကို သင့်အနေနဲ့ဖော်ထုတ်လာနိုင်လိမ့်မယ်။ ကမ္ဘာမြေပေါ်မှာ နေ့စဉ်နဲ့အမျှလူတွေအများကြီး ဒီလိုဝင်ထွက်သွားလာနေတာ ဘာကြောင့်လို့ မသိတဲ့နဲ့ နေ့စဉ်လူတွေ ဘာလုပ်မယ်ဆိုတာကိုတောင်မှ သင့်အနေနဲ့အတိအကျကြိုပြောနိုင်မှာပါ။ လူသားမျိုးနွယ်ရဲ့ အမြင်ကျဉ်းမြောင်းမှုတွေကို သင်ရလာခဲ့ပါပြီ။ ဒီဖြစ်ရပ်က ရှေးရိုးစွဲအစဉ်အလာ ဘောဂဗေဒနဲ့ ပတ်သက်လို့ ဩစတြီးယန်းဂိုဏ်းရဲ့ဝေဖန်ချက်နဲ့ ကွက်တိပါပဲ။ ရှေးရိုးစွဲအစဉ်အလာဘောဂဗေဒက လူတွေရဲ့ဆုံးဖြတ်ချက်ချမှတ်မှုတွေကို အနည်းအကျဉ်းလောက်ပဲ ထည့်သွင်းစဉ်းစားပြီး ရှုပ်ထွေးတဲ့မိုဒယ်တွေကို တီထွင်ခဲ့ကြတယ်။ ဒီဂွန့်တားမှုက စီးပွားရေးပညာရှင်တွေအနေနဲ့ မိုဒယ်တွေအပေါ် အလွန်အမင်းယုံကြည်သွားကြတာကြောင့် လူတွေရဲ့ဆုံးဖြတ်ချက်နောက်ကွယ်က ဖုံးကွယ်နေတဲ့ စေ့ဆော်မှုအကြောင်းရင်းကို မမြင်နိုင်တော့အောင်ဖြစ်သွားစေတယ်။

ရွေးနိုင်ပြီး နှစ်ခုစလုံးကိုတော့ တစ်ပြိုင်တည်းမရနိုင်ဘူး" လို့ဆိုတယ်။

ဥပမာအနေနဲ့ ဈေးဆိုင်ပိုင်ရှင်တစ်ယောက်ဆိုပါစို့။ သူ့အနေနဲ့တစ်နေ့တာအတွင်းမှာ အမြတ်အစွန်း အများဆုံးရဖို့ ရည်ရွယ်တယ်ဆိုတဲ့အချက်ကို အစဉ်အလာရှေးရိုးစွဲဘောဂဗေဒက ပထမဆုံးယူဆချက်

အခန်နဲ့ထားလိုက်တယ်။ နောက်ဆုံးမှာ ကိုယ်ကျိုးစီးပွားဆိုင်ရာဒီလက္ခဏာဟာ အဒမ်စမစ်ချမှတ်ခဲ့တဲ့ အရေးကြီးဆုံးနိယာမတစ်ခုပဲလို့ ကောက်ချက်ချလိုက်တယ် (အခန်း ၁ ကိုကြည့်ပါ)။ ဒါပေမဲ့ ဩစတြီးယန်းဂိုဏ်းသားဘောဂဗေဒပညာရှင်ကတော့ ဒီဈေးသည်ဟာ သူ့မနှစ်မြို့တဲ့ လူတစ်ယောက်ကို ဒါမှမဟုတ် နောက်ကျတဲ့အထိ ဆိုင်ကိုဆက်ဖွင့်ထားဖို့ မရောင်းဘဲငြင်းလိုက်မလား။ ဒါမှမဟုတ် သူရောင်းချမယ့်ပမာဏကို လွယ်လွယ်လေး ဆုံးဖြတ်မလား ဆိုတာတွေဟာ သူ့ရောင်းချမယ့်ပမာဏကို လွယ်လွယ်လေး ဆုံးဖြတ်မလား ဆိုတာတွေက သူရောင်းချမယ့်ပမာဏကို လွယ်လွယ်လေး အဆုံးအဖြတ်ပေးနိုင်တယ်လို့ ထောက်ပြပါလိမ့်မယ်။ ဒီလို ပုဂ္ဂိုလ်ရေးဆိုင်ရာအကြောင်းရင်းတွေက အဆုံးအဖြတ်ပေးနိုင်တယ်လို့ ထောက်ပြပါလိမ့်မယ်။ ဒီနယ်မြေအနီးမှာရှိနေတဲ့ ဈေးသည်တွေရဲ့ သူ့ရဲ့အပြုအမူကို ဆုံးဖြတ်ပေးမှာဖြစ်ပြီး ဒီနယ်မြေအနီးမှာရှိနေတဲ့ ဈေးသည်တွေရဲ့ အပြုအမူကိုလည်း အုပ်လိုက်သင်းလိုက် ဆုံးဖြတ်ပေးပါတယ်။

ဩစတြီးယန်းဂိုဏ်းသားဘောဂဗေဒပညာရှင်ရဲ့အမြင်မှာ ရောင်းလိုအားနဲ့ဝယ်လိုအားဟာ ဈေးနှုန်းတက်ရ ကျရတဲ့ အကြောင်းရင်းကို ယေဘုယျသဘောဖော်ပြပေးတာဖြစ်ပြီး တကယ့်အကြောင်းတရားမဟုတ်ဘူးလို့ မြင်တယ်၊ အစဉ်အလာဘောဂဗေဒသမားတွေက လူမှုသိပ္ပံပညာရပ်မှန်သမျှအားလုံး ယေဘုယျပြုမှုကို လိုအပ်တာပဲလို့ ငြိုငြင်ကြတယ်။ ဒါပေမဲ့ ဩစတြီးယန်းဂိုဏ်းဘောဂဗေဒရဲ့အဓိက အောင်မြင်မှုက တစ်စုံတစ်ယောက်ရဲ့ တန်ဖိုးစံတွေ၊ အစီအစဉ်တွေ၊ မျှော်လင့်ချက်တွေနဲ့ အရှိတရားအပေါ်နားလည်သဘောပေါက်မှုတွေ အားလုံးဟာ ပုဂ္ဂလဓိဋ္ဌာန်ဆန်တယ်လို့ စဉ်းစားဖို့ လူမှုသိပ္ပံကို တိုက်တွန်းခဲ့ခြင်းဖြစ်တယ်။

## တစ်သီးပုဂ္ဂလဝါဒကို သက်သေထူနိုင်ခဲ့လား

ဒါက ဘာကြောင့်များ သိပ်အရေးကြီးရတာလဲ၊ လူသားရဲ့အပြုအမူနဲ့ပတ်သက်ပြီး ကျယ်ကျယ်ပြန့်ပြန့်ယူဆချက်တွေ လုပ်ဆောင်တာကို ဆန့်ကျင်သတိပေးတဲ့ အတွေးအခေါ်ဂိုဏ်းဟာ သမားရိုးကျဘောဂဗေဒအမြင်လောက်တောင် အသုံးဝင်ကောင်းမှဝင်ပါလိမ့်မယ်၊ သမားရိုးကျဘောဂဗေဒအမြင်က ဖြစ်လာမယ့်ရလဒ်တွေကို ခန့်မှန်းဖို့ကြိုးပမ်းတယ်။ နောက်ပြီး ယူဆချက်တွေ တည်ဆောက်ခြင်းကတစ်ဆင့် မူဝါဒချမှတ်သူတွေကို ဖြေရှင်းနည်းတွေ ထုတ်ပေးတယ်။ ဒါပေမဲ့ ဩစတြီးယန်းဂိုဏ်းရဲ့သံသယဖြစ်မှုတွေကို သက်သေတူပြခဲ့ပြီးသားပါ။ အထူးသဖြင့် ဟိုင်းယက်ခ်နဲ့သူ့ရဲ့ဆရာရင်းဖြစ်သူ Ludwig von Mises တို့ဟာ ကွန်မြူနစ်ဝါဒကျဆုံးခန်းကို ကြိုတင်ဟောကိန်းထုတ်ခဲ့ကြတဲ့ အစောဆုံးသူတွေထဲမှာ ပါဝင်ခဲ့ကြတယ်၊ အစိုးရစီမံကိန်းရေးဆွဲသူတွေဟာ နိုင်ငံသားတွေရဲ့တစ်ဦးချင်းဆုံးဖြတ်ချက်တွေချမှတ်ဖို့ တွန်းအားဖြစ်စေတဲ့အရာတွေနဲ့ ပတ်သက်တဲ့ သတင်းအချက်အလက်တွေကို



> တစ်ခါတုန်းက လူ့အဖွဲ့အစည်းနဲ့ လူသားတစ်ဦးချင်းစီကြားမှာ ခြားနားတဲ့သရုပ်သကန်ရယ်လို့ ဘာမှမျှမထားဘဲ၊ အလုပ်ခွဲခြားလုပ်ကိုင်ခြင်းဟာ လူ့အဖွဲ့အစည်းရဲ့ အနှစ်သာရပဲလို့ သဘောပေါက်နားလည်ခဲ့ကြတုန်းတယ်၊ ဒီတော့ လူတစ်ဦးချင်း စိန်ခေါ်တဲ့ အခြေခံသဘောတရားတွေနဲ့လူမှုရေးဆိုင်ရာအခြေခံသဘောတရားတွေကြား ဆန့်ကျင်ဘက်ဝိရောဓိဖြစ်မှုတွေ ပျောက်ကွယ်သွားရတယ်။

**Ludwig von Mises**

ဩစတြီးယန်း စီးပွားရေးပညာရှင်

လုံလုံလောက်လောက် ဘယ်တုန်းကမှ မသိခဲ့ကြတာကြောင့် ဗဟိုစီမံကိန်းချစနစ်ကျင့်သုံးတဲ့ နိုင်ငံဟာ ကျဆုံးမှာပါပဲလို့ သူတို့က ငြင်းခုံခဲ့ကြတာဖြစ်တယ်။

ဩစတြီးယန်းဂိုဏ်းစီးပွားရေးပညာရှင်တွေက လူတစ်ဦးချင်းစီရဲ့ကိုယ်ပိုင်ရွေးချယ်မှုတွေကို လွတ်လွတ်လပ်လပ်လုပ်ဆောင်နိုင်ဖို့ အရေးကြီးတယ်ဆိုတဲ့အပေါ်အလေးအနက်ထားကြတယ်၊ လေးစားသမ်ပဲသား laissez-faire အယူအဆက ၂၀ ရာစုစီးပွားရေးမှာ အကြီးမားဆုံးသော ပြုပြင်ပြောင်းလဲမှုတချို့ကို ဖြစ်ပေါ်စေခဲ့တယ်။ တစ်စိတ်တစ်ပိုင်းပဲဖြစ်ဖြစ်၊ အနည်းဆုံးတော့ ပြုပြင်ပြောင်းလဲမှုတချို့ကို ဩစတြီးယန်းဂိုဏ်းရဲ့အယူအဆတွေကြောင့်ပဲလို့ဆိုရမယ်၊ ဩစတြီးယန်းဂိုဏ်းရဲ့ မိဟာ ဩစတြီးယန်းဂိုဏ်းရဲ့အယူအဆတွေကြောင့် ... အယူအဆတွေက ဇော်နယ် ရေဂင်နဲ့မာဂရက်သက်ချာတို့နှစ်ဦးစလုံးကို လွှမ်းမိုးတဲ့ အယူအဆတွေက ဈေးကွက်ဆိုင်ရာပြုပြင်ပြောင်းလဲရေးကို ရေ့ဝဦးလုပ်ဆောင်စေခဲ့ပြီး ရောင်းလိုအား ဘက်ပြုပြင်ပြောင်းလဲရေးကို လက်တို့ပေးခဲ့တာပဲဖြစ်တယ် (အခန်း ၁၃ ကိုကြည့်ပါ)။ အထက်-အောက် စီးပွားရေးအပေါ် အာရုံမစိုက်သင့်ဘဲ၊ လူတစ်ဦးချင်းရဲ့ လိုအင်ဆန္ဒတွေအပေါ်မှာ အလေးထားသင့်တယ်ဆိုတာကို သူတို့နှစ်ဦးစလုံးက အသိအမှတ်ပြုလက်ခံခဲ့တယ်။

အနှစ်ချုပ်အတွေးအခေါ်

**တစ်သီးပုဂ္ဂလလူသားတစ်ဦးချင်းရဲ့ ရွေးချယ်မှုတွေက အရေးပါတဲ့။**

# ၁၃ - ရောင်းလိုအား ဘောဂဗေဒ

## Supply side economics

**အစိုးရကအခွန်တွေ တိုးကောက်လိုက်တဲ့အခါ သူ့ငွေစာရင်းထဲကို ငွေတွေပိုရောက်လာရမယ့်အစား တကယ့်လက်တွေ့မှာတော့ ဝင်ငွေတွေကို ပိုပြီးလျော့ကျသွားစေတယ်။ တစ်ခါအခွန်တွေလျှော့ချလိုက်ပြန်တော့ ဝင်ငွေတွေပိုရလာပြန်တယ်။ ဒါကစီးပွားရေးပညာရပ်ရဲ့ ဆင်ခြင်တွေးခေါ်ပုံကို လုံးဝပြောင်းလဲသွားစေတယ်။ ဒါပေမယ့် ဒါဟာအောက်လမ်းဗျက်လှည့်ပညာရပ်မဟုတ်ပါဘူး။ ရောင်းလိုအားဘောဂဗေဒရဲ့ အဓိကသက်ဝင်ယုံကြည်ထားတဲ့ ဝါဒရေးရာ ရေသောက်မြစ်ပဲဖြစ်တယ်။**

ရောင်းလိုအားဘောဂဗေဒဟာ ဝိရောဓိအဖြစ်ရဆုံး စီးပွားရေးသီအိုရီတွေထဲမှာပါတယ်၊ သူ့နဲ့ပတ်သက်တဲ့ အငြင်းအခုံဖြစ်မှုတွေကို အနုစိတ်ချုပ်ကြည့်လိုက်ရင် နှစ်ပိုင်းကွဲနေတာ တွေ့ရမယ်၊ နေ့စဉ်စွာခွဲဝေဖြန့်ဖြူးမှုအပေါ် အစိုးရရဲ့ ပါဝင်ပတ်သက်မှုတွေကို ပိုလုပ်ဆောင်သင့်တယ်လို့ ယုံကြည်သူတွေကတစ်ဖက်၊ တစ်ဦးချင်းလွတ်လပ်မှုနဲ့ လွတ်လပ်တဲ့ဈေးကွက်အပေါ် ယုံကြည်သူတွေကတစ်ဖက် နှစ်ပိုင်းကွဲနေတာဖြစ်တယ်၊

ဒီဝေါဟာရက အခွန်နှုန်းထားသက်သက်ဆိုတာထက်တော့ ပိုပါတယ်၊ ရောင်းလိုအားဘောဂဗေဒကစီးပွားရေးစနစ်တစ်ရပ်ရဲ့ရောင်းလိုအားဘက်အခြမ်းက ပြုပြင်ပြောင်းလဲမှုတွေကို ရည်ညွှန်းတယ်။ ရောင်းလိုအားဘက်ဆိုတာ လူတွေစားသုံးမယ့် ကုန်ပစ္စည်းတွေကို ထုတ်လုပ်ပေးတဲ့ အဖွဲ့အစည်းတွေနဲ့ ကုမ္ပဏီတွေကိုဆိုလိုတယ်၊ အစဉ်အလာအမြင်ရတော့ ရောင်းလိုအားဘက်သမားတွေဆိုတာကုမ္ပဏီတွေကို ပိုပြီးလွတ်လွတ်လပ်လပ်နဲ့ ပိုပြီးထိထိရောက်ရောက်ဖြစ်ဖို့ လိုလားသူတွေပဲ၊ သူတို့က (ရေနံဓာတ်ငွေ့အင် ကုမ္ပဏီတွေလို) ဝန်ဆောင်မှုလုပ်ငန်းတွေကို ပုဂ္ဂလိကပိုင်လုပ်ခြင်းကို

> **ပုံသေအခွန် (Flat Taxes)**
>
> ရောင်းလိုအား ဘောဂဗေဒကထောက်ခံတဲ့အခွန်ကပုံသေခွန်ပဲ၊ ပုံသေခွန်ဆိုတာ လူတိုင်းကိုနှုန်းထားတစ်ရပ်ထဲနဲ့ ကောက်ခံတဲ့အခွန်ဖြစ်တယ်။ ဒီအခွန်စနစ်ကိုလက်ဗီးယားနဲ့ အက်စ်တိုးနီးယား နိုင်ငံတွေအပါအဝင် ယခင်ကွန်မြူနစ်နိုင်ငံဟောင်းတွေမှာ အားကြီးမာန်တက် ကျင့်သုံးခဲ့ကြဖူးတယ်၊ အခွန်နှုန်းဆိုတဲ့ ခေါင်းစဉ်မရှိတော့ပေမယ့် လူတွေဟာ အခွန်တွေကို ပိုပေးဆောင်လာကြတာကြောင့် အခွန်ရငွေပမာဏကတော့ တိုးလာခဲ့တယ်ဆိုတာတွေ့ရတယ်။

ထောက်ခံအားပေးကြတယ်၊ (လယ်ယာလုပ်ငန်းနဲ့ သတ္တုတွင်းလုပ်ငန်းတွေလို) အသည်းအသန် ယှဉ်ပြိုင်ရုန်းကန်နေကြရတဲ့ နယ်ပယ်တွေကို အထောက်အပံ့ပေးနေတာတွေကိုဖြတ်တောက် လျှော့ချပစ်ဖို့နဲ့ (ဆက်သွယ်ရေး ကုမ္ပဏီကြီးတွေလို) လက်ဝါးကြီးအုပ်ကုမ္ပဏီကြီးတွေကို ဖြတ်သိမ်းပစ်ဖို့လိုလားကြတယ်၊ လက်တွေ့မှာတော့ ဒီရည်မှန်းချက်တွေအပေါ် အတိုက်အခံလုပ်ကြတဲ့ စီးပွားရေးပညာရှင်တွေလည်းရှိပါတယ်၊

ဒါပေမဲ့ ၁၉၈၀ နှစ်တွေကတည်းက "ရောင်းလိုအားဘောဂဗေဒ" ပညာရပ်ဟာ မြင့်မားတဲ့ အခွန်နှုန်းထားတွေကို လျှော့ချဖြတ်တောက်ဖို့ ထောက်ခံအားပေးတဲ့အပေါ် ပိုပြီးအငြင်းအခုံ ဖြစ်လာရတယ်၊ ဒီလိုအခွန်နှုန်းတွေ လျှော့ချဖြတ်တောက်ဖို့ဆိုတဲ့ အိုင်ဒီယာကို အမေရိကန်စီးပွားရေးပညာရှင် Arthur Laffer က ၁၉၇၀ နှောင်းပိုင်းနှစ်တွေမှာ တင်ပြခဲ့တာဖြစ်တယ်။ လူတွေဟာ အခွန်တွေပိုပေးလာရရင်၊ အခွန်ရှောင်ချင်စိတ်တွေပိုများလာမယ်၊ ဒါမှမဟုတ် အလုပ်ကြိုးစားလုပ်ချင်စိတ်တွေ ပိုနည်းသွားမယ်လို့ သူကစောဒကတက်ပြခဲ့တယ်၊

## လဖ်ဖာမျဉ်းကွေး

လက်ဖ်ဖာက အစိုးရတွေအနေနဲ့ အခွန်လုံးဝမကောက်ခံဘူးဆိုရင် ဘာဝင်ငွေမှရလာမှာ မဟုတ်သလို အခွန်ကိုတစ်ရာရာခိုင်နှုန်းအပြည့်ကောက်ခံရင်လည်း (လူတွေမှာအလုပ်လုပ်ဖို့ ဘာမက်လုံးမှရှိတော့မှာ မဟုတ်လို့) အစိုးရရဲ့ဘဏ္ဍာတိုက်ထဲကို ငွေတစ်ပြားသစ်ချပ်မှ

**အချိန်ပြဇယား:**

| ၁၉၆၀ နှစ်များ | ၁၉၇၀ နှစ်များ | ၁၉၈၀ အစောပိုင်းနှစ်များ | ၁၉၈၀ နှောင်းပိုင်းနှစ်များ | ၁၉၉၄ | ၁၉၉၅ |
|---|---|---|---|---|---|
| ကမ္ဘာတစ်လွှားကအစိုးရတွေဟာ စစ်စရိတ် ကြွေးတွေပြန်ဆပ်ဖို့နဲ့ လူမှုဖူလုံရေးရန်ပုံငွေတွေအတွက် အခွန်တွေကို မကြုံစဖူးတိုးမြှင့်ကောက်ခံခဲ့ | အာသာလက်ဖ်ဖာက လက်ဖ်ဖာမျဉ်းကွေးအယူအဆကို ထုတ်ဖော်ခဲ့ | လက်ဖ်ဖာရဲ့အယူအဆတွေကို သက်ချာနဲ့ ရေဂင်တို့က လက်ခံခဲ့ | ယူကေ၊ ယူအက်စ်နဲ့ အနောက်ကမ္ဘာတစ်ဝှမ်းမှာ အခွန်တွေလျှော့ချခဲ့ | အက်စတိုးနီးယားနိုင်ငံမှာ ပုံသေခွန်စတင်ကောက်ခံ | လက်ဗီးယားနိုင်ငံကလည်း ပုံသေခွန်ကောက်ခံမှုကို အတုခိုးလုပ်ဆောင်လာ |

> "ဝင်ငွေအမြင့်ဆုံးရှိသူတွေအပေါ် အခွန်နှုန်းထားအမြင့်ဆုံးကောက်ခံနေတာတွေကို ဖြတ်တောက်လျှော့ချလိုက်မယ်ဆိုရင် အစိုးရအနေနဲ့ သူတို့ဆီကနေပိုက်ဆံတွေ ပိုရလာမယ်။"
>
> အာသာလက်ဖ်ဖာ

ရောက်လာမှာမဟုတ်ဘူးလို့ ဆိုတယ်။ သူက ခေါင်းလောင်းပုံမျဉ်းကွေးတစ်ကြောင်းကို ပုံကြမ်းဆွဲပြခဲ့တယ်။ (ယုံတမ်းစကားတွေအရတော့ လက်သုတ်ပဝါတစ်ထည်ရဲ့ နောက်ကျောဘက်မှာ ဆွဲပြခဲ့တာလို့ ဆိုကြတယ်။) ဒီခေါင်းလောင်းပုံမျဉ်းကွေးက သုညနဲ့တစ်ရာကြားက အမှတ်တစ်ခုနေရာမှာ အစိုးရအနေနဲ့ ဝင်ငွေအများဆုံးရရှိနိုင်တယ်ဆိုတာ ပြသခဲ့တယ်။ အခွန်တွေ လျှော့ကောက်လေလေအစိုးရအနေနဲ့ ဝင်ငွေတွေပိုရလေလေဆိုတဲ့ ဒီအာဘော်ကို ရော်နယ်ရေဂင်နဲ့ မာဂရက်သက်ချာတို့က သဘောကျလက်ခံခဲ့တယ်။

ဒီသီအိုရီကအစွန်းထွက်အခွန်နှုန်းအပေါ်မှာ အာရုံစိုက်ထားတယ်။ အစွန်းထွက် အခွန်နှုန်းဆိုတာ လူတစ်ယောက်တစ်နာရီအချိန် ပိုလုပ်လို့ရတဲ့ ရငွေအပေါ် ပေးရတဲ့အခွန်နှုန်းတစ်ခုပဲ။ ယူအက်စ်နဲ့ယူကေ အပါအဝင် စီးပွားရေးအင်အားအကြီးဆုံး နိုင်ငံအများအပြားမှာ အစွန်းထွက်နှုန်းက ၇၀ % လောက်ရှိတယ်။ အလုပ်သမားတွေအဖို့ အချိန်ပိုရငွေကို ၃၀ % လောက်ပဲ အိမ်ပြန်သယ်နိုင်တာကြောင့် ဒီအခွန်ကောက်ခံပုံဝနစ်ကလူတွေရဲ့ အချိန်ပိုအလုပ်လုပ်ချင်စိတ်ကို ထိခိုက်စေတယ်ဆိုတာ သိနိုင်တယ်။

ဒါနဲ့ပတ်သက်လို့ ဥပမာပြရရင် ၂၀၀၈ ခုနှစ်မှာယူကေဘဏ္ဍာတိုက် (UK Treasury)က ထိပ်တန်းအဆင့်အခွန်ထမ်းတွေကို ထပ်တိုးပြီးအခွန်ကောက်ဖို့ လုပ်ဆောင်ရာမှာ ဖြစ်ပျက်ခဲ့တာကို ပြရမယ်။ ဒီလိုအခွန်တိုးကောက်တာဟာ ၁၉၇၀ နောက်ပိုင်းမှာ ပထမဦးဆုံးအကြိမ်လည်းဖြစ်တယ်။ စတာလင်ပေါင် ၁၅၀၀၀၀ အထက်ရတဲ့ ဘယ်ဝင်ငွေအပေါ်မှာပဲဖြစ်ဖြစ် ၄၅ ရာခိုင်နှုန်း အခွန်ပေးဆောင်စေဖို့ စီမံခဲ့တာဖြစ်တယ်။ အရင်ကတော့ ၄၀ ရာခိုင်နှုန်းလောက်ပဲ အခွန်ဆောင်ခဲ့ရတယ်။ ဒါပေမဲ့ ထင်ရှားတဲ့အခွန်ကျွမ်းကျင်သူပညာရှင်တွေက ဒီအစီအမံကြောင့် ခါတိုင်းထက်ပိုပြီး အခွန်ရငွေတွေ တိုးလာမှာမဟုတ်ဘူးလို့ တွက်ချက်ပြခဲ့ကြတယ်။ လူတွေဟာ ဝင်ငွေတိုးအောင် အလုပ်ပိုလုပ်ချင်စိတ်ရှိလာမှာ မဟုတ်တော့တာကြောင့် အခွန်ရငွေ ထောင်ကျဆင်းသွားနိုင်တယ်လို့ သူတို့ကသတိပေးခဲ့ကြတယ်။

အခွန်ရှောင်ဖို့ နည်းလမ်းတွေထဲကတစ်ခုကိုဥပမာပေးရရင် ဝင်ငွေခွန် သက်သာတာကြောင့် မိုနာကို၊ ကေမန်းအိုင်လန်တို့လို အရပ်ဒေသတွေဆီ တိမ်းရှောင်သွားတာမျိုးပေါ့။ ဒါပေမဲ့ ပြဿနာက



လူတွေအခွန်ရှောင်ဖို့ နည်းလမ်းရှာကြံရုံသက်သက်တင်မကဘူး။ မြင့်မားလာတဲ့ အစွန်းထွက် အခွန်နှုန်းတွေက စီးပွားရေးတစ်ရပ်လုံးကို ပျက်စီးသွားစေနိုင်တယ်။ လုပ်ခလစာမြင့်မားတဲ့ အလုပ်သမားတွေကို စိတ်ပျက်လက်ပျက်ဖြစ်စေတာကြောင့် ပြည်ပကိုထွက်ခွာသွားကြတာ မျိုးတွေလည်းကြုံရနိုင်တယ်။ ဒါကစီးပွားရေးစနစ်တစ်ရပ်ရဲ့ စုစုပေါင်းထွက်ကုန်တန်ဖိုးကို လျော့ကျသွားစေတယ်။ ဒီလိုဖြစ်လာတဲ့အခါ အစိုးရအနေနဲ့ အခွန်တွေလျှော့ချဖို့ ဝင်းစားရသလို စီးပွားရေးလုပ်ငန်းတွေ ဆက်လက်တည်တံ့နေစေဖို့ တခြားပက်လုံးတွေပေးဖို့လည်း စဉ်းစားရတယ်။

အခွန်နှုန်းတွေလျော့ကျသွားတဲ့အခါ၊ အပိုဝင်ငွေတစ်ဒေါ်လာအပေါ်မှာ ရမယ့်အစိုးရရဲ့ဝေစုလျော့နည်းသွားပေမယ့် လူတွေရဲ့အချိန်ပိုအလုပ်လုပ်လိုစိတ်ကိုတွန်းအားပေးတယ်။ လက်ဖ်ဖာမျဉ်းကွေးက အစိုးရတွေအနေနဲ့ အစွန်းနှစ်ဖက်ကိုရှောင်ပြီးညှိယူနိုင်ရမယ်လို့ ဆိုတယ်။ ၁၄ ယောက်မြောက် လူးဝစ်ဘုရင်ရဲ့ ဘဏ္ဍာရေးဝန်ကြီး Jean Baptiste Colbert က အခွန်ကောက်ခံခြင်းဆိုတာ ငန်းတွေကို အမွေးနုတ်တဲ့ပညာရပ်လိုပါပဲ၊ ငန်းမွေးတွေ အများဆုံးရဖို့လိုသလိုငန်းတွေရဲ့ တရှူးရှူးမြည်သံကိုလည်း အနည်းဆုံးထွက်အောင်လုပ်ဆောင်ရမှာဖြစ်တယ်လို့ ပြောခဲ့ဖူးတယ်။ လက်ဖ်ဖာမျဉ်းကွေးကလည်း ဒီစကားကိုသာဓကဆောင်ပြီးဖော်ပြနေတယ်။

## negative income tax

နောက်ထပ်ရာဇီကယ်အိုင်ဒီယာတစ်ခုက မီလ်တန်ဖရိုင်းမင်းဆီကနေပေါ်ထွက်လာခဲ့တယ် (အခန်း(၁၀)ကိုကြည့်ပါ)။ သူက negative income tax ဖန်တီးမှုအပေါ် ထောက်ခံခဲ့တယ်။ လူမှုလုံခြုံရေး (social security)နဲ့ အလုပ်လက်မဲ့ အကျိုးခံစားခွင့် (unemployment benefits) တွေအရပို့ပြီး ဆင်းရဲနွမ်းပါးတဲ့ မိသားစုတွေကို အစိုးရကနေငွေကြေးအထောက်အပံ့ ပေးတဲ့ အစီအစဉ်တွေ အရင်ကတည်းကရှိခဲ့ပါတယ်။ အဲ့ဒီစနစ်တွေအစား negative income tax စနစ်ကိုထားမယ်ဆိုရင်တော့ သတ်မှတ်ထားတဲ့ပမာဏအထက်ဝင်ငွေရှိသူတွေက ပုံမှန်အတိုင်းအခွန်ပေးဆောင်ရမှာဖြစ်ပြီး သတ်မှတ်ဝင်ငွေပမာဏထက် နိမ့်ကျသူတွေအနေနဲ့ တော့ negative tax တွေကိုလက်ခံရရှိမှာဖြစ်တယ်။ တစ်နည်းပြောရရင်တော့ အခွန်ဆော်ဌာန (taxman)ကနေအခွန်ပြန်အမ်းငွေ (rebate)ကိုရရှိခံစားရမှာဖြစ်တယ်။ ပုံစံကျတဲ့ ကုန်ကျစရိတ်ကြီးမားတဲ့ လူမှုလုံခြုံရေးနဲ့ အလုပ်လက်မဲ့အကျိုးခံစားခွင့်ဆိုင်ရာ အခြေခံအဆောက်အအုံတွေကို ဒီစနစ်နဲ့ အစားထိုးဖယ်ရှားပစ်နိုင်တယ်ဆိုတဲ့ အယူအဆပါပဲ။

"အိုးရာကအခွန်တွေ ပိုကောက်လေလေ၊ လူတွေအလုပ်လုပ်ဖို့ စိတ်လုံးတွေ ပိုကျဆင်းလာလေပါပဲ။ အန်ကယ်ဆမ် (Uncle Sam) (အမေရိကန်ပြည်ထောင်စုအစိုးရကိုဆိုလိုတယ်) က အပိုလုပ်ခရငွေရဲ့ ၆၀ ရာခိုင်နှုန်း၊ ဒါမှမဟုတ် ဒီထက်ပိုပြီးအခွန်ကောက်ခံတော့မယ်ဆိုတာသိနေတဲ့အခါ ဘယ်ကျောက်မီးသွေးတွင်းအလုပ်သမား၊ ဘယ်ကုန်ထုတ်လုပ်ရေးအလုပ်သမားတွေက အချိန်ပိုအလုပ်လုပ်ဖို့ ကမ်းလှမ်းချက်တွေကို လက်ခံတော့မှာလဲ။"

ဂျော်နယ်လ်ရောင်

## ဘယ်လောက်မြင့်မြင့်က မြင့်လွန်းတာလဲ

လက်ဖ်ဇာချဉ်းကွေးက အခွန်နှုန်းသတ်မှတ်ချက်တစ်ရပ်ကိုရောက်တဲ့အခါမှာ အခွန်ရငွေဟာ ဆက်ပြီးမတိုးတော့ဘဲ၊ လျော့လျော့သွားလိမ့်မယ်လို့ဆိုတယ်။ အဓိကမေးခွန်းထုတ်စရာရှိတာက အဲ့ဒီသတ်မှတ်ချက်အမှတ်က ဘယ်နေရာမှာရှိနေတာလဲဆိုတာပဲ။ ၁၉၆၀ နှစ်တွေတုန်းက တချို့နိုင်ငံတွေမှာ အစွန်းထွက်အခွန်နှုန်း ၉၀ % ကောက်ခဲ့စဉ်ကလား၊ ဒါမှမဟုတ် ၁၅ % ပဲ ကောက်ခဲ့စဉ်ကလား၊ ဘာမှမသေချာပါဘူး။ အစိုးရတွေကိုဘယ်အခြေအနေက လူမှုဖူလုံရေးနဲ့ လူမှုရေးအသုံးစရိတ်တွေအတွက် ငွေကြေးပံ့ပိုးမှုတွေ မလုပ်နိုင်အောင် ဖြစ်စေလဲဆိုတာမသေချာပါဘူး။

လက်ဝဲယိမ်းစီးပွားရေးပညာရှင်တွေက အမြင့်ဆုံးသတ်မှတ်ချက် (ceiling) ကို ၅၀ % အထက်မှာ ထားသင့်တယ်လို့ အဆိုပြုကြတယ်။ နောက်တစ်ဖက်က ပုဂ္ဂိုလ်တွေကလည်း အမြင့်ဆုံး သတ်မှတ်ချက် ဟာ ၄၀ % အောက်မှာပဲထားသင့်တယ်လို့ အကြံပြုကြပြန်တယ်။ ဒီနေ့ထက်ထိတော့ အငြင်းအခုန် ဆက်ငြင်းခုံနေရတုန်းပါပဲ။

ကမ္ဘာ့နေရာအနှံ့အပြားမှာတော့ အများသဘောဆန္ဒက ပိုမိုနည်းပါးတဲ့အစွန်းထွက်နှုန်းတွေဆီကို ဦးတည်လာနေတယ်။ အခွန်နှုန်း ၆၀ % နဲ့အထက် ဖြစ်နေတဲ့ နိုင်ငံတွေဟာ ၁၉၈၀ ပြည့်နှစ်မှာ ၄၉ % အထိ ကျဆင်းသွားတယ်။ ဘယ်လ်ဂျီယံ၊ ကင်မရွန်းနဲ့ ကွန်ဂိုဒီမိုကရက်တစ်သမ္မတနိုင်ငံတွေမှာ သတ္တရာစ် ၂၀၀၀ ဝန်းကျင်ကာလရောက်တဲ့အခါ အခွန်နှုန်း ၃ % လောက်အထိ ကျဆင်းသွားတာ တွေ့ရတယ်။



### လက်တွေ့ဘဝပြဿနာများ

လက်ဖ်ဇာအယူအဆရဲ့ ပုဗ္ဗဒေဗအပေါ် ငြင်းခုံဖို့ခက်ခဲပေမယ့် ဒါကိုလက်တွေ့လိုက်နာကျင့်သုံးရာမှာ အလုပ်ဖြစ်၊ မဖြစ်ဆိုတာကတော့ မေးခွန်းထုတ်စရာတွေ ရှိနေဆဲပါပဲ။ ၁၉၈၀ အစောပိုင်းနှစ်တွေမှာ ရေဂင်ရဲ့အခွန်လျှော့ချမှုတွေကို ဂျော့ချ်ဘုရှ်က "စုန်းတဝေ ဘောဂဗေဒ" (voodoo economics) လို့ လှောင်ပြောင်ခဲ့တယ်။ ဟားဗတ်ပါမောက္ခ ဂျက်ဖရီဖရန်ကယ်လ်ကတော့ ဒီသီအိုရီဟာ "သဘောတရားအရ တချို့အခြေအနေတွေမှာ ဖြစ်နိုင်ခြေရှိပါတယ်၊ အမေရိကန်ဝင်ငွေခွန်နှုန်းတွေအပေါ်မှာတော့ အသုံးမတည့်လှပါဘူး။ အခွန်နှုန်းတွေလျှော့ချလိုက်တာဟာ အခွန်ရငွေတွေကို လျော့ကျသွားစေတယ်ဆိုတာ လူပိန်းသိနဲ့တောင်ပြောနိုင်ပါတယ်" လို့ ဆိုတယ်။

ရေဂင်ရဲ့အခွန်လျှော့ချမှုတွေနဲ့ ဘုရှ်ရဲ့အခွန်လျှော့ချမှုတွေက အစိုးရရဲ့ အခွန်ရငွေတွေကို လျော့ကျသွားစေပြီး ဘက်ဂျက်လိုငွေတွေကို မြင့်တက်လာစေခဲ့တယ်ဆိုတာ သက်သေအထောက်အထားတွေက ပြသနေတယ်။ ပြောရရင် သူတို့မှာ ရန်ပုံငွေမရှိတော့ဘဲ၊ သူတို့ကိုတောင် နောက်ဆုံးမှာ ငွေကြေးပြန်ပေးရပါလိမ့်ဦးမယ်။ အစိုးရအဖွဲ့ရဲ့အမှားက အခွန်ကောက်ခံမှုအဆင့်တိုင်းကို လျှော့ချပေးဖို့ ဆုံးဖြတ်တာထက်၊ လျှော့ချရမယ့် အခွန်အမျိုးအစားတွေကို ရွေးချယ်ရာမှာ မှားယွင်းနေတာဖြစ်တယ်လို့ ရောင်းလိုအားဘောဂဗေဒသမားတွေက ယူဆကြတယ်။

ဒီအနုမာနယူဆချက်က ဒီနေ့အထိလည်း အင်မတန်လူကြိုက်များတုန်းပါပဲ၊ (ဒါကလည်း နိုင်ငံရေးသမားတွေ ရဲ့ကတိကဝတ်ပေးမှုတွေကြောင့် ဖြစ်နိုင်ပါတယ်။) လေ့လာမှုတွေအရတော့ ဒီအယူအဆရဲ့ အကျိုးသက်ရောက်မှုက မဟုတ်မှန်ကြောင်းသင်ရှားစေခဲ့တယ်၊ အခွန်နှုန်းတွေ အရမ်းမြင့်မားနေတဲ့ အခြေအနေတချို့မှာပဲ အခွန်လျှော့ချမှုတွေက အခွန်ရငွေကိုတိုးလာစေနိုင်တာဖြစ်ပါတယ်။

လွန်လွန်ကဲကဲ မြင့်မားနေတဲ့ အခွန်နှုန်းတွေကစီးပွားရေးတိုးတက်မှုကိုအဟန့်အတားဖြစ်စေတယ်၊ ဒီငြင်းခုံမှုအပေါ် မီးမောင်းထိုးပြလိုက်ခြင်းအားဖြင့် ရောင်းလိုအားဘောဂဗေဒဘာသာရပ်ဟာ လက်ကားရေးကွက်ကြီးတစ်ခုလုံးကို အလုံးစုံစစ်ဆေးပြုပြင်ဖို့ တာဝန်ရှိလာခဲ့တယ်။ ကမ္ဘာ့နေရာဒေသ အနှံ့အပြားမှာ အခွန်တွေကို တွေးတွေးဆဆနဲ့ အလုံးစုံစစ်ဆေးပြုပြင်သွားရမှာဖြစ်ပါတယ်။

**အနှစ်ချုပ်အတွေးအခေါ်**

**အခွန်တွေ မြင့်မြင့်လာလေ၊ တိုးတက်မှု နှေးနှေးသွားလေ**

# ၁၄ – အစွန်းထွက် သဘောတရားတော်လှန်ရေး

## The Marginal Revolution

**၂၀၀၇ ခုနှစ်မှာ စပိန်ဘောလုံးကလပ် Real Madrid ကနေ Major League ဘောလုံးကလပ် LA Galaxy ကို ပြောင်းရွှေ့ဖို့ ဒေါ်လာသန်း ၂၅၀ နဲ့ ငါးနှစ်စာချုပ်ကို လက်မှတ်ရေးထိုးလိုက်တဲ့ ဒေးဗစ်ဘက်ခမ်းသတင်းက တမ္ဘာအနှံ့ အုန်းအုန်းကြွက်ကြွက်ဖြစ်သွားခဲ့တယ်။ စာချုပ်လိုက်တဲ့ငွေကြေးပမာဏက စိတ်ဝင်စားစရာအကောင်းဆုံး ဖြစ်စေခဲ့တယ်။ သူဟာ အကျော်ကြားဆုံးဘောလုံးကစားသမားတစ်ယောက် ဖြစ်ချင်ဖြစ်ပါလိမ့်မယ်။ Major League အတွက်ရော၊ LA Galaxy ဘောလုံးကလပ်အတွက်ပါ သူက ဈေးကွက်ကို အလွန်အင်မတန် ဆွဲဆောင်နိုင်သူတစ်ယောက်လည်း ဖြစ်ချင်ဖြစ်နိုင်ပါတယ်။ ဒါပေမဲ့ လူတစ်ယောက်အတွက်တကယ်ပဲ ဒေါ်လာသန်း ၂၅၀တန်သတဲ့လား။**

ပေးလိုက်ရတဲ့ဈေးနှုန်းက တကယ့်ဈေးကောင်းဖြစ်တာကြောင့် စီးပွားရေးအရ တွက်ခြေကိုက်ချင်မှ ကိုက်မယ်လို့ ထင်စရာပါ။ ဘောလုံးအသင်းအနေနဲ့တော့ စာချုပ်ကနေ အမြတ်အစွန်းကောင်းကောင်းရမယ်လို့ မျှော်လင့်မထားဘဲတော့ ဒီငွေပမာဏကိုပေးမှာမဟုတ်ပါဘူး၊ ဘက်ခမ်းနဲ့ သူ့လိုဘောလုံးသမားတွေအတွက် ဒီဈေးနှုန်းဟာ ထိုက်တန်တယ်လို့ စဉ်းစားကြတဲ့ ပရိတ်သတ်တွေရှိပါတယ်။ သူတို့က ဘက်ခမ်းနဲ့ပတ်သက်တဲ့ ဘာထုတ်ကုန်ဖြစ်ဖြစ် ဝယ်ချင်ကြတယ်၊ သူနာမည်ပါတဲ့ ဘောလုံးအင်္ကျီကနေစပြီး သူကြော်ငြာတဲ့ မုတ်ဆိတ်ရိတ်ဓားနဲ့ အဝတ်အစားတွေအဆုံး အားလုံးဝယ်ချင်ကြတယ်၊

### အစွန်းထွက်အပြောင်းအလဲ

ကျွန်တော်တို့အနေနဲ့ လူသားတစ်ယောက်အပေါ်တခြားတစ်ယောက်ထက် အများကြီး ပိုတန်ဖိုးထားနေတာ ဘာကြောင့်ပါလဲ၊ တကယ့်အားကစားသမားကြီးတွေဟာ သူတို့အားကစားမှာ ထူးချွန်ကြမှာပါပဲ၊ ဒါပေမဲ့ ကျွန်တော်တို့ လူသားတွေအတွက် မရှိမဖြစ်အရေးပါတဲ့ အခန်းကဏ္ဍမှာရှိနေတဲ့ ဆရာဝန်တွေ၊ ကျောင်းဆရာတွေထက် သူတို့က ဘာကြောင့်များ ဝင်ငွေအများကြီးပိုကောင်းနေကြရတာလဲ၊ အဖြေကိုတော့ စီးပွားရေးပညာရှင်တွေက အစွန်းထွက်အပြောင်းအလဲ (the margin)လို့ ခေါ်တဲ့အရာမှာ တွေ့ရမှာဖြစ်ပါတယ်။

လွန်ခဲ့တဲ့နှစ်ပေါင်း ၃၀၀ လောက်က ဘက်ခမ်းဖြစ်ရပ်နဲ့တူတဲ့ ဝိရောဓိသဘောကို The Wealth of Nations စာအုပ်မှာ အဒမ်စမစ်က ဖော်ပြခဲ့တယ်၊ ရေနဲ့စိန်ဟာ ဘာကြောင့်ဈေးနှုန်းကွာခြားနေရတာလဲလို့ သူကမေးခွန်းထုတ်ခဲ့တယ်။ စိန်ဟာ ရေလိုမျိုးလူသားတွေ အသက်ရှင်သန်ရပ်တည်မှုအတွက် မရှိမဖြစ်အရေးပါတဲ့ အရာမဟုတ်ဘူး။ စိန်တွေဆိုတာ ကာဗွန်ပုံဆောင်ခဲအပိုင်းအစတွေပဲ၊ ဒါပေမဲ့ သူတို့ရဲ့ဆွဲဆောင်မှုကတော့ အလွန်ပဲမြင့်မားတယ်၊ အဒမ်စမစ်ပေးတဲ့အကြောင်းပြချက်ကတော့ စိန်တစ်လုံးကို ရဖို့ တူးဖော်ရတယ်၊ ဖြတ်တောက်ရတယ်၊ သန့်စင်ပြီး အရောင်တင်ရတယ်စသဖြင့် အဆင့်တွေအများကြီးပဲ၊ ရေကတော့ ဒီလိုမဟုတ်ဘူး။ ဒါကြောင့် ကုန်ကျစရိတ်တွေ မတူဘူးလို့ဆိုတယ်၊ ဒ့်အပြင် စိန်ကရှားပါးပြီး ရေကတော့ ပေါများတယ်လို့လည်းဆိုတယ်။

လုကာတဲတိုင်းကို ငွေ့ရိုက်ကျော်လွှားပြီး ဘက်ခမ်းရဲ့အလွတ်တည်တန်ဘောကနေ ဝိုးကန်သွင်းနိုင်တဲ့ ဖွမ်းရည်မျိုးရှိတဲ့သူလည်း နည်းနည်းပဲရှိပါတယ်။ ရှားပါးမှုက ဈေးနှုန်းတွေကို မြင့်တက်စေပါတယ်၊ ဒါပေမဲ့ ဒီဖြေရှင်းချက်က မပြည့်စုံသေးပါဘူး၊ တကယ်တော့ ကမ္ဘာကြီးမှာ ပင်ကိုပါရမီထူးသူတွေရဲ့ ရောင်းလိုအားကရှားပါးတာပါပဲ၊

### အချိန်ပြဇယား:

**၁၇၀၀**
အစောပိုင်းကုန်သည်တွေဟာ အစွန်းထွက်အသုံးဝင်မှု အယူအဆကို စတင်အသိအမှတ်ပြုလာကြတယ်။

**၁၇၇၆**
အဒမ်စမစ်ကသူ့ရဲ့ The Wealth of Nations စာအုပ်မှာ ရေနဲ့စိန် ဝိရောဓိသဘောတရားကို သာဓကဆောင်ပြီး ဖော်ပြ

**၁၈၇၁**
Carl Menger က အစွန်းထွက်ဝါဒ (marginalism) ကို အဆိုပြုတင်ပြ

**၁၈၉၀**
Alfred Marshall ကသူ့ရဲ့ Principle of Economics စာအုပ်မှာ အစွန်းထွက်ကျေနပ်မှုကို အများနားလည်အောင် ရေးသားဖော်ပြ

ဒါပေမဲ့ သူတို့တွေဟာ နှစ်ပေါင်းများစွာကြာအောင်ရှိနေတဲ့ ဘက်စမ်းရဲ့ အပတ်စဉ်ဝင်ငွေကိုတော့ ဒီနိုင်ငံ့ အလားလာမရှိသေးပါဘူး။

ဒီပြဿနာရဲ့အဖြေကို (ဩစတြီးယန်းဂိုဏ်းက Carl Menger အပါအဝင်) ၁၉ ရာစုနှောင်းပိုင်းဘောဂဗေဒပညာရှင်တွေက အဆိုပြုခဲ့ကြပါတယ် (အခန်း (၁၂)ကို ကြည့်ပါ)။ သူတို့ရဲ့အဖြေက ဒေးဗစ်ဘက်စမ်းပဲဖြစ်ဖြစ်၊ စိန်တစ်လုံးပဲဖြစ်ဖြစ်၊ ရေတစ်ခွက်ပဲဖြစ်ဖြစ်၊ အဲ့ဒီအရာရဲ့တန်ဖိုးဟာ ခံစားချက်အရဖြစ်နေတာပါ။ အချိန်ကာလတစ်ခုမှာ အဲ့ဒီပစ္စည်းကို လူတွေက ဘယ်လိုတန်ဖိုးထားသလဲဆိုတဲ့အပေါ်မှာပဲ လုံးလုံးမှီခိုနေတာပါလို့ဆိုတယ်။ ဒီအချက်ဟာ ရိုးရိုးရှင်းရှင်းပဲလို့ထင်ရပေမယ့် တော်လှန်ရေးတစ်ရပ်ကို မွေးထုတ်ပေးခဲ့ပါတယ်။ အရင်တုန်းကတော့ လူတွေဟာ တချို့အရာတွေမှာ ပင်ကိုတန်ဖိုးတစ်ရပ်ရှိတယ်လို့ ယူဆခဲ့ကြတယ်၊ အစွန်းထွက်သဘောတရားတော်လှန်ရေးနောက်ပိုင်းမှာတော့ အရာဝတ္ထုတွေမှာ လူတွေကြိုက်နှစ်သက်နေသရွေ့အထိပဲ တန်ဖိုးရှိနေတယ်ဆိုတာ ရှင်းလင်းမြင်သာလာခဲ့တယ်။

## အစွန်းထွက်အသုံးဝင်မှု

သဲကန္တာရထဲမှာ လူတစ်ယောက်ဟာ ရေငတ်တဲ့ဒဏ်ကို ရက်ပေါင်းများစွာ ခံနေရတယ်ဆိုပါစို့၊ ရေတစ်ဖန်ခွက်ဟာ အဖိုးအနဂ္ဃထိုက်ပါလိမ့်မယ်။ စိန်တစ်လုံးထက်မကတန်တဲ့ ငွေပမာဏကိုတောင် ဒီရေတစ်ခွက်အတွက် ပေးကောင်းပေးပါလိမ့်မယ်၊ ဒီငွေပမာဏသူ့မှာရှိခဲ့ရင်ပေါ့။ ဒါပေမဲ့ အဲ့ဒီလူမှာ ရေတွေအများကြီး အသင့်ရှိနေမယ်ဆိုရင် ရေတစ်ခွက်အတွက် ပေးဝယ်ချင်တဲ့ငွေပမာဏကလည်း ကျဆင်းလာမှာပါပဲ။ ကျွန်တော်တို့အနေနဲ့ ကမ္ဘာပေါ်မှာ ရှိသမျှရေတွေအားလုံးရဲ့တန်ဖိုးကို အဆုံးအဖြတ်ပေးဖို့မလိုပါဘူး။ ဒီရေဖန်ခွက်တစ်ခွက်ရဲ့တန်ဖိုးကိုပဲ ဆုံးဖြတ်ပေးရမှာပါ။ လူတစ်ယောက် နောက်ထပ်ရေတစ်ခွက်သောက်လိုက်တိုင်းမှာ ရသွားမယ့် စိတ်ကျေနပ်မှုဆိုတာ စီးပွားရေးပညာရှင်တွေ ခေါ်ကြတဲ့ အစွန်းထွက်အသုံးဝင်မှု (marginal utility) ဆိုတဲ့အရာပါပဲ၊

ဈေးနှုန်းအတက်အကျနဲ့ပတ်သက်လို့ ဥပမာပေးစရာတွေကအများကြီးပါပဲ။ အကြောင်းက အဲ့ဒီကုန်ပစ္စည်းရဲ့ အစွန်းထွက်အသုံးဝင်မှုက တက်နေတာ၊ ဒါမှမဟုတ် ကျနေတာကြောင့်ပါ။ ၂၀ ရာစုရဲ့ အစောပိုင်းနှစ်တွေမှာ ရေနံဈေးနှုန်းက တစ်စည်ကို ဒေါ်လာ ၂၀ လောက်အထိ ကျဆင်းနေခဲ့ပါတယ်၊ ဒါပေမဲ့ နောင်နှစ်အနည်းငယ်အတွင်းမှာ ရေနံတစ်စည်ကို ဒေါ်လာတစ်ရာကျော်အထိ ဈေးတွေတက်သွားပါတယ်၊ တစ်ကြိမ်များဆို ဒေါ်လာ ၁၄၀ အထိတောင်ရောက်သွားတယ်၊



စီးပွားရေးအလျင်အမြန်တိုးတက်လာပြီး ဝယ်လိုအားက ရောင်းလိုအားကို ကျော်လွန်သွားတဲ့ အခြေအနေတွေ ပိုမိုဆိုးဝါးလာခဲ့တာပဲဖြစ်ပါတယ်။ ဆိုလိုတာက လူတွေဟာ ဈေးနှုန်းမြင့်မြင့်ပေးဖို့ ဆန္ဒရှိလာကြတဲ့သဘောပါပဲ။ နောက်ပိုင်း လအနည်းငယ်ကြာလာတော့ ရေနံတစ်စည်ကို ဒေါ်လာ ၄၀ အောက်အထိ ကျဆင်းသွားပြန်ပါတယ်။ အကြောင်းကတော့ ကမ္ဘာ့စီးပွားရေးဟာ ကျဆင်းလာခဲ့လို့ပါပဲ။

> “ကျွန်တော်တို့အနေနဲ့စီးပွားရေးဆိုင်ရာ ဆုံးဖြတ်ချက်တွေကို အစွန်းထွက်အပြောင်းအလဲ ပေါ်မှာပဲမူတည်ပြီးချမှတ်တာဖြစ်ပါတယ်။ အခြေအနေအခင်းအကျင်းကြီးတစ်ရပ်လုံးအပေါ်မှာ ဆုံးဖြတ်ချက်တွေချမှတ်တာမတွေ့ပါဘူး။”
>
> **Eugen von Bohm-Bawerk**
> ဩစတြီးယန်းစီးပွားရေးပညာရှင်

အစွန်းထွက်အသုံးဝင်မှုဆိုတဲ့ အယူအဆဟာ နောက်ထပ်စီးပွားရေးပညာရှင်တစ်ဦးဖြစ်တဲ့ Alfred Marshall (1842-1924) လက်ထက်မှာလည်း ဖွံ့ဖြိုးလာခဲ့ပါတယ်။ သူက စားသုံးသူတွေဟာ အစွန်းထွက်စဉ်းစားတွေးခေါ်မှုအခြေခံပြီး ဆုံးဖြတ်ချက်တွေ ချမှတ်ကြတယ်ဆိုတဲ့ အယူအဆကို ဖော်ထုတ်ခဲ့တယ်။ အရင်တုန်းကတော့ ဝယ်လိုအား ထက်ရောင်းလိုအားအပေါ်မှာ ပိုပြီးအာရုံစူးစိုက်ခဲ့ကြတယ်။ ဒါပေမဲ့ ဒီလိုတစ်ဖက်တည်းက ရှုဒ်ကပ်တဲ့နည်းလမ်းက ကတ္တူစတစ်စကို ကပ်ကြေးတစ်လက်ရဲ့အသွားတစ်ဖက်ထဲနဲ့ ဖြတ်ဖို့ကြိုးစားသလိုပဲလို့ သူကနှိုင်းယှဉ်ပြခဲ့တယ်၊ ရေတစ်ခွက်ရဲ့တန်ဖိုးကို ရေအရင်းအမြစ်ရှားဖွတဲ့ဝရိတ်၊ ပုလင်းထဲထည့်တဲ့စရိတ်စတဲ့ ရောင်းချသူတွေရဲ့ စရိတ်စကတွေနဲ့ ဆုံးဖြတ်ခဲ့ကြတယ်။ အဲ့ဒါတွေချည်းပဲသက်သက် စဉ်းစားမယ့်အစား Marshall က စားသုံးသူတွေရဲ့ ဆန္ဒတွေကိုလည်း ထည့်သွင်းစဉ်းစားသင့်တယ်လို့ ပြောဆိုခဲ့တယ်။ သူပြောတာက လူတွေဟာကုန်ပစ္စည်းတစ်ခုကို ဝယ်ယူတဲ့အခါ အကြောင်းသုံးရပ်ကို စဉ်းစားတယ်လို့ဆိုတယ်၊ အဲ့ဒီကုန်ပစ္စည်းဟာ (၁) သူတို့ကို ဆွဲဆောင်မှုရှိရမယ်၊ (၂) သူတို့တတ်နိုင်ရမယ်၊ (၃) တခြားပစ္စည်းတွေနဲ့ နှိုင်းယှဉ်ကြည့်ရင် ဈေးနှုန်းသင့်တင့်ရမယ်လို့ ဆိုတယ်၊ ဒီစဉ်းစားသုံးသပ်မှုတစ်ခုစီက ကုန်ပစ္စည်းရဲ့အစွန်းထွက်ဈေးနှုန်းကို သက်ရောက်မှုရှိစေတယ်လို့ဆိုတယ်။ ဒါက ရေတစ်ခွက်အတွက်ပဲဖြင့်ဖြစ်၊ ကမ္ဘာကျော်ဘောလုံးသမားတစ်ယောက်အတွက်ပဲဖြစ်ဖြစ်ပါ၊

## အစွန်းထွက်အပြောင်းအလဲကို စဉ်းစားခြင်း

Marshall ရဲ့အလေးအနက်ထားမှုဟာ အစွန်းထွက်သဘောတရားဖြစ်ပါတယ်၊

လူတွေအနေနဲ့ ဝီးလုံးထုတ်လုပ်တာပဲဖြစ်ဖြစ်၊ မနက်ဖြန်ဖြေရမယ့် စာမေးပွဲအတွက် အနီးကပ်မှ စာတွေကျက်တာပဲဖြစ်ဖြစ်၊ ထိုက်တန်မှုရှိသရွေ့ လုပ်ရကျိုးနပ်သရွေ့သာလုပ်ကြတာဖြစ်ပါတယ်။

## သင်အားနိုင်တာအားလုံးအတွက်

ကျွန်တော်တို့ အများစုဟာ ကြိုက်သလောက်စား ပုံသေကြေးပေးရတဲ့ ဘူဖေးစနစ်သုံး စားသောက်ဆိုင်တွေရဲ့ ဆွဲဆောင်မှုကို တစ်ချိန်မဟုတ်တစ်ချိန် ကြုံတွေ့ကြဖူးမှာပါ။ ပေးရမယ့် ကြိုတင်ငွေက ၁၀.၉၉ ဒေါ်လာဆိုပါစို့။ စီးပွားရေးဝေါဟာရအရ စုစုပေါင်း ကုန်ကျစရိတ်ဟာလည်း ၁၀.၉၉ ဒေါ်လာပါပဲ။ ဒါပေမဲ့ အစွန်းထွက်ကုန်ကျစရိတ်၊ တစ်နည်းပြောရရင် နောက်ထပ်ဝေစုတစ်ခုချင်းစီအတွက် တိုးလာတဲ့ ကုန်ကျစရိတ်ကတော့ သုညပါ။ အကြောင်းက ဒီအတွက် သင့်အနေနဲ့ နောက်ထပ် ကုန်ကျစရိတ်မရှိတော့တာကြောင့်ပါ။ ဒါပေမဲ့ အစားအစာကြောင့် ပျော်ရွှင်ကျေနပ်ရမှုပမာဏ (စီးပွားရေးပညာရှင်တွေကတော့ ဒါကို "အသုံးဝင်မှု"လို့ ခေါ်ကြတယ်။)ကတော့ နောက်ထပ်ဝေစုတစ်ခုချင်းစီအပေါ်မှာ လျော့လျော့သွားတာတွေ့ရမယ်၊ ဒီလိုဖြစ်ရတာက ကျွန်တော်တို့ဟာ စားရင်းစားရင်း ဗိုက်ပြည့်လာတာကြောင့်ပါပဲ။ ပြောရရင် စားရင်းစားရင်း ပြည့်အင့်ပြီး ဖျံ့အန်တဲ့အထိတောင် ရောက်လာနိုင်ပါတယ်။

ဒါကြောင့် နောက်ထပ်တိုးလာတဲ့ ဝေစုတစ်ခုအတွက် အစွန်းထွက်ကုန်ကျစရိတ်ဟာ သုညဖြစ်ပေမယ့် အစွန်းထွက် အသုံးဝင်မှုကတော့ အစပိုင်းမှာမြင့်ပြီး၊ နောက်ပိုင်းမှာ ပြန်လျော့ကျသွားတာတွေ့ရမယ်။ ဒီနိယာမဟာ စီးပွားရေးမှာ အများလက်ခံယုံကြည်ထားတဲ့ နိယာမတစ်ခုပါပဲ။ ကျွန်တော်တို့ဟာ ကုန်ပစ္စည်းတစ်ခုကို ပထမဆုံးသုံးစွဲချိန်မှာ ကျေနပ်မှုပိုရပြီး၊ နောက်ပိုင်းမှာ တဖြည်းဖြည်းလျော့ကျသွားပါတယ်။ ဒါဟာ တံဆိပ်ခေါင်းစုဆောင်းသူတစ်ယောက် ပထမဆုံးတံဆိပ်ခေါင်းကို ရှာဖွေသိမ်းဆည်းရမိချိန်မှာ ဒုတိယ၊ တတိယ၊ စတုတ္ထတံဆိပ်ခေါင်းတွေ ရှာဖွေသိမ်းဆည်းရမိတာထက်ပိုပြီး ကျေနပ်ပျော်ရွှင်ရသလိုပါပဲ။



အဆင့်တစ်ခုမှာ အိပ်စက်ခြင်းက အစောပိုင်းအချိန်တွေမှာ စာကျက်နေတာထက်ပိုပြီး သင့်တော်တဲ့အစီအစဉ်တစ်ခုဖြစ်လာပါလိမ့်မယ်။ မီးလုံးအသစ်တစ်လုံး ထုတ်လုပ်ခြင်းက နေရတဲ့ဝင်ငွေဟာလည်း အဆင့်တစ်ခုရောက်တဲ့အခါ ထုတ်လုပ်မှုကုန်ကျစရိတ်ထက် လျော့နည်းလာပါလိမ့်မယ်။ အားလုံးဟာ အစွန်းထွက်ပြောင်းလဲမှုကို စဉ်းစားကြပါတယ်၊ ဒါဟာ လက်တွေ့ကျတဲ့ နည်းလမ်းပါပဲ။ ဒါကြောင့် စီးပွားရေးတွေကို ခုန်ပျံကျော်လွှားပြီး ရေမတိုးတက်သွားတာထက် နှစ်စဉ်အဆင့်ဆင့်တိုးတက်သွားစေတာဖြစ်တယ်၊ အစွန်းထွက်သဘောတရား တော်လှန်ရေးဆိုတာ စီးပွားရေးဆင့်ကဲပြောင်းလဲမှုဆိုင်ရာ ဝစ်မှန်တဲ့သဘာဝကို ဖော်ထုတ်တင်ပြလိုက်တဲ့အရာပါပဲ၊

လူသားအားလုံးဟာ သဘာဝအရ အစွန်းထွက်ဝါဒီတွေဖြစ်ကြပေမယ့် စီးပွားရေးအခြေခံမှုတွေရဲ့ တစ်စိတ်တစ်ဒေသအဖြစ် အစွန်းထွက်အသုံးဝင်မှုအယူအဆကိုတော့ Marshallက ဖော်ထုတ်ပေးခဲ့တာပဲဖြစ်ပါတယ်၊ အခုအချိန်မှာတော့ ဒီအယူအဆတွေကနေ ကမ္ဘာတလွှားက စီးပွားရေးအစီအမံတွေကို ဖော်ဆောင်ပေးနေတာဖြစ်ပါတယ်။ ဒါဟာ ကုန်သွယ်ရေးရဲ့အဓိကဝတ်ချက်ပါပဲ။

ဘက်ခမ်းရဲ့ ဇာတ်လမ်းက ဒီနေရာမှာ မဆုံးသေးပါဘူး။ အသင်းအပြောင်းအရွှေ့လုပ်ပြီး နှစ်နှစ်အကြာမှာ အီတလီ ဘောလုံးကလပ် အေစီမီလန်နဲ့အပြိုင် လွှဲပြောင်းဆွဲပွဲမှာ သူပါဝင်ပတ်သက်ခဲ့ပြန်တယ်။ ဒီဖြစ်ရပ်ကလည်း အစွန်းထွက်အသုံးဝင်မှုဆိုင်ရာ စဉ်းစားသုံးသပ်မှုတွေရဲ့ အရေးပါပုံကို တစ်ခါထပ်ပြီး မီးမောင်းထိုးပြခဲ့ပြန်ပါတယ်။ အီတလီဘောလုံးကလပ်က ကစားသမားတစ်ယောက်အတွက် ပုံသေတန်ဖိုးရင်းတစ်ခုဟာ လုံလောက်တယ်လို့ စဉ်းစားတယ်၊ ဒါပေမဲ့ LA Galaxy အသင်းရဲ့အလုပ်အမှုဆောင် Tim Leiweke က "ဒီဇာတ်လမ်းရဲ့နောက်ကွယ်မှာ သူတို့ရဲ့နှစ်စဉ်ထည့်ဝင်ကြေးတွေကို ဆုံးရှုံးရမယ့် ဝါသနာအိုးအဖွဲ့တွေ (fans)နဲ့ လျော်ကြေးလိုချင်တဲ့ ကုန်ကျစရိတ်ထောက်ပံ့ခဲ့သူတွေ (sponsors)ရှိနေတယ်ဆိုတာ မီလန်အသင်းက နားမလည်ဘူးလို့" ဆိုတယ်။ ဒါဟာအစွန်းထွက်သဘောတရား စဉ်းစားမှုနဲ့ ပတ်သက်လို့ ဂန္ထဝင်မြောက်တဲ့ ဥပမာတစ်ရပ်ပါပဲ။

## အနှစ်ချုပ်အတွေးအခေါ်

**သင်ခြင်တုံတရားရှိသူတွေဟာ အစွန်းထွက်အပြောင်းအလဲကို စဉ်းစားကြတယ်။**

# ၁၅ – ငွေကြေး

## Money

**စီးပွားရေးပညာရပ်ဟာ ငွေကြေးနဲ့ပတ်သက်တာတွေချည်းပဲ မဟုတ်ပေမယ့်၊ ငွေကြေးကတော့ ကျွန်တော်တို့အားလုံးကို စီးပွားရေးပညာရှင်တွေ ဖြစ်သွားစေပါတယ်။ တစ်စုံတစ်ရာအတွက် အလကားမပေးဘဲ၊ ဈေးနှုန်းတစ်ခုတောင်းခံလိုက်တာဟာ လူတွေရဲ့စိတ်ထဲက မမြင်ရတဲ့ ခလုတ်ကို ဆတ်ခနဲနှိပ်လိုက်တာပါပဲ။**

အမြုအမှုဆိုင်ရာ ဘောဂဗေဒပညာရှင် Dan Ariely က ဒါကိုသက်သေပြဖို့ စမ်းသပ်ချက်တစ်ခုကို အသုံးချခဲ့တယ်။ သူကကျောင်းသားတွေကို သကြားလုံးတစ်လုံးကို ၁ ဆင့်နဲ့ရောင်းတယ်၊ ယေဘုယျအနေနဲ့ တစ်ယောက်ကို သကြားလုံးလေးလုံး လောက်ဝယ်ကြတယ်။ အဲ့ဒီနောက်တော့ သူဟာသကြားလုံးရဲ့ဈေးနှုန်းကို သုညလို့ ပြောင်းပြီး အလကားပေးတယ်။ အစဉ်အလာ ဘောဂဗေဒပညာရှင်တွေအနေနဲ့တော့ ဈေးနှုန်းတွေ ကျသွားလေ၊ ဝယ်လိုအားတွေတိုးလာလေလို့ ယူဆကြတယ် (အခန်း ၂ ကို ကြည့်ပါ)၊ ဒါပေမဲ့ အဲ့ဒီလိုဖြစ်မလာပါဘူး။ ဒီညီမျှခြင်းထဲက ငွေကြေးကို ဘေးဖယ် ထုတ်လိုက်တဲ့အခါ၊ တစ်စုံတစ်ရာ ထူးထူးဆန်းဆန်းဖြစ်သွားတာတွေ့ရတယ်။ သကြားလုံးတစ်လုံးထက် ပိုယူတဲ့ကျောင်းသားဆိုတာမရှိတော့သလောက်ပါပဲ။

### ငွေကြေးက ကမ္ဘာကြီးကို လည်ပတ်စေတယ်

ငွေကြေးဟာစီးပွားရေးတစ်ရပ်မှာ အဓိကကျတဲ့ လိုအပ်ချက်တစ်ခုပါ။ ငွေကြေးသာမရှိရင် ကျွန်တော်တို့အနေနဲ့ ဘာတာစနစ်ကို သုံးရမှာပါပဲ။ ဘာတာ (barter) ဆိုတာ ကုန်ပစ္စည်းချင်းတိုက်ရိုက်ဖလှယ်တာပါ။ ဒါမှမဟုတ် တစ်စုံတစ်ခုကို ရဖို့ တစ်ယောက် ယောက်ရဲ့ ကူညီထောက်ပံ့မှုကို ပေးရမယ်။ ဒါမှမဟုတ် တစ်စုံတစ်ခုကိုရဖို့ တစ်ယောက်ယောက်ကို ဝန်ဆောင်မှုပေးရမှာပဲ ဖြစ်တယ်၊ စကားပြောရမှာ လက်ဟန်ခြေဟန်ကို အားမကိုးရတော့ဘဲ၊ နှစ်ဦးစလုံး နားလည်တဲ့ ဘုံဘာသာစကားကို သုံးစွဲနိုင်တဲ့အခါ အချင်းချင်းဆက်သွယ်ရေးကို ပိုပြီးလွယ်ကူလာစေသလိုပါပဲ၊

> ငွေကြေးဆိုတာ
> အချင်းစိတ်တို့ရဲ့ နှောင်ကြိုးပါ။
>
> Thomas Fuller

ငွေကြေးဟာ ရိုးရှင်းတဲ့ကြားခံ ဖလှယ်ရေးကိရိယာတစ်ခုအဖြစ် လုပ်ဆောင်ပေးတဲ့အခါ၊ အရောင်းအဝယ်လုပ်တိုင်းမှာ လွန်လွန်ကျူးကျူး ရှုပ်ထွေးမှုတွေကို ကွယ်ပျောက်သွားစေပါတယ်၊

အလွန်အမင်းငွေကြေးဖောင်းပွမှု (hyperinflation) ကြောင့် ငွေကြေးအပေါ်ယုံကြည်မှုမရှိတော့တဲ့ နိုင်ငံတွေမှာ လူတွေဟာ ဘာတာစီးပွားရေးစနစ် (barter economy)ကိုပြန်ပြီးအားကိုးအားထား ပြုကြရပါတယ်၊ ၁၉၈၀ နှောင်းပိုင်းနှစ်တွေမှာ ဆိုဗီယက်ယူနီယံ ပြိုကျသွားတဲ့အခါ လူတွေဟာ စီးကရက်တွေကို ငွေကြေးအဖြစ် စတင်သုံးစွဲခဲ့ကြတယ်၊ ဒါပေမဲ့ ဘာတာစီးပွားရေးစနစ်တွေဟာ သိပ်ပြီးထိရောက်မှုမရှိလှပါဘူး။ ဈေးဆိုင်တွေဆီသွားချင်တဲ့အခါတိုင်းမှာ အမျိုးမျိုးသော ဆွဲဆောင်မှုရှိလှတဲ့ ကုန်စည်တွေ၊ ဝန်ဆောင်မှုတွေက စိတ်ကူးထဲပေါ်လာတာပါပဲ၊ ဒီတော့ကာ ဒီအခြေအနေမျိုးမှာ အိပ်ထဲမှာနေတာပဲ အကောင်းဆုံးဖြစ်ပါတယ်၊

ကြားခံဖလှယ်ရေးကိရိယာဆိုတဲ့ ကနဦးလုပ်ဆောင်ချက်အပြင် ငွေကြေးမှာ တခြားရည်ရွယ်ချက်နှစ်ခုရှိပါသေးတယ်၊ ပထမတစ်ချက်ကငွေကြေးဟာ တိုင်းတာရေးယူနစ်တစ်ခုအဖြစ် လုပ်ဆောင်ပါတယ်၊ အရာဝတ္ထုတွေကို ဈေးနှုန်းသင့်ဖို့ စံပေတံတစ်ချောင်းလိုပါပဲလို့ ဆိုလိုတာဖြစ်တယ်၊ ဒီလုပ်ဆောင်ချက်က ကုန်ပစ္စည်းတွေရဲ့တန်ဖိုးကို အဆုံးအဖြတ်ပေးနိုင်ဖို့ အထောက်အကူဖြစ်စေတယ်။ ဒုတိယအချက်ကတော့ ငွေကြေးဟာ တန်ဖိုးကို သိုလှောင်ပေးတဲ့ပစ္စည်းဖြစ်တယ်။ အချိန်ကြာ လာပေမယ့် သူ့ရဲ့တိုက်တန်ဖိုးက လျော့ကျမသွားဘူးလို့ဆိုတယ်။ ဒါပေမဲ့ ဒီနေ့ခေတ်သုံးငွေစက္ကူတွေက ဒီလုပ်ဆောင်ချက်ကို အပြည့်အဝလုပ်ဆောင်နိုင်တယ်၊ မနိုင်ဘူးဆိုတာကတော့ အငြင်းပွားစရာ ရှိပါတယ်၊ ဒေါ်လာပဲဖြစ်ဖြစ်၊ ပေါင်ပဲဖြစ်ဖြစ်၊ ယူရိုပဲဖြစ်ဖြစ်၊ တခြားငွေကြေးအမျိုးအစားပဲ ဖြစ်ဖြစ် ငွေကြေးအဖြစ် ဖွဲ့စည်းထားတဲ့အရာတွေနဲ့ ကျွန်တော်တို့အားလုံး ရင်းနှီးနေကြပါပြီ၊ သတ်မှတ်ချက်စည်းမျဉ်းတွေအရဆိုရင် အရောင်းအဝယ်လုပ်နိုင်တဲ့ ဘယ်အရာကိုမဆို ငွေကြေးအဖြစ်

**အချိန်ပြဇယား:**

| ဘီစီ ၁၀၀၀၀ ခန့် | ဘီစီ ၃၀၀၀ | ဘီစီ ၆၀၀ | အေဒီ ၈၀၀နှစ်များ | ၁၈၁၆ |
|---|---|---|---|---|
| အာဖရိကဒေသက ကုန်ပစ္စည်းချင်း တိုက်ရိုက်ဖလှယ်တဲ့ ပထမဆုံး သတ်မှတ်ချက်အထား | Shekels (အလေးချိန်ယူနစ်) နဲ့ Mesopotamia မှာ အရောင်းအဝယ်လုပ်ခဲ့ | Lydia က ရွှေဒင်္ဂါး၊ ငွေဒင်္ဂါးပထမဆုံးသတ်မှတ် အထောက်အထား | တရုတ်နိုင်ငံက ပထမဆုံး အက်ငွေစက္ကူများထုတ်ဝေ | ငွေကြေးအားလုံးကို ရွှေပမာဏတစ်ခုနှင့် ချိတ်ဆက်ထားပြီး ရွှေစံချိန်စနစ်ကို စတင်မိတ်ဆက် |

သဘောထားနိုင်ပါတယ်၊ ဥပမာ - ရေ့ရှံ၊ လက်ဝတ်ရတနာ၊ စီးကရက်နဲ့ မူးယစ်ဆေးဝါးတွေကိုလည်း ငွေကြေးအဖြစ် သုံးစွဲနိုင်ပါတယ်၊ (စီးကရက်နဲ့ မူးယစ်ဆေးဝါးတွေကိုတော့ များသောအားဖြင့် အကျဉ်းထောင်ထဲမှာ ငွေကြေးအဖြစ် သုံးစွဲတတ်ကြပါတယ်။) ဒီထက်ပိုပြောရရင်တော့ ဒီနေ့ခေတ် ငွေကြေးဆိုတဲ့အရာတွေထဲမှာ မြို့ရှင်နဲ့မြို့တော်ကြားက မမြင်ရတဲ့ ကြွေးမြီးဆင်းမှုတွေအထိ ပါဝင်နေတာဖြစ်တယ်၊

## ငွေကြေးအမျိုးအစားများ (Types of Money)

ငွေကြေးကို အဓိကအားဖြင့် အမျိုးအစား နှစ်မျိုးခွဲခြားနိုင်တယ်၊

## ငွေဖြစ်လွယ်မှု (Liquidity)

ငွေဖြစ်လွယ်မှုဆိုတာ အိမ်၊ ရွှေချောင်း၊ စီးကရက် တောင့်စတဲ့အက်ဆက်တွေနဲ့ ငွေကြေးကို ဖလှယ်နိုင်ရာ ဘယ်လောက်လွယ်ကူလဲဆိုတဲ့အတိုင်းအတာ တစ်ရပ်ပဲ။ ဥပမာပြောရရင်ကုမ္ပဏီကြီးတွေက ရှယ်ယာတွေဟာ ထုံးစံအတိုင်း အလွန်ငွေဖြစ် လွယ်ကြတယ်၊ ဒီရှယ်ယာတွေကို အေးအေး ဆေးဆေး ယုံကြည်စိတ်ချထားနိုင်တယ်။ အကြောင်းက ဒီရှယ်ယာတွေကိုဝယ်မယ့်သူတွေ ပေါများ တာကြောင့်ပဲ။ အိမ်တွေကတော့ ရောင်းချဖို့အချိန်ယူရတာကြောင့် ငွေဖြစ်လွယ်ဖို့ ပိုပြီးခက်ခဲတယ်လို့ ဆိုရမယ်၊ စီးပွားရေးလုပ်ငန်း တွေကို စာရင်းရှင်းလင်းဖျက်သိမ်းရောင်းချတဲ့အခါ လုပ်ငန်းမှာရှိတဲ့ ကုန်ပစ္စည်းအားလုံးကို ရောင်းထုတ်ပြီး ငွေဖော်ဖို့ကြိုးစားကြတယ်၊

ကုန်စည်ပိုက်ဆံ (Commodity money) ။ ကုန်စည်ပိုက်ဆံဆိုတာ တကယ့်ငွေကြေးပုံစံတစ်ရပ်အနေနဲ့ ရှိမနေရင်တောင်မှ သူ့မှာပင်ကိုတန်ဖိုး (intrinsic value) ရှိနေတယ်။ အထင်ရှားဆုံး ဥပမာပေးရရင်ရွှေပဲ။ ရွှေကိုအဖိုးတန်လက်ဝတ်ရတနာအဖြစ် အသုံးပြုနိုင်သလို ဝက်ရုံတွေမှာ အဓိကကျတဲ့ သတ္တုအနေနဲ့လည်း သုံးနိုင်တယ်၊ အခြားသော ကုန်စည်ပိုက်ဆံအမျိုးအစားတွေကတော့ ငွေ၊ ကြေးနီ၊ (ဝပါးနဲ့ငရုတ်ကောင်းစေ့လို) အစားအစာ၊ အရက်၊ စီးကရက်နဲ့ ဆေးဝါးစတာတွေဖြစ်တယ်။

သဘောတူပိုက်ဆံ (Fiat money) ။ သဘောတူပိုက်ဆံဆိုတာ ပင်ကိုတန်ဖိုးမရှိတဲ့ ငွေကြေးဖြစ်တယ်၊ အစိုးရတစ်ရပ်အနေနဲ့ အကြွေစေ့တွေနဲ့ ငွေစက္ကူတွေရဲ့ ပင်ကိုတန်ဖိုးကို လျစ်လျူရှုပြီး တိကျတဲ့ ပမာဏတစ်ခု ထိုက်တန်ကြောင်း



> ငွေကြေးဆိုတာ မကောင်းဆိုးဝါးတွေအားလုံးရဲ့ ဇစ်မြစ်ပဲလို့ ခင်ဗျားထင်မှာပဲ။ ဘယ်အရာဟာ ငွေကြေးအားလုံးရဲ့ ဇစ်မြစ်လဲဆိုတာကိုရော ခင်ဗျားမေးခွန်းထုတ်ဖူးလား။
>
> Ayn Rand

တရားဝင်ဥပဒေနဲ့ ကြေညာထားတဲ့ ပိုက်ဆံအမျိုးအစားဖြစ်တယ်။ ဒါဟာ ခေတ်မီတိုးတက်လာတဲ့ စီးပွားရေးစနစ်တွေမှာ နေသားတကျ သုံးစွဲနေတဲ့စနစ်ဖြစ်တယ်။ ဒေါ်လာငွေစက္ကူတွေကို အမေရိကန် ပြည်ထောင်စုရဲ့ ဗဟိုဘဏ်တွေနဲ့ ငွေတိုက်တွေက ထုတ်ဝေတယ်၊ တောလင်ပေါင် ၅၊ ၁၀၊ ၂၀ စတဲ့ ငွေစက္ကူတွေကိုတော့ အင်္ဂလန် ဘဏ်က ထုတ်ဝေတယ်။ မူလအစက စက္ကူပိုက်ဆံကို ကုန်စည် ပိုက်ဆံနဲ့ လဲလှယ်နိုင်တယ်၊ စည်းကမ်းသတ်မှတ်ချက်တွေအရ နိုင်ငံသားတွေအနေနဲ့ သူတို့ရဲ့ဒေါ်လာငွေစက္ကူတွေကို သတ်မှတ်ထားတဲ့ ရွှေပမာဏနဲ့ လဲလှယ်ဖို့ တောင်းဆိုနိုင်တယ်၊ ဒါပေမဲ့ ၁၉၇၁ ခုနှစ်၊ ဩဂုတ်လ ၁၅ရက်နေ့မှာ သမ္မတနစ်ဆင်က အဓိနိ့တစ်ရပ် ထုတ်ပြန်ပြီး လဲလှယ်နိုင်ခွင့်ရှိမှုကို ရပ်တန့်ပစ်ခဲ့တယ်။ ဒါကြောင့် အဲ့ဒီအချိန်ကစပြီး ဒေါ်လာငွေစက္ကူဟာ သဘောတူပိုက်ဆံစစ်စစ် ဖြစ်လာခဲ့တယ်။ သဘောတူပိုက်ဆံရဲ့တည်ငြိမ်မှုဟာ လူတွေရဲ့ ဥပဒေစနစ်အပေါ်ယုံကြည်မှုနဲ့ အစိုးရတွေရဲ့ စီးပွားရေးဆိုင်ရာ အသိအမှတ်ပြုခံနိုင်စွမ်းရှိမှုအပေါ် အားထားရတယ်။

## ငွေကြေးပမာဏကို တိုင်းတာခြင်း

စီးပွားရေးစနစ်တစ်ရပ်မှာ ငွေကြေးဘယ်လောက်များများ လည်ပတ်စီးဆင်းနေတယ်ဆိုတာကို တိုင်းတာခြင်းဟာ စီးပွားရေးအခြေအနေ ကောင်းမကောင်းကို ဆုံးဖြတ်နိုင်တဲ့ အဓိကနည်းလမ်း တွေထဲကတစ်ခုပဲ။ လူတွေမှာ ငွေတွေပိုရှိတဲ့အခါ သူတို့ဟာပိုချမ်းသာလာတယ်လို့ ခံစားရပြီး ငွေတွေ ပိုသုံးလာကြလေ့ရှိတယ်။ အဲ့ဒီအခါမှာ လုပ်ငန်းတွေအနေနဲ့ အရောင်းတွင်ကျယ်လာတာကို ကုန်ကြမ်းပစ္စည်းတွေပိုမှာယူခြင်း၊ ကုန်ပစ္စည်းတွေ ပိုတိုးထုတ်လုပ်ခြင်းအားဖြင့် တုံ့ပြန်ကြတယ်။ ဒါဟာ ရှယ်ယာဈေးနှုန်းတွေကို တက်လာစေပြီး စီးပွားရေးတိုးတက်မှုကို တွန်းအားဖြစ်စေတယ်၊

ဗဟိုဘဏ်တွေဟာ ငွေကြေးကို နည်းလမ်းပေါင်းစုံနဲ့ တိုင်းတာကြတယ်။ အထင်ရှားဆုံးနည်းက အမေရိကန် ပြည်ထောင်စုက ဗဟိုဘဏ်တွေသုံးတဲ့ M1 ဆိုတဲ့နည်းပဲ၊ ဒီနည်းနဲ့ ဘဏ်တွေရဲ့ ပြင်ပမှာလည်ပတ်နေတဲ့ အများသုံးငွေကြေးပမာဏနဲ့ လူတွေဘဏ်ငွေစာရင်းတွေထဲမှာ စုဆောင်းထားတဲ့ ရန်ပုံငွေပမာဏကို တိုင်းတာကြတယ်။ တစ်နည်းပြောရရင် M1 ဆိုတာ လူတွေမှာ အဆင်သင့်ရှိနေတဲ့ ငွေသားပမာဏကို ပြောတာပဲ။ ပိုပြီးကျယ်ပြန့်တဲ့ နောက်ထပ်တိုင်းတာနည်းကိုတော့ M2လို့ခေါ်တယ်။ M2 မှာ ထုတ်ယူဖို့ကြိုတင်အကြောင်းကြားရတဲ့ စုဆောင်းငွေစာရင်း (saving

## ငွေကြေးရဲ့သမိုင်း

နှစ်ပေါင်းရာထောင်ချီကြာအောင် လူ့ယဉ်ကျေးမှုဟာ ကုန်ပစ္စည်းတွေကို တိုက်ရိုက်ဖလှယ်တဲ့ စနစ်နဲ့ ရပ်တည် ရှင်သန် လာခဲ့တယ်။ အစားအစာနဲ့ တခြားအရေးကြီးတဲ့ ကုန်ပစ္စည်းတွေကို ရွှံ့ခွက်တွေ၊ အဖိုးတန်တဲ့ကျောက်တုံးတွေနဲ့ အရောင်းအဝယ်လုပ်ခဲ့ကြတယ်။ ပထမဆုံးငွေကြေးသုံးစွဲမှုအထောက်အထားကို တွေ့ရဖို့ ဒီနေ့ခေတ် အီရတ်နိုင်ငံရဲ့နေရာကို လွန်ခဲ့တဲ့နှစ်ပေါင်းငါးထောင်လောက် နောက်ကြောင်းပြန်လှည့်ပြီးသွားကြည့်ရင် ရွှေဒင်္ဂါးဒါမှမဟုတ် ငွေဒင်္ဂါးအဖြစ်နဲ့ စတွေ့ရမှာဖြစ်တယ်။ ဒါဟာ အများလက်ခံအသုံးပြုတဲ့ ပထမဆုံးငွေကြေးပုံစံ တစ်ရပ်ဖြစ်ပေမယ့် ကျွန်တော်တို့ သိနားလည်ထားတဲ့ ငွေကြေးလိုမျိုးတော့မဟုတ်ခဲ့ဘူး။ ဒါဟာတကယ်တော့ မုယောစပါးစေ့ အလေးချိန်တစ်ရပ်နဲ့ညီမျှတဲ့ ရွှေသို့မဟုတ်ငွေကို ကိုယ်စားပြုထားတဲ့အရာဖြစ်တယ်၊ အလားတူပဲ ဗြိတိန်ရဲ့ပေါင်ဆိုတဲ့ ငွေကြေးဟာလည်း မူလကငွေအလေးချိန်တစ်ပေါင်နဲ့ ညီမျှတဲ့ ပမာဏကို ခေါ်ဝေါ်ခဲ့တာဖြစ်တယ်။

ရှေးဟောင်းဂရိတွေနဲ့ရောမတွေဟာ ရွှေဒင်္ဂါး၊ ငွေဒင်္ဂါးတွေကို ငွေကြေးအဖြစ် အသုံးပြုခဲ့ကြတယ်၊ ဂျော်ဒန်နဲ့ အယ်လ်ဂျီးရီးယားနိုင်ငံတွေအပါအဝင် နိုင်ငံအများအပြားမှာ သုံးစွဲနေတဲ့ ငွေကြေးယူနစ်ဒီးနား (dinar) ဟာ လက်တင်ဘာသာစကားကနေဆင်းသက်လာတာဖြစ်တယ်၊ ၁၉၇၁ ခုနှစ် ဆယ်လီစိတ်စနစ်ပြောင်းလဲမှုမတိုင်ခင်မှာ ဗြိတိသျှသုံးပဲနီအတွက် အတိုကောက်ယူနစ်သင်္ကေတအဖြစ် "d" ကိုသုံးစွဲခဲ့တယ်။

ပထမဆုံးဘဏ်ငွေစက္ကူကို ၇ - ရာစုမှာ တရုတ်နိုင်ငံမှာ စတင်ထုတ်ဝေခဲ့တယ်၊ ဒါဟာဥရောပမှာ ဆွီဒင်နိုင်ငံရဲ့ Stockholms Banco ဘဏ်ကနေ ၁၆၆၁ ခုနှစ်မှာ စတင်ခဲ့တဲ့ ဘဏ်ငွေစက္ကူထုတ်ဝေတာထက် နှစ်တစ်ထောင်လောက်စောခဲ့တယ်၊

accounts) လိုမျိုးငွေဖြစ်လွယ်မှု နိမ့်ကျတဲ့ အက်ဆက်တွေပါဝင်တယ်။ နောက်တစ်မျိုးက M3 ဖြစ်တယ်၊ M3 မှာ ဘဏ္ဍာရေးဆိုင်ရာ စာချုပ်စာတမ်းတွေပါဝင် တယ်၊ ဒီစာချုပ်စာတမ်းတွေကို ကာလရှည်စုဆောင်းငွေတွေ၊ ငွေကြေးဈေးကွက်ရေးငွေစာချုပ်တွေလို ငွေကြေးအဖြစ် အနီးစပ်ဆုံး အစားထိုးသုံးစွဲနိုင်တဲ့အရာတွေလို့ အသိအမှတ်ပြုကြတယ်၊ ယူနိုက်တက်ကင်းဒမ်းမှာ တချို့သော အကြောင်းပြချက်တွေအရ အင်္ဂလန်ဘဏ်ရဲ့ M3 နဲ့ ညီမျှတဲ့အရာကို M4 လို့လည်းခေါ်တယ်။



❝ အခုအချိန်ထိ ငွေကလူတစ်ယောက်ကို ပျော်ရွှင်အောင်မလုပ်နိုင်သေးဘူး။ နောင်လည်းလုပ်နိုင်ဦးမှာ မဟုတ်ဘူး။ ငွေတွေရှိလေ၊ ပိုပြီးလိုချင်လာလေပဲ။ လေဟာနယ်ကိုဖြည့်ပေးရမယ့်အစား ငွေကနောက်ထပ် လေဟာနယ်တစ်ခုကို ဖြစ်လာစေတယ်။ ❞

ဘင်ဂျမင် ဖရန့်ကလင်း

ထောင်စုနှစ် အကူးအပြောင်းကာလမှာ အမေရိကန်ဒေါ်လာ တန်ကြေး ၅၈၀ ဘီလီယံလောက်စီးရေလည်ပတ်နေတယ်၊ လူတွေရဲ့ဘဏ်စာရင်းတွေထဲမှာက နောက်ထပ် ၅၉၉ ဘီလီယံ လောက်ရှိနေသေးတယ်။ ဒီပမာဏကို အရွယ်ရောက်ပြီးတဲ့ အမေရိကန်နိုင်ငံသားတိုင်းအတွက် ခွဲတမ်းခွဲလိုက်ရင် ဒေါ်လာ ၂၁၂ ဘီလီယံလောက်ရမယ်။ ဆိုလိုတာက အရွယ်ရောက်ပြီးတဲ့ အမေရိကန်တစ်ယောက်ဟာ ၂၇၃၆ ဒေါ်လာလောက်ကိုင်ထား တယ်လို့ဆိုလိုတယ်။ ဒီပမာဏဟာ လူအများစု သူတို့ပိုက်ဆံအိတ် ထဲမှာ ထည့်ထားတဲ့ပမာဏထက်ပိုများနေတယ်။ လူတစ်ဦးချင်း ဝေစုလို့ထင်ရတဲ့ပမာဏများလွန်းနေတဲ့ အကြောင်းက တစ်စိတ်တစ်ပိုင်းအားဖြင့် ငွေအများအပြားဟာ တကယ့်လက်တွေ့မှာ ပြည်ပနိုင်ငံတွေမှာ ရောက်နေတာကြောင့်ပဲ၊ ဒေါ်လာကို အမေရိကန်အပြင် တခြား နိုင်ငံတွေမှာလည်း အသုံးပြုတာကြောင့်ဖြစ်တယ်။ နောက်တစ်ပိုင်းကတော့ မှောင်ခိုဈေးကွက်မှာလုပ်တဲ့ သူတွေအပါအဝင် (ဥပမာ - ရာဇဝတ်သားတွေ) လူတွေဟာ သူတို့ရဲ့ငွေတွေကို ဘဏ်စာရင်းတွေထဲ ထည့်ထားတာထက် လက်ထဲမှာငွေသားအဖြစ် ကိုင်ထားရတာကို ပိုသဘောကျကြတာကြောင့်ပဲ။

ငွေကြေး (money) ဆိုတာ ငွေစက္ကူ (currency) ဆိုတာထက်ပိုပါတယ်။ လူတွေရဲ့ဘဏ်စာရင်းထဲမှာ ရှိနေတဲ့ ငွေတွေနဲ့လည်ပတ်စီးဆင်းနေတဲ့ငွေတွေထက်တောင်ပိုပါသေးတယ်၊ ငွေကြေးဆိုတာ စိတ်ခံစားမှုအခြေအနေတစ်ရပ်လို့လည်း ဆိုနိုင်တယ်။ ကျွန်တော်တို့ရဲ့ အိတ်ကပ်ထဲမှာ ယူဆောင်လာတဲ့ ငွေစက္ကူတွေ၊ ကြေးနဲ့နီကယ်ဒင်္ဂါးပြားတွေဟာ သူတို့သတ်မှတ်တန်ဖိုးပမာဏရဲ့အစိတ်အပိုင်းတစ်ရပ် အနေနဲ့ပဲ တန်ကြေးရှိတာဖြစ်တယ်။ ဘဏ်ငွေစာရင်းတစ်ခုကနေ နောက်ငွေစာရင်းတစ်ခုကို အီလက်ထရောနစ်နည်းနဲ့ လွှဲပြောင်းလိုက်တဲ့ငွေသားတွေဆိုရင် ပင်ကိုတန်ဖိုးတောင်မှမရှိပါဘူး။ ဒါဟာငွေကြေး ကိုယုံကြည်မှုက ကျောထောက်နောက်ခံပြုထားရမယ့်အကြောင်းပါပဲ။ ယုံကြည်မှုလို့ဆိုတဲ့နေရာမှာ ငွေပေးချေသူအနေနဲ့ သူ့ငွေသားကို လက်ခံနိုင်ရမှာဖြစ်သလို၊ အစိုးရအနေနဲ့ကလည်း ဒီငွေကြေးကို နောင်အနာဂတ်ကာလမှာ တစ်စုံတစ်ရာ တန်ဖိုးထိုက်တန်ကြောင်း အာမခံပေးရမှာဖြစ်တယ်၊

### အနှစ်ချုပ်အတွေးအခေါ်

**ငွေကြေးဆိုတာ ယုံကြည်မှုဆိုင်ရာ သင်္ကေတတစ်ရပ်ပဲ**

# ၁၆ – မိုက်ခရိုနှင့် မက်ခရို

## Micro and Macro

**စီးပွားရေးပညာကို တကယ်တော့ ဘာသာရပ်နှစ်ခုနဲ့ ပေါင်းစပ်ဖွဲ့စည်းထားတာပါ။ ပထမတစ်ခုကလူတွေဟာ ဆုံးဖြတ်ချက်တွေကို ဘာကြောင့်ချမှတ်တယ်၊ ဘယ်လိုချမှတ်တယ်ဆိုတာကို အထူးပြုလေ့လာတယ်။ ဒုတိယတစ်ခုက အစိုးရတွေအနေနဲ့ တိုးတက်မှုရအောင် ဘယ်လိုလုပ်ဆောင်မလဲ၊ ငွေကြေးဖောင်းပွမှုကို ဘယ်လိုကိုင်တွယ်မလဲ၊ သူတို့ရဲ့ ဘဏ္ဍာငွေတွေကို ဘယ်လိုထိန်းသိမ်းမလဲ၊ အလုပ်လက်မဲ့နှုန်းတွေ အလွန်အမင်း မမြင့်မားစေဖို့ ဘယ်လိုသေချာအောင်လုပ်ဆောင်မလဲဆိုတာကို ကျယ်ကျယ်ပြန့်ပြန့် လေ့လာတယ်။ မိုက်ခရိုဘောဂဗေဒနှင့် မက်ခရိုဘောဂဗေဒကြားက ကွဲပြားခြားနားမှုဟာ ဘောဂဗေဒပညာရပ်ကို နားလည်ဖို့အဓိကသော့ချက်ပါပဲ။**

စီးပွားရေးပညာရှင်တွေ အချင်းချင်းစတွေ့တဲ့အခါ တစ်ယောက်ကိုတစ်ယောက် မေးလေ့ရှိတဲ့ ပထမဆုံးမေးခွန်းဟာ "မိုက်ခရိုလား၊ မက်ခရိုလား" ဆိုတဲ့မေးခွန်းပဲ။ ဒါဟာဘောဂဗေဒရဲ့ ဟိုချက်ဆီ ဦးတည်နေတဲ့ ချဉ်းကပ်ပုံနည်းလမ်းနှစ်ခုကြားက ကွဲပြားမှုပါ။ တရားသေဆန်တဲ့ ဘောဂဗေဒပညာရှင်တွေကတော့ ဒီဘာသာရပ်နှစ်ခုကို လေ့လာမှုနယ်ပယ်လုံးဝ သီးခြားဖြစ်နေတယ်လို့ ယူဆကြတယ်။ သဘောကတော့ အများစုက သူတို့ဘဝတစ်လျှောက်လုံး ဒီနှစ်ခုထဲက တစ်ခုကိုပဲ အထူးပြုလေ့လာပြီး ကျန်တစ်ခုကိုပစ်ပယ်ထားလိုက်တဲ့အပေါ် ဘာခံစားချက်မှမရှိဘူးလို့ ဆိုလိုတယ်။

### ကွဲပြားမှုကာဘလဲ

"သေးငယ်သော" လို့အဓိပ္ပါယ်ရတဲ့ ရှေးဟောင်းဂရိစကားလုံး Mikros ကနေ ဆင်းသက်လာတဲ့ မိုက်ခရိုဘောဂဗေဒဆိုတာ အိမ်ထောင်စုတွေနဲ့ စီးပွားရေးလုပ်ငန်းတွေဟာ ဆုံးဖြတ်ချက်တွေ ဘယ်လိုချမှတ်တယ်ဆိုတာနဲ့ ဈေးကွက်နဲ့ဘယ်လို အပြန်အလှန် ဆက်ဆံတယ်ဆိုတာကို လေ့လာတဲ့ဘာသာရပ်ဖြစ်တယ်။ ဥပမာ – မိုက်ခရိုအထူးပြု လေ့လာသူတစ်ယောက်ဟာ မကြာသေးမီနှစ်ကာလတွေမှာ သီးနှံအထွက်ကောင်းတဲ့ လယ်မြေအချို့အစားအစာ ဘယ်လိုအတက်အကျဖြစ်နေတယ်ဆိုတာကို အာရုံစိုက်လေ့လာတယ်။

မက်ခရိုဘောဂဗေဒဆိုတဲ့အသုံးကတော့ "ကြီးမားသော" လို့အဓိပ္ပါယ်ရတဲ့ ဂရိစကားလုံး Makros ကနေ ဆင်းသက်လာတာဖြစ်တယ်။ မက်ခရိုဘောဂဗေဒက စီးပွားရေးတစ်ရပ်လုံး ဘယ်လိုလည်ပတ်အလုပ်လုပ်တယ်ဆိုတာကို လေ့လာတယ်။ မက်ခရိုစီးပွားရေးပညာရှင်တစ်ယောက်အနေနဲ့ (၁၉၉၀ နှစ်တွေမှာ အမေရိကန်ပြည်ထောင်စုမှာ) တိုင်းပြည်ရဲ့ တိုးတက်မှုနှုန်း မိုင်မာနေပြီး ငွေကြေးဖောင်းပွမှု ဘာကြောင့်နိမ့်ကျနေရတာလဲဆိုတဲ့ မေးခွန်းမျိုးတွေနဲ့ (မကြာသေးမီဆယ်စုနှစ်များက ယူရိုဇုန်မှာရော၊ ယူအက်စ်မှာပါကြုံတွေ့ခဲ့ရတဲ့) ငြီးငွေ့မှုတွေမြင့်တက်လာရတဲ့ အကြောင်းတရားတွေက ဘာတွေလဲဆိုတဲ့မေးခွန်းမျိုးတွေကို ဖြေရှင်းစိတ်ဝင်စားတယ်။

### ကွဲပြားခြားနားမှု၏ ဇစ်မြစ်များ

ဘာကြောင့်များကွဲပြားနေရတာလဲ။ ဒီမေးခွန်းကမေးခွန်းကောင်းတစ်ခုပါပဲ။ တကယ်တော့ ၂၀ – ရာစုနှစ်ဝက်ကာလတွေအထိ ဒီလိုကွဲပြားမှုမျိုးမရှိခဲ့ပါဘူး။ စီးပွားရေးပညာရှင်ဆိုတာ စီးပွားရေးပညာရှင်ပဲပေါ့။ စကေးကြီးကြီးအပေါ်အာရုံစိုက်သူတွေက သူတို့ကိုယ်သူတို့ ငွေကြေးဆိုင်ရာ စီးပွားရေးပညာရှင်တွေလို့ခေါ်ပြီး စကေးသေးသေးတို့ လေ့လာသူတွေကိုတော့ ရေးနှုန်းသီအိုရီသမားတွေလို့ ခေါ်ကြတယ်။ အဲ့ဒီနောက်မှာတော့ ဂျွန်မေးနတ်ကိန်းခေတ်ကိုရောက်လာပြီး သူကဘာသာရပ်ဆိုင်ရာ သဘောထားအမြင်တွေကို ပြောင်းလဲခဲ့တယ် (အခန်း ၉ ကိုကြည့်ပါ)။ အချုပ်အားဖြင့်တော့ သူကနိုင်ငံတော်ရဲ့



**အချိန်ပြဇယား:**

| ၁၉၃၀ | ၁၉၃၃ | ၁၉၅၀ နှစ်များ | ၁၉၉၀ နှစ်များ |
| --- | --- | --- | --- |
| မဟာစီးပွားပျက်ကပ်ကြီးက တစ်သီးပုဂ္ဂလ လူသားအပြုအမူနဲ့ လူ့အဖွဲ့အစည်းတစ်ရပ်လုံးရဲ့ အပြုအမူကြားမှာ သိမြင်စီ ကွဲပြားသွားစေ | နော်ဝေလူမျိုးဘောဂဗေဒပညာရှင် Ragnar Frisch က မက်ခရိုဘောဂဗေဒဆိုတဲ့ အသုံးကို ပထမဆုံးစတင်သုံးခဲ့ | မက်ခရိုဘောဂဗေဒဟာ ကိန်းဂဏန်းအတွက် လုပ်ကြိုက်များ ရေပန်းစားလာ | မက်ခရိုဘောဂဗေဒဖြစ်သက်နေစဉ်ကာလမှာ မိုက်ခရိုဘောဂဗေဒ တစ်ဟုန်ထိုးတိုးတက်လာ |

" ဗိုက်ခရိုဘောဂဗေဒဆိုတာ ဗိုက်ဆံဘယ်သူ့မှာရှိသလဲဆိုတာရယ်၊
အဲ့ဒီဗိုက်ဆံကို ကိုယ့်လက်ထဲရောက်အောင်ဘယ်လိုလုပ်မလဲဆိုတာရယ်ကို
လေ့လာတဲ့ဘာသာရပ်ပဲ။ မက်ခရိုဘောဂဗေဒကတော့ ဘယ်အစိုးရဌာနမှာ သေနတ်ရှိလဲဆိုတာရယ်၊
အဲ့ဒီသေနတ်ကို ကျွန်တော်တို့လက်ထဲရောက်အောင်ဘယ်လိုလုပ်မလဲဆိုတာရယ်ကို လေ့လာတဲ့ဘာသာရပ်ပဲ "

ဂရေးခနဥ္ဘသ်
အမေရိကန်ဂျာနယ်လစ်

အခန်းကဏ္ဍအပေါ်မှာပဲ အားလုံးကို အဓလးအနက်ထားတဲ့ မက်ခရိုဘောဂဗေဒကို အစပြုခဲ့တယ်။ ဒီလိုအစပြုပန်တီးရာမှာ ပြည်သူ့ငွေကြေးနဲ့အတိုးနှုန်းတွေကို အသုံးချခြင်းအားဖြင့် စီးပွားရေးကို လမ်းကြောင်းမှန်ပေါ်မှာ ထိန်းသားနိုင်ဖို့ ပြည်တွင်းမှာ ကြိုးပမ်းတယ်၊ ပြည်ပမှာတော့ အခြားနိုင်ငံတွေနဲ့ ကုန်သွယ်ရေးကို စောင့်ကြည့်စစ်ဆေးခြင်းအားဖြင့် လုပ်ဆောင်တယ်၊

တစ်ဖက်မှာလည်း မိုက်ခရိုဘောဂဗေဒဟာ သူ့နေရာနဲ့သူ လေ့လာမှုနယ်ပယ်တွေ အများအပြားဖြစ်လာဖို့ရာ ဖွံ့ဖြိုးတိုးတက်လာခဲ့တယ်။ အထူးသဖြင့်တော့ အခြေအနေအမျိုးမျိုးမှာ ဝယ်လိုအားနဲ့ ရောင်းလိုအား ဘယ်လိုအပြန်အလှန် တုံ့ပြန်ကြတယ်ဆိုတဲ့အပေါ် အာရုံစိုက်ထားတယ် (အခန်း ၂ ကို ကြည့်ပါ)။ မိုက်ခရိုဘောဂဗေဒက အခွန်တွေနဲ့ စည်းမျဉ်းတွေကို လူတွေရဲ့တုံ့ပြန်ပုံ၊ ဈေးနှုန်း၊ ဒါမှမဟုတ် အတွေ့အကြုံတွေနဲ့ပတ်သက်တဲ့ အပြောင်းအလဲတွေအပေါ် တုံ့ပြန်ပုံတွေကို စူးစမ်းလေ့လာတယ်။ ဒါပေမဲ့ စီးပွားရေးတစ်ခုလုံးအပေါ် ဒီဟာတွေရဲ့သက်ရောက်မှုတွေနဲ့ ပတ်သက်လို့တော့ကောက်ချက်ဆွဲဖို့ မလုံလောက်တာကြောင့် ရပ်တန့်ထားလိုက်တယ်၊ ဒါက မက်ခရိုဘောဂဗေဒသမားရဲ့အလုပ်ပဲလေ၊ မိုက်ခရိုနဲ့ မက်ခရိုက အချင်းချင်း အပြန်အလှန်ဆက်နွယ်မှုတော့ရှိနေတယ်။ ဒါပေမဲ့ ဒီနှစ်ခုကို ကွဲပြားသွားစေတဲ့အကြောင်းက မိုက်ခရိုက ဈေးကွက်တစ်ခုချင်းစီအပေါ်မှာပဲ သီးခြားအာရုံစိုက်ပြီး မက်ခရိုအမြင်ကတော့ ဈေးကွက်တွေအားလုံးကို ပူးပေါင်းလေ့လာတာကြောင့်ပဲ။

မက်ခရိုဘောဂဗေဒသမားတွေက စီးပွားရေးတစ်ရပ်ရဲ့ အပြုအမူနဲ့ပတ်သက်ပြီး အလွန်အင်မတန်ကျယ်ပြန့်တဲ့ ယူဆချက်တွေကို လုပ်ဆောင်ရတယ်လို့ ဆိုတယ်။



## အပေါင်းလက္ခဏာဆောင်ဘောဂဗေဒနှင့် စံပြဘောဂဗေဒ

အပေါင်းလက္ခဏာဆောင်ဘောဂဗေဒ (positive economics) ဆိုတာ ကမ္ဘာကြီးမှာ ဖြစ်ပျက်နေတဲ့အရာတွေကို လက်တွေ့ကျကျ လေ့လာတဲ့ဘာသာရပ်ဖြစ်တယ်၊ ဥပမာ တချို့နိုင်ငံတွေက ဘာကြောင့်ပိုပြီးချမ်းသာလာနေရတာလဲ၊ တချို့သားစုတွေက ဘာကြောင့်ပိုပြီး ဆင်းရဲလာနေရတာလဲ၊ အနာဂတ်ကာလမှာရော သူတို့တွေက ဘာတွေဖြစ်လာမှာလဲဆိုတာကို ဒီဘာသာရပ်က စူးစမ်းလေ့လာတယ်၊ ဘာတွေဖြစ်သင့်တယ်၊ မဖြစ်သင့်ဘူးဆိုတဲ့ ဘယ်လိုဝေဖန်ဆုံးဖြတ်ချက်မျိုးကိုမှ မပေးဘူး၊ သူတို့ဘာကြောင့်လုပ်သင့်လဲဆိုတဲ့ သိပ္ပံနည်းကျ လေ့လာမှုနဲ့ပဲ သက်ဆိုင်တယ်၊

စံပြဘောဂဗေဒ (normative economics) ကတော့ ကမ္ဘာကြီးမှာ ဘာတွေဖြစ်ပျက်နေလဲဆိုတဲ့အပေါ် အာရုံစိုက်ထားပြီး စီးပွားရေးတစ်ရပ်ကို ဘယ်လိုတိုးတက်စေနိုင်တယ်ဆိုတာ ကောက်ကြောင်းဆွဲပေါ်ပြဖို့ အားထုတ်တယ်။ ဒါကြောင့် သီးခြားဖြစ်ရပ် တစ်ခုချင်းအလိုက် ဝေဖန်ဆုံးဖြတ်တာမျိုးကို လုပ်ဆောင်တယ်။ "ကမ္ဘာ့လူဦးရေသန်းတစ်ထောင်လောက်ဟာ တစ်နေ့ဝင်ငွေ တစ်ဒေါ်လာအောက်မှာ ရှင်သန်နေထိုင်ကြရတယ်။ ဒီငွေပမာဏဟာ လူသားတစ်ယောက်အသက်ရှင်သန်ရပ်တည်ဖို့ မျှော်လင့်နိုင်တဲ့ ပမာဏအောက်မှာရှိတယ်။ ဒါကြောင့် အစိုးရတွေ၊ အထူးသဖြင့် ချမ်းသာတဲ့အစိုးရတွေက အကူအညီအထောက်အပံ့တွေကနေတစ်ဆင့် ဒီငွေပမာဏကို တိုးတက်လာအောင် လုပ်ပေးသင့်တယ်။" ဒီရေးသားဖော်ပြပုံကို ကြည့်ပါ။ ပထမဆုံးစာကြောင်းက အပေါင်းလက္ခဏာဆောင်ဘောဂဗေဒနဲ့ဆိုင်တဲ့ ရေးသားပုံဖြစ်ပြီး ကျန်တဲ့စာကြောင်းတွေကတော့ စံပြဘောဂဗေဒနဲ့ဆိုင်တဲ့တင်ပြပုံဖြစ်တယ်။

ဒီလိုလုပ်ဆောင်ရာမှာ ဝယ်လိုအားနဲ့ ရောင်းလိုအားကြားက အားပျှခြေတစ်ရပ် ဆီကို
ရေရှည်မှာ တိမ်းညွတ်သွားမယ့် ယူဆချက်မျိုးလည်း ပါဝင်တယ်။
ဒီယူဆချက်ကတော့ အင်မတန်အခြေခံကျ ဖြစ်ရတဲ့ ယူဆချက်မျိုးပဲ။

## ချဉ်းကပ်ပုံကွဲပြားခြင်း

အဆင့်အတန်းရှိတဲ့ သတင်းစာတွေမှာ စီးပွားရေးနဲ့ပတ်သက်တဲ့သတင်းတွေဟာ
အမြဲတမ်းမက်ခရိုဘောဂဗေဒအပေါ် အလေးအနက်ထားကြတယ်။
ငွေကြေးဖောင်းပွမှုနဲ့ အတိုးနှုန်းအပြောင်းအလဲ၊ နိုင်ငံတစ်နိုင်ငံရဲ့ စုစုပေါင်းကုန်ထွက် သို့မဟုတ်
စုစုပေါင်းပြည်တွင်းထုတ်ကုန်တန်ဖိုး (ဂျီဒီပီ)၊ စီးပွားရေးကျဆင်းမှု၊ ဒါမှမဟုတ် စီးပွားရေးပန်းပွင့်မှုနဲ့
ဆိုင်တဲ့သတင်း၊ နောက်ဆုံးသက်ဂျက်စာရင်းမှာ ဘဏ္ဍာရေးဝန်ကြီးရဲ့အမှာစကား
စတဲ့သတင်းမျိုးတွေဖြစ်တယ်။ ဒါကြောင့် သာမန်အားဖြင့် မက်ခရိုဇာတ်လမ်းဟာ
အထက် - အောက်ချဉ်းကပ်ပုံ ဆန်တယ်လို့ ဆိုနိုင်တယ်။

ဒါပေမဲ့ တစ်သီးပုဂ္ဂလဘဏ္ဍာရေးအခြေအနေအပေါ် အလေးထားတဲ့ဇာတ်လမ်းမျိုးတွေကတော့ မိုက်ခရိုနယ်ပယ်နဲ့ ပိုပြီးသက်ဆိုင်တယ်။ လူတွေရဲ့နေ့စဉ်ဘဝတွေအပေါ် အခွန်တွေရဲ့ သက်ရောက်မှုတွေနဲ့ တခြားအစိုးရအစီအမံတွေရဲ့ သက်ရောက်မှုတွေနဲ့ဆိုင်တဲ့ဇာတ်လမ်းမျိုးတွေ၊ ဥပမာ - ဂေါ်ဒွန်ဘရောင်း ဗြိတိသျှဝန်ကြီးချုပ်ဘဝမှာတုန်းက စီးပွားရေးကို မိုက်ခရိုအမြင်အရ စီမံခန့်ခွဲဖို့ကြိုးပမ်းမှုတွေအပေါ် သူ့ကို ခေါ်သတကြီးခဝဇန် ပြောဆိုတာတွေရှိခဲ့ပါတယ်၊ သူက ဝင်ငွေခွန်နဲ့အတိုးနှုန်းတွေကို အပြောင်းအလဲကြီးကြီးမားမားလုပ်ဖို့ ရှောင်ကြဉ်ခဲ့တယ်။ တချို့သောသီးခြားမိသားစုဘဝတွေအတွက်ဖြစ်ဖြစ်၊ စီးပွားရေးလုပ်ငန်းတွေမှာရင်းနှီးမြှုပ်နှံဖို့ တွန်းအားပေးတဲ့အနေနဲ့ဖြစ်ဖြစ် အခွန်လျှော့ချမှုတွေလိုမျိုး အသေးစားအစီအမံတွေလုပ်ဖို့ သူက ပိုပြီးအလေးထားခဲ့တယ်၊

မက်ခရိုဘောဂဗေဒဆိုင်ရာကျောင်းတွေ အတော်လေးနည်းပါးပေမယ့် မိုက်ခရိုပညာရှင်တွေအဖို့တော့ လေ့လာစရာနယ်ပယ် အမြောက်အမြားပါပဲ၊ အသုံးချဘောဂဗေဒလို့ခေါ်တဲ့ ဒီနယ်ပယ်မှာ ကဏ္ဍအလိုက်ကျွမ်းကျင်သူတွေကို အများကြီးတွေ့နိုင်ပါတယ်။ ပြောရရင် အလုပ်အကိုင်ရရှိမှုနဲ့ အလုပ်အကိုင်ဈေးကွက်အပြောင်းအလဲတို့ လေ့လာသူတွေ၊ အစိုးရရဲ့ငွေစာရင်းတွေကို လေ့လာဆန်းစစ်နေတဲ့ ပြည်သူ့ဘဏ္ဍာရေးကဏ္ဍ ကျွမ်းကျင်သူတွေ၊ လူသုံးကုန်ပစ္စည်းတွေနဲ့



ဆက်စပ်တဲ့အခွန်ရေးရာ ကျွမ်းကျင်သူတွေ၊ ဝင်ငွေခွန်၊ ဒါမှမဟုတ်
ကုန်သွယ်လုပ်ငန်းခွန်ရေးရာ ပညာရှင်တွေ၊ လယ်ယာစိုက်ပျိုးရေးနဲ့
သွင်းကုန်ခွန်ရေးရာ ကျွမ်းကျင်သူတွေ၊ လုပ်ခလစာဆိုင်ရာပညာရှင်တွေ
စသဖြင့် အများကြီးပါပဲ၊

မိုက်ခရိုစီးပွားရေးက မက်ခရိုထက်စာရင် စာရင်းဇယားတွေအပေါ်အလွန်အမင်း အခြေခံရတာတွေ့ရတယ်။ ဒါကြောင့် လက်တွေ့လုပ်ကိုင်သူတွေအနေနဲ့ တစ်စုံတစ်ရာ အပြောင်းအလဲဖြစ်တဲ့အခါ ဝယ်လိုအားနဲ့ ရောင်းလိုအားရဲ့တုံ့ပြန်ပုံတွေကို သရုပ်ဖော်ဖို့ရာ ရှုပ်ထွေးတဲ့ ကွန်ပြူတာမိုဒယ်တွေကို တီထွင်ဖန်တီးရတယ်၊ ဥပမာ - ရေနံဈေး (စွမ်းအင်ဈေး) တွေ ရုတ်တရက်ခုန်တက်သွားတဲ့အခါ ကားထုတ်လုပ်သူတွေရဲ့ကုန်ကျစရိတ်တွေပိုတက်လာမယ်၊ ရောင်းလိုအားဝယ်လိုအားတွေက ဘယ်လိုတုံ့ပြန်မယ်ဆိုတာမျိုးပေါ့။ မက်ခရိုဘောဂဗေဒသမားကတော့ စီးပွားရေးတစ်ရပ်ရဲ့ အထွေထွေတိုးတက်မှုနှုန်းအပေါ် ရေနံဈေးရဲ့သက်ရောက်မှုတွေရှိလာနိုင်တဲ့အပေါ် ပိုပြီးစိုးရိမ်ပူပန်မှုရှိတယ်။ သူက ရေနံဈေးတွေဘာကြောင့် ခုန်တက်သွားတာလဲဆိုတာကို အရင်ဖေါ်ထုတ်မယ်၊ ပြီးတော့ ပုံမှန်အခြေအနေပြန်ရောက်သွားအောင် ဘယ်လိုထိန်းချုပ်နိုင်မလဲဆိုတဲ့နည်းလမ်းရှာမှာဖြစ်တယ်။

ဘာပဲဖြစ်ဖြစ် ဒီဘာသာရပ်နှစ်ခုက သီးခြားစီဖြစ်နေပေမယ့်လည်း တူညီတဲ့
အခြေခံစည်းမျဉ်းတွေကိုတော့ ကျောထောက်နောက်ခံပြုထားကြတာဖြစ်ပါတယ်၊
ဒီစည်းမျဉ်းတွေကတော့ ရောင်းလိုအားနဲ့ ဝယ်လိုအားအပြန်အလှန်သက်ရောက်မှုတွေ၊
ဈေးနှုန်းနဲ့ မှန်ကန်တဲ့ဈေးကွက်လည်ပတ်မှုရဲ့ အရေးကြီးပုံတွေ၊
မက်လုံးတွေနဲ့ ရှားပါးမှုတွေကို ရင်ဆိုင်ကြရတဲ့အခါ လူတွေရဲ့
ပြုမူပုံကိုပြသနားပေးဖို့ လိုအပ်ချက်တွေပါပဲ။

အနှစ်ချုပ်အတွေးအခေါ်

**မိုက်ခရိုက လုပ်ငန်းတွေအတွက်၊ မက်ခရိုက နိုင်ငံတွေအတွက်**

# ၁၇ – စုစုပေါင်းပြည်တွင်းထုတ်ကုန်တန်ဖိုး

## Gross Domestic Product

ဘောဂဗေဒမှာသိသင့်သိအပ်တဲ့ကိန်းဂဏန်းတစ်ရပ်ရှိတယ်ဆိုရင်၊ ဒါဟာ စုစုပေါင်းပြည်တွင်းထုတ်ကုန်တန်ဖိုး ဂျီဒီပီပါပဲ။ ငွေကြေးဖေါင်းပွမှုနဲ့ အလုပ်လက်မဲ့ပမာဏတွေကနေ ငွေလဲနှုန်းနဲ့ အိမ်ခြံမြေဈေးနှုန်းတွေအထိ အားလုံးထဲမှာ တကယ့်ကို အကြီးဆုံးစီးပွားရေးဆိုင်ရာကိန်းဂဏန်းကတော့ ဂျီဒီပီပဲလို့ ဆိုရမယ်။ ဂျီဒီပီနဲ့ယှဉ်လိုက်ရင် တခြားကိန်းဂဏန်းတွေဆိုတာ တကယ့်ကို ဖျှားလေးတွေဖြစ်ကုန်တာပါပဲ။

နိုင်ငံတစ်နိုင်ငံရဲ့ ဂျီဒီပီဆိုတာလွယ်လွယ်ရှင်းရှင်းပြောရရင်တော့ အဲဒီနိုင်ငံရဲ့အလုံးစုံသောဝင်ငွေပမာဏပဲ။

နိုင်ငံတစ်နိုင်ငံရဲ့ စီးပွားရေးအင်အားနဲ့ စွမ်းဆောင်နိုင်မှုကို တိုင်းတာတဲ့ ကိရိယာအဖြစ် ဂျီဒီပီကို အများဆုံးကျယ်ကျယ်ပြန့်ပြန့် အသိအမှတ်ပြုလက်ခံထားကြတယ်။

တရုတ်နိုင်ငံဟာမကြာသေးမီဆယ်စုနှစ်ကာလတွေမှာ စီးပွားရေးအထွတ်အထိပ်အနေအထားဆီကို အံ့အားသင့်စရာ တိုးတက်လာနေခဲ့တာကို ကောင်းကောင်းသတိပြုမိကြတယ်၊ ဇယားကွက်မှာဖော်ပြထားတဲ့အတိုင်းပါပဲ ၊ တရုတ်နိုင်ငံရဲ့ ဂျီဒီပီဟာပြင်သစ်၊ ဗြိတိန်နဲ့ဂျာမနီနိုင်ငံတွေကို မကြာသေးမီနှစ်များကပဲ အလျင်အမြန်ကျော်တက်လာခဲ့တာတွေ့ရတယ်။ တရုတ်အနေနဲ့ လက်ရှိတိုးတက်မှုနှုန်းအတိုင်းသာ ဆက်သွားရင် ၂ဝ၁ ပြည့်နှစ်မှာ ကမ္ဘာ့ဒုတိယအကြီးဆုံး စီးပွားရေးဖြစ်တဲ့ ဂျပန်နိုင်ငံကို ကျော်တက်သွားလိမ့်မယ်လို့ ခန့်မှန်းခဲ့ကြတယ်။ ဒါပေမဲ့ တရုတ်ရဲ့စီးပွားရေးကုန်ထွက်က အမေရိကန်ရဲ့ ဂျီဒီပီအစွန်းထွက်လောက်ပဲရှိနေသေးတယ်ဆိုတာ တွေ့ရမှာပါ။

**အချိန်ပြဇယား:**

**၁၉၅ဝ နှစ်များ**
စစ်ပြီးခေတ်ကမ္ဘာ့စီးပွားရေး ချွေးရှောင်လွှမ်းတဲ့ ကာလကိုစတင်

**၁၉၇၂**
ဘူတန်နိုင်ငံက စုစုပေါင်းအမျိုးသားပျော်ရွှင်မှု အညွှန်းကိန်း (gross national happiness index) ကို စတင်သုံးစွဲ



### ဂျီဒီပီမှာ ဘာတွေပါဝင်လဲ

ဂျီဒီပီကနိုင်ငံတစ်နိုင်ငံရဲ့ စုစုပေါင်းဝင်ငွေနဲ့ စုစုပေါင်းအသုံးစရိတ်ဆိုတဲ့ အရာနှစ်မျိုးကို တိုင်းတာတယ်၊ စီးပွားရေးတစ်ရပ်မှာ ဝင်ငွေနဲ့အသုံးစရိတ်ဆိုတာ တစ်ခုနဲ့တစ်ခု ညီနေတာပါ။ သတင်းစာတစ်စောင်ကို တစ်ဒေါ်လာနဲ့ ပေးဝယ်လိုက်ရင် ဒီပိုက်ဆံဟာ စင်ဖျားရဲ့အသုံးစရိတ်ဖြစ်ပြီး တစ်ပြိုင်နက်ထဲမှာပဲ တခြားတစ်ယောက်ရဲ့ ဝင်ငွေဖြစ်နေတာတွေ့ရမယ်၊ ဂျီဒီပီက ကုန်စည် (အစားအစာ)နဲ့ဝန်ဆောင်မှု (ဆံပင်ညှပ်ခြင်း) နှစ်မျိုးစလုံးကို တိုင်းတာတယ်။ အဲဒီထဲမှာ လက်ဆုပ်လက်ကိုင်မပြနိုင်တဲ့ အိမ်ခြံမြေအကျိုးဆောင်ခလိုအရာတွေလည်း ပါဝင်တယ်။

### ဂျီဒီပီမှာ ဘာတွေမပါဝင်ဘူးလဲ

တရားဝင်စီးပွားရေးလုပ်ငန်းတွေက ထုတ်လုပ်လိုက်တဲ့ ဘယ်အရာတွေကိုမဆို ဂျီဒီပီမှာ

**နိုင်ငံအလိုက်ဂျီဒီပီ**

(ကျပ် ဘီလီယံ၊ ၂ဝဝ၈ ခုနှစ်)

| | |
|---|---|
| အမေရိကန် | ၁၄၃၃၄ |
| ဂျပန် | ၄၉၄၄ |
| တရုတ် | ၄၂၂၂ |
| ဂျာမနီ | ၃၈၁၈ |
| ပြင်သစ် | ၂၉၈၇ |
| ယူနိုက်တက်ကင်းဒမ်း | ၂၈၇၈ |
| အီတလီ | ၂၃၉၉ |
| တစ်ကမ္ဘာလုံး | ၆၀၁၀၉ |
| ဥရောပသမဂ္ဂ | ၁၉၁၉၅ |

ရင်းမြစ် ၊ နိုင်ငံတကာငွေကြေးရန်ပုံငွေအဖွဲ့ (IMF)

**၂ဝဝ၇**
ကမ္ဘာ့စီးပွားရေးတိုးတက်မှုကို ဆယ်စုနှစ်ပေါင်းများစွာ အကြာဆုံးမြဲသန့်ထားနိုင်မှု တစ်ခန်းရပ်သွား

ထည့်သွင်းရေတွက်ခြင်း မပြုဘူး။ မူးယစ်ဆေးဝါးနဲ့ မှောင်ခိုဈေးကွက်မှာ ရောင်းဝယ်ကြတဲ့ ပစ္စည်းမျိုးတွေပေါ့။ အချမ်းသာဆုံးတိုင်းပြည်တွေက စီးပွားရေးရဲ့ ဆယ်ပုံတစ်ပုံ ပမာဏလောက်ဟာ ဒီလိုတရားမဝင်ကုန်ပစ္စည်းတွေ ရောင်းဝယ်ရာကနေရတဲ့ ဝင်ငွေတွေလို့ စဉ်းစားကြတယ်။ ဂျီဒီပီမှာကုန်စည်တစ်ခုရဲ့ အစိတ်အပိုင်းတွေကို ထည့်မစဉ်းစားဘူး။ ဆိုလိုတာက မော်တော်ကား တစ်စင်းလို့ဆိုရင် အင်ဂျင်ကို သီးခြားဖြုတ်ပြီး မစဉ်းစားတော့ဘူး၊ အင်ဂျင်ကို သီးခြားဖြုတ်ရောင်း လိုက်တာမျိုးဆိုရင်တော့ ဂျီဒီပီမှာ အဲဒီအင်ဂျင်တန်ဖိုးကို ထည့်စဉ်းစားပါတယ်။

## နိုင်ငံခြားပိုင်ကုမ္ပဏီတွေ

ဂျီဒီပီက နိုင်ငံတစ်နိုင်ငံအတွင်းမှာ ထုတ်လုပ်တဲ့ကုန်ပစ္စည်းတိုင်းရဲ့တန်ဖိုးကို ထည့်သွင်းစဉ်းစားပါတယ်၊ ဒီလုပ်ငန်းကို ဘယ်သူပဲ ပိုင်ပိုင်ပါ။ ဒါကြောင့် အမေရိကန်ကုမ္ပဏီတစ်ခုဟာ မက္ကဆီကိုက စက်ရုံတစ်ရုံကို ပိုင်ဆိုင်တယ်ဆိုရင် အဲဒီစက်ရုံရဲ့ထုတ်ကုန်တွေကို မက္ကဆီကိုရဲ့ဂျီဒီပီမှာပဲ ထည့်သွင်းရေတွက်ပါတယ်၊ ဒါပေမဲ့ နိုင်ငံတွင်းမှာပဲဖြစ်ဖြစ်၊ နိုင်ငံခြားမှာပဲဖြစ်ဖြစ်၊ ဘယ်မှာပဲရှိနေနေ နိုင်ငံသားတွေရဲ့ စီးပွားရေး ကုန်ထွက်တွေကို တိုင်းတာတဲ့ တခြားဆက်စပ်နေတဲ့ ကိန်းဂဏန်းတစ်ခုလည်း ရှိပါသေးတယ်၊ ဥပမာ- အမေရိကန်ရဲ့စုစုပေါင်းတိုင်းပြည်ထုတ်ကုန်တန်ဖိုး ဂျီအင်ပီမှာ ပြည်တွင်းကရော နိုင်ငံခြားမှာပါ ရှိနေတဲ့ နိုင်ငံသားတွေရရှိတဲ့ ဝင်ငွေတွေအားလုံးပါဝင်တယ်။ ဒါပေမဲ့အမေရိကန်မှာရှိနေတဲ့ တခြားနိုင်ငံ သားတွေနဲ့ နိုင်ငံခြားကုမ္ပဏီတွေရဲ့ဝင်ငွေတွေကိုတော့ အဲဒီမှာထည့်သွင်းရေတွက်ခြင်းမပြုဘူး။ ဂျီဒီပီနဲ့ ဂျီအင်ပီရဲ့ ကိန်းဂဏန်းတွေဟာ သာမန်အားဖြင့်တော့ အတော်လေးနီးနီးစပ်စပ်ရှိတာတွေ့ရမယ်၊

## ဂျီဒီပီကိုဘယ်လိုတိုင်းတာမလဲ

အစိုးရတွေဟာ ဂျီဒီပီကိန်းဂဏန်းတွေကို ထုတ်ပြန်ရာမှာ သာမန်အားဖြင့်တော့ သုံးလတစ်ကြိမ်ထုတ်ပြန်ကြတယ်။ အဲဒီမှာ စိတ်ဝင်စားစရာကောင်းတာက စုစုပေါင်းတန်ဖိုးပမာဏကို ထုတ်ပြန်တာမဟုတ်ဘဲ၊ တိုးတက်မှုနှုန်း (growth rate)ကိုပဲ ထုတ်ပြန်တာဖြစ်တယ်။ မှတ်သားစရာတစ်ခုက နိုင်ငံရေးသမားတွေနဲ့ သတင်းစာတွေမှာ ကိုးကားဖော်ပြကြတဲ့ ဂျီဒီပီတိုးတက်မှုနှုန်းက အစစ်အမှန်ဂျီဒီပီတိုးတက်မှု (real GDP growth) အတွက် ဖြစ်ပါတယ်။ အစစ်အမှန် ဂျီဒီပီတိုးတက်မှုနှုန်းဆိုတာ ငွေကြေးဖောင်းပွမှုကို ဖယ်ထားပြီး ပုံသေဈေးနှုန်း (constant price) နဲ့ တွက်ချက်ထားတာဖြစ်တယ်။ ငွေကြေးဖောင်းပွမှုကြောင့် ဈေးကွက်ပေါက်ဈေးရဲ့ အပြောင်းအလဲကို ထည့်တွက်တဲ့အခါ ရလာတဲ့ကိန်းဂဏန်းတန်ဖိုးကိုတော့ အမည်ခံဂျီဒီပီ (nominal GDP) လို့ခေါ်တယ်။



## ဂျီဒီပီကို ဘာတွေနဲ့ ဖွဲ့စည်းထားလဲ

လိမ္မော်သီးတစ်လုံးလိုပါပဲ။ ဂျီဒီပီကိုလည်း အစိတ်အပိုင်းအတန်အမျိုးမျိုးနဲ့ ဖွဲ့စည်းထားတာပါ၊ အတန်တစ်ခုစီဟာ တိုင်းပြည်ရဲ့ စီးပွားရေးကို အရေးကြီးတဲ့ထည့်ဝင်မှုတစ်ရပ်အဖြစ် ကိုယ်စားပြုနေတယ်။ တိုင်းပြည်တစ်ပြည်ဟာ ဘယ်အရာတွေအပေါ် ငွေကြေးသုံးစွဲလိုက်တယ်ဆိုတာကို အောက်ပါအတိုင်းဖော်ပြနိုင်တယ်၊

စားသုံးခြင်း + ရင်းနှီးမြှုပ်နှံခြင်း + အစိုးရအသုံးစရိတ် + အသားတင်ပို့ကုန်
(Consumption) + (investment) + (government spending) + (net exports)

***စားသုံးခြင်း*** ဆိုတာ ကုန်စည်နဲ့ ဝန်ဆောင်မှုတွေအပေါ်မှာ အိမ်ထောင်စုတွေက သုံးစွဲလိုက်တဲ့ ငွေကြေးအားလုံးကို ဆိုလိုတယ်။ မကြာသေးမီဆယ်စုနှစ်ကာလတွေက ချမ်းသာတဲ့တိုင်းပြည်တွေမှာ စားသုံးခြင်းဟာ ဂျီဒီပီမှာ ထည့်ဝင်ဖွဲ့စည်းထားတဲ့ အကြီးဆုံးအပိုင်းအကန့်အနေနဲ့ တခြားအကန့်တွေနဲ့ မနှိုင်းယှဉ်သာလောက်အောင်ရှိနေခဲ့တယ်။ ၂၀၀၅ ခုနှစ်မှာ အမေရိကန်မှာ စားသုံးခြင်းဟာ ဂျီဒီပီရဲ့ ၇၀% ရှိပြီး ယူနိုက်တက်ကင်းဒမ်းမှာလည်း အဲဒီအချိုးအဆလောက်ပဲ၊

***ရင်းနှီးမြှုပ်နှံခြင်း*** ကတော့ ရေရှည်အတွက်ရည်ရွယ်ပြီး စီးပွားရေးလုပ်ငန်းတွေထဲကို ငွေသားတွေ ထည့်သွင်းလိုက်တာပဲ၊ ဥပမာ စက်ရုံတစ်ရုံဆောက်ဖို့၊ အဆောက်အဦသစ်တွေဆောက်ဖို့ ငွေသားတွေ ထည့်သွင်းမြှုပ်နှံလိုက်တာမျိုးပေါ့၊ ရင်းနှီးမြှုပ်နှံခြင်းကဏ္ဍမှာ အိုးသစ်အိမ်သစ်ဝယ်ဖို့ မိသားစုတွေ သုံးစွဲလိုက်တဲ့ ငွေကြေးတွေကိုလည်း ထည့်သွင်းရေတွက်တယ်။ ဒီကဏ္ဍကတော့ အမေရိကန်ဂျီဒီပီရဲ့ ၁၆.၉% ရှိပြီး ယူနိုက်တက်ကင်းဒမ်း ဂျီဒီပီရဲ့ ၁၆.၇ % ရှိတယ်၊

***အစိုးရအသုံးစရိတ်*** မှာ နိုင်ငံတော်အစိုးရနဲ့ ဒေသအာဏာပိုင်အဖွဲ့အစည်းတွေရဲ့ ကုန်စည်နဲ့ဝန်ဆောင်မှုတွေအတွက် သုံးစွဲလိုက်တဲ့ငွေကြေးတွေပါဝင်တယ်။ ဒီကဏ္ဍက အမေရိကန်ဂျီဒီပီရဲ့ ၁၈.၉ % ရှိပြီး ကျန်းမာရေး ဝန်ဆောင်မှုနဲ့ပတ်သက်တဲ့ အစိုးရရန်ပုံငွေရှိတဲ့ ဥရောပနိုင်ငံတွေမှာ ပိုပြီးကုန်ကျစရိတ် မြင့်မားတာတွေ့ရတယ်။ ဗြိတိန်မှာ ၁၉၉၀ နှစ်တွေနဲ့ ၂၀၀၀ နှစ် တွေမှာ ၄၀ % နီးပါးရှိတယ်၊ ချမ်းသာတဲ့ နိုင်ငံအများစုမှာ ၂၀၀၈ ခုနှစ် ဘဏ္ဍာရေးနဲ့ စီးပွားရေးအကျပ်အတည်းလွန်ကာလတွေမှာ ဒီအချိုးအဆဟာ သိသိသာသာတိုးတက်လာခဲ့တယ်။ အကြောင်းကတော့ အစိုးရတွေအနေနဲ့ စီးပွားရေး ကျဆင်းမှုကို ဖြေရှင်းရာမှာ တိုင်းပြည်ရဲ့ စီးပွားရေးလည်ပတ်မှုထဲကို ငွေသားအပိုတွေထပ်ထည့်ပြီး ကိန်းဘောင်ဗေဒအမြင်နဲ့ ဖြေရှင်းခဲ့ကြတာကြောင့်ပဲဖြစ်တယ် (အခန်း ၉ ကို ကြည့်ပါ)။

အမေရိကန်တွေဟာ ဂျီဒီပီရဲ့ ၁၀၀ % ထက်ကို ပိုသုံးစွဲနေတာ တွေ့ရတယ်။ ထိတ်လန့်စရာပြောရရင် ၅.၈ % လောက် ပိုသုံးစွဲခဲ့ကြတယ်။ ဒါက ဘယ်လိုလုပ်ဖြစ်နိုင်လဲဆိုတာ လေ့လာကြည့်သင့်တယ်၊ တိုတိုနဲ့လိုရင်းပြောရရင်တော့ ဒါက ဖြစ်နိုင်ပါတယ်။ မကြာသေးမီနှစ်တွေအတွင်းကပဲ အမေရိကန်ရဲ့ပြည်တွင်း ထုတ်လုပ်မှု ကုန်ပစ္စည်းတွေရဲ့လိုအပ်ချက်ကို နိုင်ငံခြားက တင်သွင်းပြီး ဖြည့်ဆည်းခဲ့တယ်။ ၂၀၀၅ ခုနှစ်မှာ ပို့ကုန်က ဂျီဒီပီရဲ့ ၁၀.၄ % ရှိပြီး သွင်းကုန်က ၁၆.၂ % ရှိခဲ့တယ်။ ဒီနှစ်ခုရဲ့ ခြားနားချက်က အသားတင်ပို့ကုန်ပဲ၊ ၂၀၀၅ ခုနှစ်မှာ အသားတင်ပို့ကုန်ပမာဏဟာ ၅.၈ % လိုငွေပြခဲ့တယ်၊ ဒါကို ကုန်သွယ်မှုလိုငွေလို့ ခေါ်ကြပြီး အမေရိကန်ပြည်ထောင်စုဟာ သူ့ရဲ့ချမ်းသာကြွယ်ဝမှုထက်ပိုပြီး ကျော်လွန်နေထိုင်နေတယ်လို့ သတိပေးနေတာဖြစ်တယ်။

> " စီးပွားရေးအရ ကြွယ်ဝချမ်းသာဖို့အတွက် ရေရှည်မှာ ကုန်ထုတ်စွမ်းအား တိုးတက်မှုနှုန်းလောက် အရေးကြီးတာ ဘာမှမရှိပါဘူး။ ဒါဟာ ပုံကြီးချဲ့ပြီးပြောတာမဟုတ်ပါဘူး။ "
>
> **William J. Baumol, Sue Anne Blackman နဲ့ Edward N. Wolff**

## ဂျီဒီပီသုံးပြီး စီးပွားရေးစွမ်းဆောင်ရည်ကို တိုင်းတာခြင်း

စီးပွားရေးစွမ်းဆောင်ရည်နဲ့ပတ်သက်ရင် ဂျီဒီပီဟာ အကျယ်ပြန့်ဆုံးတိုင်းတာမှုလို့ ဆိုရမယ်။ သူက စီးပွားရေးရဲ့ ပင်ရိုးချက်လည်းဖြစ်တယ်။ နိုင်ငံရေးသမားတွေကလည်း သူ့အပေါ်မှာပဲ မကြာခဏ ခန့်မှန်းအကဲဖြတ်ကြတယ်၊ စီးပွားရေးပညာရှင်တွေကတော့ ဂျီဒီပီပမာဏဘယ်လောက်ဖြစ်မယ်ဆိုတာ ခက်ခက်ခဲခဲကြိုးစားခန့်မှန်းပြီး ပေါက်ကိန်းထုတ်ကြတယ်။ စီးပွားရေးကျဉ်းကျုံ့လာတဲ့အခါ အလုပ်လက်မဲ့နှုန်းမြင့်တက်လာပြီး လုပ်ခလစာရေးနှုန်းတွေပါ အတူတွဲပြီးကျဆင်းလာတယ်။ ဒီလိုဖြစ်နေတာ ၆လ ကျော်ကြာပြီဆိုရင်တော့ ဒါကို စီးပွားရေးကျဆင်းမှု (recession) ဖြစ်ပွားနေပြီလို့ ပညာရှင်တွေက သတ်မှတ်ကြတယ်၊ ဒီသတ်မှတ်ချက်ကို ကျယ်ကျယ်ပြန့်ပြန့် လက်ခံထားကြပေမယ့် အမေရိကန်ပြည်ထောင်စုမှာတော့ စီးပွားရေးသုတေသနဆိုင်ရာ အမျိုးသားဌာနရှိအဖွဲ့ (National Bureau of Economic Reserach) က အဆုံးအဖြတ်မပေးမချင်း ဒီစကားလုံးကို တရားဝင်မသုံးကြဘူး။ အဆိုးရွားဆုံးစီးပွားရေးကျဆင်းမှုကိုတော့ စီးပွားပျက်ကပ် (depression) လို့ ခေါ်ကြတယ်၊ စီးပွားပျက်ကပ်နဲ့ပတ်သက်လို့တော့ ကျယ်ကျယ်ပြန့်ပြန့်လက်ခံထားတဲ့ သတ်မှတ်ဖွင့်ဆိုချက်မရှိဘူး။ စီးပွားရေးပညာရှင်တွေကတော့ စီးပွားရေးတစ်ရပ်ဟာ ထိပ်ဆုံးအခြေအနေကနေ ကျဉ်းကျုံ့ပြီး ၁၀ % ကျဆင်းသွားတဲ့အခြေအနေကို ရောက်သွားပြီဆိုရင် ဒါဟာ စီးပွားပျက်ကပ်ဆိုက်နေပြီလို့



သတ်မှတ်ကြတယ်။ စီးပွားရေးအထွက်ကျဉ်းကျုံ့ကျဆင်းလာခြင်းဟာ တစ်နှစ်ကျော်လာမှသာ စီးပွားပျက်ကပ်ဖြစ်ပွားနေပြီလို့ သေချာပေါက်ပြောနိုင်မယ်။ ဒီထက်ပိုဆိုးတဲ့အနေအထားကိုတော့ ဒါကို စီးပွားရေးပညာရှင်တွေက သဘောတူကြတယ်။ ၁၉၃၀ နှစ်တွေမှာ ဖြစ်ပွားခဲ့တဲ့မဟာစီးပွားပျက်ကပ် (Great Depression) ကာလအတွင်းမှာ အမေရိကန်ပြည်ထောင်စုရဲ့ ဂျီဒီပီဟာ သုံးပုံတစ်ပုံကျဆင်းသွားခဲ့တယ်။

ဆက်စပ်သုံးနိုင်တဲ့ ဒီစီးပွားရေးကိန်းဂဏန်းမှာ အရေးပါတဲ့ကန့်သတ်ချက်တချို့လည်းရှိတယ်။ နိုင်ငံတစ်နိုင်ငံအနေနဲ့ ရုတ်တရက် တံခါးဖွင့်စီးပွားရေးစနစ်ကျင့်သုံးလိုက်မယ်ဆိုရင်၊ ဒါမှမဟုတ် နိုင်ငံသားတွေကို အချိန်ပိုအလုပ်လုပ်ဖို့ တောင်းဆိုမယ်ဆိုရင်၊ ဒါက ဂျီဒီပီကို သိသိသာသာ မြင့်တက်လာစေနိုင်ပါတယ်။ အလုပ်သမားတွေအနေနဲ့ တစ်ဦးချင်းဘာမှ ပိုပြီး အကျိုးဖြစ်ထွန်းမလာရင်တောင်မှ ဂျီဒီပီကတော့ တက်လာနိုင်ပါတယ်၊ စီးပွားရေးအခြေအနေကို ခန့်မှန်းတွက်ချက်ရာမှာ တချို့ပညာရှင်တွေက နိုင်ငံရဲ့ကုန်ထုတ်စွမ်းအား (productivity) ကိုကြည့်ဖို့အားသန်ကြတယ်။ ကုန်ထုတ်စွမ်းအားကို သိချင်ရင် ဂျီဒီပီကို နိုင်ငံသားတွေရဲ့ အလုပ်လုပ်တဲ့အလုပ်ချိန်နဲ့စားပြီး တွက်ချက်ကြတယ်။ နောက်တစ်နည်းက ဂျီဒီပီကို စုစုပေါင်းလူဦးရေနဲ့စားခြင်းအားဖြင့် တစ်ဦးချင်းဂျီဒီပီ (GDP per capita) ကို တွက်ထုတ်ကြတယ်။ နိုင်ငံတစ်နိုင်ငံရဲ့လူနေမှုအဆင့်အတန်းကို သရုပ်ဖော်ရာမှာ စီးပွားရေးပညာရှင်တွေက တစ်ဦးချင်းဂျီဒီပီကို အသုံးပြုဖော်ပြကြတယ်။

နိုင်ငံတစ်နိုင်ငံရဲ့ချမ်းသာကြွယ်ဝမှုကို ထင်ဟပ်စေဖို့ ဂျီဒီပီကို စွဲကိုင်ဖော်ပြကြပေမယ့် မျက်မှောက်ခေတ် စီးပွားရေးပညာရှင်တွေကတော့ သူ့ရဲ့အားနည်းချက်တွေကိုလည်း သတိထားကြည့်လာကြတယ်၊ ဥပမာ - ဂျီဒီပီက လူ့အဖွဲ့အစည်းတစ်ရပ်အတွင်းမှာနေထိုင်တဲ့ လူတွေရဲ့မညီမျှမှုတွေကို ထည့်သွင်းမစဉ်းစားဘူး။ သဘာဝပတ်ဝန်းကျင်အရေးကိစ္စ၊ လူမှုအရည်အသွေးနဲ့ တစ်ဦးချင်းပျော်ရွှင်မှုတွေကိုလည်း တိုင်းတာတွက်ချက်ပုံမရဘူး။ ဒီကိစ္စအတွက် တခြားနေရာတွေမှာ ကြည့်ရမှာဖြစ်တယ် (အခန်း ၄၉ ကို ကြည့်ပါ)၊ ဒါပေမဲ့ နိုင်ငံတစ်နိုင်ငံရဲ့စီးပွားရေးအခြေအနေက တိုးတက်နေတာလား၊ ဒီလည်ထိုင်းမှိုင်းနေတာလားဆိုတာ ချက်ချင်းဖော်ပြနိုင်တဲ့နေရာမှာတော့ ဂျီဒီပီကို ယှဉ်နိုင်တဲ့ကိန်းဂဏန်းရယ်လို့ မရှိနိုင်ပါဘူး။

အနှစ်ချုပ်အတွေးအခေါ်

**တိုင်းပြည်စီးပွားရေးစွမ်းဆောင်ရည်ရဲ့ အဓိက စံပေတံ**

# ၃၈ — ဗဟိုဘဏ်များနှင့်အတိုးနှုန်းများ

## Central banks and interest rates

**ဗဟိုဘဏ်တာဝန်ရှိသူရဲ့အလုပ်က "ပါတီပွဲဆင်နွှဲလို့ကောင်းနေချိန်မှာ ယမကာအိုးကြီးကို အဝေးကို သယ်ထုတ်သွားဖို့ပဲ"လို့ William McChesney Martin တပြောခဲ့တယ်။ Federal Reserve အဖွဲ့ရဲ့ ဥက္ကဋ္ဌဟောင်းဖြစ်တဲ့ ဒီအထင်ကရပုဂ္ဂိုလ်ကြီးက စီးပွားရေးကို အရှိန်လည်းမတက်လွန်းစေ၊ စီးပွားပျက်ကပ်ထဲလည်းနစ်မြုပ်မသွားစေဖို့ရာ တိုင်းပြည်ရဲ့ ငွေကြေးပေါ်လစီဖြစ်တဲ့ အတိုးနှုန်းကို တာဝန်ယူစောင့်ရှောက်ရမယ့် ပုဂ္ဂိုလ်မှာ တာဝန်ရှိတယ်လို့ ဆိုလိုခဲ့တာဖြစ်တယ်။**

စီးပွားရေးကလည်း တဟုန်ထိုးတက်နေ၊ လုပ်ငန်းကိုင်ငန်းတွေကလည်း ဝံ့ချိန်တင်အမြတ်အစွန်းတွေရနေတဲ့အခါ ငွေကြေးဖေါင်းပွမှု ထိန်းမရ၊ ဘိမ်းမရဖြစ်လာနိုင်တဲ့ အန္တရာယ်ရှိပါတယ်။ အပေါ်မှာပြောခဲ့သလို၊ ပါတီပွဲတစ်ပွဲကို ယဉ်ယဉ်ကျေးကျေးနဲ့ ပြီးဆုံးသွားအောင်ကြိုးပမ်းဖို့က ဗဟိုဘဏ်ရဲ့ ရှောင်လွှဲမရတဲ့တာဝန်ပါပဲ၊ ဒီလိုဖြစ်ဖို့ရာ အများအားဖြင့်တော့ အတိုးနှုန်းကို မြှင့်တင်ပြီးကြိုးပမ်းကြပါတယ်။ အားလုံးအလွဲလွဲ အချော်ချော်ဖြစ်သွားပြီး စီးပွားရေးထိုးကျသွားရင်တော့ အတိုးနှုန်းတွေကို တစ်ခါပြန်လျှော့ချခြင်းအားဖြင့် မနက်ဖြန့်ခွယ်ရာနာကျင်ခံစားရမှုတွေကနေ တားဆီးပေးဖို့က သူတို့ရဲ့တာဝန်ပါပဲ။ ဒီအလုပ်က ခက်ခဲတဲ့အလုပ်ပါပဲ၊ ဘယ်အချိန်မှာမဆို စီးပွားရေးက ဘယ်လောက်မြန်မြန်တိုးပွားနေတယ်ဆိုတာ ဗဟိုဘဏ်တတောင် တိတိကျကျ မသိနိုင်ဘူးဆိုတာကိုလည်း ထည့်တွက်ထားရမှာဖြစ်ပါတယ်။

### ဗဟိုဘဏ်တွေအလုပ်လုပ်ပုံ

ဗြိတိသျှ ဗဟိုဘဏ်တွေအခြေတည်ဆုံးဖြတ်လိုက်တဲ့ ကိန်းဂဏန်းတွေဟာ သူတို့ကို မြသနာက ... ဗဟိုဘဏ်တွေအခြေတည်ဆုံးဖြတ်လိုက်တဲ့ ကိန်းဂဏန်းတွေဟာ သူတို့ကို ရာတ်ပြန်လိုက်ချိန်မှာ ရက်လွန်သွားတော့တာပါပဲ။ ကမ္ဘာတစ်လွှားမှာ အချိန်မဆိုင်းဘဲ ရက်ချင်းဆိုသလိုထုတ်ပြန်တတ်ကြတဲ့ ငွေကြေးဖေါင်းပွမှုကိန်းဂဏန်းတွေဟာ ပြီးခဲ့တဲ့လကို ရည်ညွှန်းတာဖြစ်တယ်။ ပိုပြီးအခြေခံကျကျပြောရရင် စီးပွားရေးမှာအပြောင်းအလဲတွေရဲ့ လက်တွေ့အကျိုးသက်ရောက်မှုတွေကို စာရင်းဇယားနဲ့ပေါ်လွင်လာဖို့ဆိုတာ အချိန်ယူရပါတယ်။ (ဥပမာ - ခရုံ၊ ဒါမှမဟုတ် သံ သတ္တုဈေးနှုန်းတွေကြီးလာတာက စားသုံးကုန်ဈေးနှုန်းတွေကို မြင့်တက်သွားစေဖို့အတွက် သီတင်းပတ်နှစ်ပတ် သို့မဟုတ် တစ်လလောက်ကြာတတ်တာကြောင့်ပါ)။ ဒါကြောင့် ဗဟိုဘဏ်တွေက စီးပွားရေးကိုမောင်းနှင်ရာမှာ ရှေ့မှန်ထက် နောက်ကြည့်မှန်ကို ကြည့်ပြီး မောင်းနှင်နေရတာဖြစ်ပါတယ်။

ကိုယ်ပိုင်ငွေကြေးရှိတဲ့နိုင်ငံတိုင်းနဲ့ အခွန်စည်းကြပ်နိုင်တဲ့အစိုးရတိုင်းမှာ ဗဟိုဘဏ်ရှိတယ်။ အမေရိကန်ဗဟိုဘဏ်လို့ အများခေါ်ကြတဲ့ the Fed တို့၊ အင်္ဂလန်ဘဏ်တို့ကနေစပြီး ' လူအများလေးစားယုံကြည်မှုရတဲ့ဆွစ်အမျိုးသားဘဏ်နဲ့ တီထွင်ဖန်တီးမှုအားကောင်းတဲ့ နယူးဇီလန် ရီဇာ့ဘဏ်တို့အထိ ပြောရရင် ဗဟိုဘဏ်တွေပါပဲ။ ဥရောပဗဟိုဘဏ်ကတော့ ယူရိုငွေကြေးသုံးစွဲတဲ့ ဥရောပသမဂ္ဂအဖွဲ့ဝင်နိုင်ငံအားလုံးအတွက် အတိုးနှုန်းကို သတ်မှတ်ပေးတယ်။ ဗဟိုဘဏ်အများစုဟာ သူတို့ရဲ့ ဦးဆောင်သူအကြီးအကဲတွေကို နိုင်ငံရေးသမားတွေက ခန့်အပ်ထားတာဖြစ်ပေမယ့် နိုင်ငံရေးကနေ လွတ်လွတ်ကင်းကင်းလည်ပတ်လုပ်ကိုင်ကြတယ်။ ဈေးကောက်ခံမဟုတ်တဲ့ ဒီပုဂ္ဂိုလ်တွေကို ယခုနိုက်တက်ကင်းဒမ်းနဲ့ ယူရိုငွေကြေးနယ်ပယ်မှာ (စားသုံးသူဈေးဆနှုန်းကိန်းငွေကြေးဖေါင်းပွမှုသတ်မှတ်ချက် ၂ ရာခိုင်နှုန်း စသဖြင့်) တရားဝင်လုပ်ပိုင်ခွင့်ကို တိတိကျကျ ဘောင်သတ်မှတ်ပေးထားတာရှိသလို၊ အမေရိကန်ပြည်ထောင်စုမှာတော့ (တိုးတက်မှုနဲ့ချမ်းသာကြွယ်ဝမှုအပြစ်တွယ်နိုင်မှာနေစေရန် ဆိုပြီး) ပရေပရာပိုးတပါး သတ်မှတ်ထားတာမျိုးကို တွေ့ရတယ်။

**အချိန်ပြဇယား:**

| ၁၆၆၈ | ၁၆၉၄ | ၁၉၁၃ | ၁၉၉၈ |
|---|---|---|---|
| ကမ္ဘာ့ပထမဆုံး ဗဟိုဘဏ် Riksbank ကို ဆွီဒင်မှာ တည်ထောင် | အင်္ဂလန်ဘဏ်ကို တည်ထောင် | အမေရိကန်ဖက်ဒရယ်ရီဇာ့အဖွဲ့ US Federal Reserve ကို ဝုဒ်ရိုး ဝီလဆင်က ဖွဲ့စည်းတည်ထောင် | ဥရောပဗဟိုဘဏ်ကို ယူရိုငွေကြေးစတင် ထုတ်ဝေရန် ကြိုတင်ပြင်ဆင်ဖို့ တည်ထောင် |

## ကြီးလေးကြီး

**Federal Reserve (US)** ၊ ဒီအဖွဲ့မှာ အဓိကဆုံးဖြတ်ချက်ချမှတ်တာက ဖက်ဒရယ်ပွင့်လင်း ဈေးကွက်ဖွင့်ကော်မတီ (Federal Open Market Committee) ဖြစ်တယ်။ အဖွဲ့မှာ ပြည်နယ်အလိုက်ဘဏ်ဒါရိုက်တာတွေက ကိုယ်စားလှယ်တွေနဲ့ ခန့်အပ်ခံရသူတွေပါဝင်တယ်။ ဥက္ကဋ္ဌကို သဘာပတိမှူးပြီး အဖွဲ့ဝင် ၁၂ ယောက်အုပ်စုက ကမ္ဘာ့အကြီးဆုံးစီးပွားရေးနိုင်ငံကြီးရဲ့ အတိုးနှုန်းတွေကို အဆုံးအဖြတ်ပေးပါတယ်။ ယခင်ဥက္ကဋ္ဌဟောင်း အလန်ဂရင်းစပန်ဟာ အင်မတန်ကြည်ညိုလေးစားခံရတာကြောင့် နှစ် ၂၀ နီးပါးကြာအောင် တာဝန်ထမ်းဆောင်ခဲ့ရတယ်။ သူ့ကို Oracle and Maestro ဆိုပြီး ချစ်စနိုးနဲ့ ခေါ်ကြတယ်။

ဥရောပဗဟိုဘဏ် (ECB)။ သူ့ရဲ့အတိုးနှုန်းကို အဖွဲ့ဝင် ၂၁ ဦးပါဝင်တဲ့ အုပ်ချုပ်ရေးကောင်စီက ဆုံးဖြတ်တယ်၊ ဒါပေမဲ့ နောက်ဆုံးဆုံးဖြတ်ချက်ကိုတော့ လက်တွေ့မှာ ECB ရဲ့ ဥက္ကဋ္ဌက ချမှတ်တယ်။

ဂျပန်ဘဏ် ၊ ကမ္ဘာ့ဒုတိယအကြီးဆုံးစီးပွားရေးနိုင်ငံဖြစ်တဲ့ ဂျပန်နိုင်ငံရဲ့ အတိုးနှုန်းကို ဂျပန်ဘဏ်က သတ်မှတ်တယ်၊ ဒုတိယကမ္ဘာစစ်ကတည်းက လွတ်လွတ်လပ်လပ် ရပ်တည်လာခဲ့ပေမယ့် တခြားဗဟိုဘဏ်တွေထက်စာရင် နိုင်ငံရေးအင်အားစုတွေရဲ့ ဖြအလွှမ်းမိုးမှုကို ပိုခံရတယ်လို့ တချို့စီးပွားရေးပညာရှင်တွေက သံသယရှိကြတယ်။

အင်္ဂလန်ဘဏ် ၊ အင်္ဂလန်ဘဏ်ဟာ ဒုတိယသက်တမ်းအရင့်ဆုံးဘဏ်ဖြစ်ပေမယ့် နိုင်ငံရေးသမားတွေရဲ့ ဖိုးမိုးခြယ်လှယ်မှုကနေ နောက်ဆုံးမှ လွတ်လပ်မှုရခဲ့တဲ့ဘဏ်တွေထဲမှာ တစ်ခုအပါအဝင်ဖြစ်တယ်၊ ၁၉၉၇ ခုနှစ်မှာ ဝန်ကြီးချုပ် ဂေါ်ဒွန်ဘရောင်းရဲ့ ဆုံးဖြတ်ချက်နဲ့ အစိုးရထိန်းချုပ်မှုကနေ လွတ်လပ်မှုရရှိခဲ့တာဖြစ်တယ်၊ အတိုးနှုန်းကို အဖွဲ့ဝင်ကိုးဦးပါဝင်တဲ့ ငွေကြေးမူဝါဒရေးရာကော်မတီ (MPC) က ဆုံးဖြတ်သတ်မှတ်တယ်၊ သူ့ရုံးစိုက်ရာ လန်ဒန်မြို့တော်က လမ်းကြားကို အစွဲပြုပြီး ဒီဘဏ်ကို Old Lady of Threadneedle Street လို့ ချစ်စနိုးနဲ့ခေါ်ကြတယ်။



## အတိုးနှုန်းက စီးပွားရေးကို ဘယ်လိုပုံပေါ်လဲ

ညှိနှိုင်းချက်တွေဟာ အချိန်နဲ့အမျှပြောင်းလဲနေပါတယ်။ ဥပမာ - ၁၉၈၀ နှစ်တွေမှာ ငွေကြေးထိန်းချုပ်ရေးဝါဒခေတ်စားစဉ်အချိန်က တချို့ဗဟိုဘဏ်တွေဟာ လည်ပတ်ငွေပမာဏ ဘယ်မှတ်အဆင့်တစ်ခုမှာ တိုးတက်မှုကို ထိန်းထားဖို့ ကြိုးပမ်းကြတယ်။ အခုခေတ်မှာတော့ ဗဟိုဘဏ်အများစုဟာ ငွေကြေးဖေါင်းပွမှုကို ထိန်းထားဖို့ ပိုပြီးစိတ်ဝင်တစားရှိကြတယ်၊ ဘယ်လိုပဲဖြစ်ဖြစ်၊ စီးပွားရေးကိုပြုအလွှမ်းမိုးနိုင်ဖို့ ဗဟိုဘဏ်ရဲ့ စိတ်တိုင်းကျသုံးနိုင်တဲ့ အဓိကလက်နက်ကတော့ အတိုးနှုန်းပါပဲ။

အတိုးနှုန်းနိမ့်ကျနေတာဟာ ယေဘုယျအားဖြင့်တော့ စီးပွားရေးတိုးတက်မှုလျှင်မြန်နေပြီး အကျိုးဆက်အနေနဲ့ ငွေကြေးဖေါင်းပွမှုတွေ မြင့်တက်လာမယ့်အလားအလာရှိတယ်လို့ ဆိုလိုတယ်၊ ဒီအခြေအနေမှာ ငွေစုတာဟာ အကျိုးအမြတ် သိပ်မရှိဘဲ၊ ငွေချေးတာ၊ ငွေသုံးတာတွေက ပိုပြီးဆွဲဆောင်မှုရှိတဲ့ ရွေးချယ်စရာတွေဖြစ်လာတယ်၊ အတိုးနှုန်းတွေမြင့်တင်လိုက်ခြင်းက ဒီအခြေအနေကို ပြောင်းပြန်ဖြစ်သွားစေတယ်။

ယေဘုယျအားဖြင့် ဗဟိုဘဏ်တွေဟာ တခြားသောပုဂ္ဂလိကဘဏ်တွေအနေနဲ့ သူတို့ကိုယ်ပိုင်အတိုးနှုန်းသတ်မှတ်နိုင်ဖို့ အခြေခံရမယ့်နှုန်းတစ်ရပ်ကို သတ်မှတ်ပေးကြတယ်၊ ဒီအခြေခံနှုန်းကို သတ်မှတ်ဖို့အတွက် ဗဟိုဘဏ်တွေက မူဝါဒချမှတ်သူတွေမှာ လက်တွေ့အမျိုးမျိုးရှိကြတယ်၊ ပထမတစ်ခုက သူတို့အနေနဲ့ အတိုးနှုန်းကို ပြောင်းလဲလိုက်တဲ့အခါ ပုဂ္ဂလိကဘဏ်တွေအနေနဲ့ အပေါင်စာချုပ်၊ ချေးငွေအတိုးနှုန်းနဲ့ စုဆောင်းငွေအတိုးနှုန်းတွေကို လိုက်ရောညီတွေပြုပြင်ပြောင်းလဲရတာပါ၊ ဒုတိယတစ်ခုကတော့ ဗဟိုဘဏ်တွေက ဈေးကွက်ဆိုင်းစစ်ဆင်ရေးတွေ (open-market operations) ကို လုပ်ဆောင်တာပါ။ သဘာကတော့ ဘွန်းစာချုပ်ဈေးကွက်ကနေတစ်ဆင့် အတိုးနှုန်းကိုလွှမ်းမိုးနိုင်ဖို့ အစိုးရငွေချေးစာချုပ်တွေကို အရောင်းအဝယ်ဝင်လုပ်တာပါပဲ (အခန်း ၂၇ ကိုကြည့်ပါ)။ တတိယတစ်ခုက စီးပွားရေးဘဏ်တွေအားလုံးဟာ ဗဟိုဘဏ်ရဲ့ငွေတိုက်တွေထဲမှာ သူတို့ကိုယ်ပိုင်ငွေသားဝေစုတချို့ကို အရန်ငွေအဖြစ်သိုလှောင်ထားရဖို့ တာဝန်ရှိတဲ့အချက်အပေါ် အမြတ်ထုတ်တာပါ၊ ဗဟိုဘဏ်တွေအနေနဲ့ ဒီအရန်ငွေတွေအပေါ်ပေးရမယ့် အတိုးနှုန်းကို အပြောင်းအလဲလုပ်နိုင်သလို၊ အရန်ငွေပမာဏ အတိုးအလျှော့လုပ်ဖို့လည်း အမိန့်ပေးနိုင်ပါတယ်။ ဒီနည်းနဲ့ ငွေဘယ်လောက်များများ ချေးပေးစေချင်လဲဆိုတဲ့အပေါ်

လွှမ်းမိုးထားနိုင်သလို၊ အတိုးနှုန်းကိုလည်း ထိန်းချုပ်ထားနိုင်ပါတယ်။

ဒီလိုတွေရဲ့ ရှေ့မပြေးသနားက သူတို့ဆွဲလိုက်တဲ့ခလုတ်အပေါ် စားသုံးသူတွေရဲ့ ဒီလိုတွေရဲ့ ရှေ့ဆက်ပြီး လည်ပတ်မှုတွေ ဆက်တော ဆက်ကာဖြစ်လာမှာကို မမြင်နိုင်တာပဲ။ ဒါကနေရာတကာမှာရှိနေတဲ့ဘဏ်တွေရဲ့ငွေချေးစရိတ်တွေကို အပြောင်းအလဲဖြစ်သွားစေနိုင်တယ်၊ ဒီလိုခလုတ်တွေရဲ့ အသေးစိတ်အချက်အလက်တွေက ဘဏ်တစ်ဘဏ်၊ ဒါမှမဟုတ် ဘဏ်တွေကိုပြိုလဲသွားစေတဲ့အခါ ငွေကြေးရေးကွက်တွေကိုပါ ရှုပ်ထွေးမှုတွေဖြစ်သွားစေနိုင်တယ် (အခန်း ၄၄ ကို ကြည့်ပါ)။

ဘဏ်တွေအနေနဲ့ အတိုးနှုန်းနဲ့ ဆိုင်တဲ့ဆုံးဖြတ်ချက်တွေကို တစ်လတစ်ကြိမ်၊ နှစ်လတစ်ကြိမ်လုပ်လေ့ရှိပေမယ့် သူတို့ရဲ့ ညွှန်ကြားမှုတွေ တကယ်အလုပ်လုပ်ကြောင်း သေချာစေဖို့ ဈေးကွက်ထဲက တကယ့်ချေးငွေနှုန်းထားတွေကို စောင့်ကြည့်စစ်ဆေးနေတဲ့ ဝန်ထမ်းတွေရာနဲ့ချီပြီး သူတို့မှာရှိနေတယ်။ ၂၀၀၀ နှစ်တွေရဲ့ နောက်ပိုင်း၊ ဘဏ္ဍာရေးအကျပ်အတည်း ကာလတွေအတွင်းမှာ ကမ္ဘာအနှံ့က ဗဟိုဘဏ်တွေဟာ စီးပွားရေးလည်ပတ်မှုတွေထဲကို ထပ်ဆောင်းငွေကြေးတွေ ထိုးသွင်းဖို့ ဆန်းသစ်တဲ့နည်းလမ်းတွေကို တီထွင်ဖန်တီးလာကြတယ်၊

ငွေကြေးဖောင်းပွမှုဆိုတာ အတိုးနှုန်းတစ်ခုတည်းကြောင့်တော့ ဖြစ်လာတာမဟုတ်ဘူး။ ပိုပြီးမြင့်မားတဲ့ အတိုးနှုန်းတွေက နိုင်ငံရဲ့ငွေကြေးကိုပိုခိုင်မာစေတယ်၊ အကြောင်းက ကမ္ဘာတစ်လွှားက ရင်းနှီးမြှုပ်နှံသူတွေဟာ သူတို့ရဲ့ငွေသားတွေကို အတိုးနှုန်းမြင့်တဲ့ဘဏ်တွေမှာ အပ်နှံကြတာကြောင့်ပဲ၊ အဆိုးဘက်ကကြည့်ရင်တော့ ပိုခိုင်မာတဲ့ငွေကြေးက နိုင်ငံရပ်ခြားက စားသုံးသူတွေအတွက် နိုင်ငံခြားပို့ကုန်တွေကို ပိုပြီးဈေးကြီးသွားစေတာပါပဲ။

## ဘဏ္ဍာရေးစနစ်ကို အထောက်အကူပြုခြင်း

ဗဟိုဘဏ်တွေရဲ့အခန်းကဏ္ဍက အတိုးနှုန်းကိုထိန်းချုပ်ပေးဖို့တင်မကဘူး။ ဒီထက်ပိုပြီးကျယ်ပြန့်တယ်။ စီးပွားရေးလည်ပတ်မှုရဲ့ အရင်းခံဖြစ်တဲ့ဘဏ္ဍာရေးစနစ်ကို ခိုင်မာတောင့်တင်းစေဖို့လည်းတာဝန်ရှိတယ်။ ဒါကြောင့် စီးပွားရေးလိုင်းလေထန်တဲ့ ကာလတွေမှာ သူတို့ဟာ နောက်ဆုံးအားထားစရာငွေထုတ်ချေးသူတွေအဖြစ်လည်း လုပ်ဆောင်ကြရတယ်၊ ဥပမာ - စီးပွားရေးအခြေအနေတွေအားလုံးကောင်းနေတဲ့ အခါဘဏ်တွေဟာ သူတို့ရဲ့ပိုက်ဆံတွေဆီကနေ လွယ်လွယ်ကူကူ၊ သက်သက်သာသာနဲ့



ငွေချေးနိုင်ကြတာကြောင့် ဗဟိုဘဏ်ရဲ့အခန်းကဏ္ဍက မရှိမဖြစ်အရေးပါတာမျိုး မဟုတ်သေးပါဘူး။ တခြားအချိန်မျိုးတွေမှာဆိုရင်တော့ ဗဟိုဘဏ်ရဲ့အရေးပေါ် ငွေထုတ်ချေးမှုဟာ မဖြစ်မနေလိုအပ်တဲ့အသက်ကယ်အင်္ကျီတစ်ထည်ဖြစ်လာတော့တာပါပဲ။

၂၀၀၈ ခုနှစ် ဘဏ္ဍာရေးအကျပ်အတည်းဝယက်ရိုက်မှုတွေထဲက တစ်ခုက ဒုက္ခရောက်နေတဲ့ဘဏ်တွေကိုကယ်တင်ဖို့ ဗဟိုဘဏ်ရဲ့နောက်ဆုံးအားထားရာ ငွေထုတ်ချေးသူဆိုတဲ့အခန်းကဏ္ဍကို တိုးမြှင့်လုပ်ဆောင်ဖို့ တွန်းအားပေးခဲ့ကြတာပါ။ ထယ်စုနှစ်ချီကြာမြင့်ခဲ့တဲ့ အစဉ်အလာကို ချိုးဖျက်ရာမှာ အမေရိကန်ဗဟိုဘဏ် (the Fed) အနေနဲ့ ငွေကြေးဖောင်းပွမှုတနေ ကာကွယ်ဖို့ ရှယ်ယာတွေဝယ်ယူရန် ပုံဆောင်းထားတဲ့ရန်ပုံငွေ (hedge fund)တွေကို ငွေသား တိုက်ရိုက်အားဖြည့် ထောက်ကူပေးမှုတွေ ထောင်ခဲ့တယ်။ အကြောင်းက ငွေချေးဖို့ မဖြစ်နိုင်သလောက်နီးနီး ဖြစ်နေတာကို အစိုးရကလွဲလို့ လူတိုင်းကြုံခဲ့ရတာကြောင့်ပဲ။ သူတို့ဟာအတ်ဆက်တွေကိုလည်း တစ်သိမ်းကျုံးဝယ်ယူခဲ့ကြပြီး စီးပွားရေးထဲကို ငွေသားအပိုတွေ ထပ်ဆောင်းထည့်သွင်းခဲ့ကြတယ် (အခန်း ၂၀ ကိုကြည့်ပါ)၊

ဒီပေမဲ့ စီးပွားရေးဘာသာရပ်မှာ အမြဲပြောခဲ့သလိုပါပဲ၊ စားသုံးသူတွေအတွက်ပဲဖြစ်ဖြစ်၊ ဘဏ်တွေအတွက်ပဲဖြစ်ဖြစ် အလကားရတဲ့နေ့လည်စာဆိုတာမရှိပါဘူး။ ဒီလိုကြီးမားတဲ့ရက်ရောမှုတွေက အနာဂတ်မှာ ပိုပြီးတင်းကျပ်တဲ့စည်းမျဉ်းသတ်မှတ်ချက်တွေကို ဖြစ်သွားစေခဲ့တာပါပဲ။ အတိုးနှုန်းဟာ ဗဟိုဘဏ်တွေအတွက်တော့ အဓိကကျတဲ့ မူဝါဒရေးရာ လက်နက်အဖြစ်ဆက်ပြီးရှိနေဦးမှာပါ၊ ဒါပေမဲ့ ဘဏ္ဍာရေးစနစ်ကို စောင့်ကြည့်စစ်ဆေး ထိန်းကျောင်းဖို့ သူတို့ရဲ့ပါဝါကလည်း အများကြီးအထောက်ပံ့ရနေဦးမှာပါပဲ။

အနှစ်ချုပ်အတွေးအခေါ်

**ဗဟိုဘဏ်တွေက စီးပွားရေးကို စွန့်ပွင့်ခြင်းနဲ့ တင်သောင်းတနင်းဖြစ်ခြင်းက ကင်းဝေးအောင် ပဲ့ကိုင်မောင်းနှင်တယ်**

# ၁၉ – ငွေကြေးဖေါင်းပွမှု

## Inflation

ငွေကြေးဖေါင်းပွမှုက ခင်ဗျားသွားတွေကို သန့်ရှင်းပေးနိုင်သလို၊ ရိုက်ချိုးဖျက်ဆီးလိုက်သလိုမျိုးလည်း ဖြစ်သွားနိုင်ပါတယ်။ ဒါက ခင်ဗျားနားဆောင်ရတဲ့သူပေါ်မှာ မူတည်ပါတယ်။ အမေရိကန်သမ္မတဟောင်းရော်နယ်ရေဂင်က ငွေကြေးဖေါင်းပွမှုဟာ ထိုးကြိတ်ရိုက်နှက်သူတစ်ယောက်လို အကြမ်းဖက်တယ်၊ လက်နက်ကိုင်ဓားပြတစ်ယောက်လိုမျိုးလည်း ကြောက်ရွံ့ထိတ်လန့်ရကောင်းတယ်၊ လူသတ်သမားတစ်ယောက်လိုလည်း သေစေတဲ့အထိ ရန်ပြုနိုင်တယ်လို့ ဆိုခဲ့တယ်။ ဂျာမနီဗဟိုဘဏ် ဥက္ကဋ္ဌဟောင်း Karl Otto Pöhl ကတော့ ငွေကြေးဖေါင်းပွမှုဆိုတာ သွားတိုက်ဆေးလိုပဲ၊ တစ်ခါညှစ်လို့ထွက်လာပြီးရင် ပြန်သွင်းဖို့ မလွယ်တော့ဘူးလို့ဆိုတယ်။

ဈေးနှုန်းတွေတက်လာတဲ့ဖြစ်ရပ်ဖြစ်တဲ့ ငွေကြေးဖေါင်းပွမှုဟာ တစ်ချိန်လုံးအသက်က ပြောသလိုဖြစ်နေတာတော့ မဟုတ်ပါဘူး။ ဈေးနှုန်းတွေကို အပြောင်းအလဲရှိရှိနဲ့ တဖြည်းဖြည်းချင်းပဲ တက်အောင်ထိန်းချုပ်ထားနိုင်ဖို့က ဗဟိုဘဏ်တွေနဲ့ အစိုးရတွေရဲ့ အရေးအကြီးဆုံးအခန်းကဏ္ဍမဟုတ်ရင်တောင်၊ အရေးကြီးတဲ့ အခန်းကဏ္ဍတွေထဲက တစ်ခုဖြစ်လာခဲ့တယ်။ ဒါပေမဲ့ ငွေကြေးဖေါင်းပွမှုဟာ ထိန်းချုပ်မှုတွေကနေ ရုန်းထွက်ဖို့ မနစ်မြုံရကောင်းလောက်အောင် တိမ်းညွှတ်ယိမ်းယိုင်နေနိုင်တယ်။

### ဖေါင်းပွမှုအသင့်အင့်

အချိန်ဖြဇယား: ငွေကြေးဖေါင်းပွမှုကို အမြဲတမ်းနှစ်အလိုက်အခြေခံပြီးဖေါ်ပြကြတယ်။



ငွေကြေးဖေါင်းပွမှုနှုန်းဆိုတာ စီးပွားရေးတစ်ခုလုံးမှာရှိတဲ့ ဈေးနှုန်းတွေဟာ ဒါကြောင့် ၃% ငွေကြေးဖေါင်းပွမှုနှုန်းဆိုတာ လွန်ခဲ့တဲ့ ၁၂ လ တာထက် ၃ % ပိုတက်လာတယ်လို့ ဆိုလိုတယ်။

စီးပွားရေးတစ်ရပ်ကို အခြေအနေကောင်းစေမလား၊ အလွန်အကျွံလှုပ်ရှားတက်ကြွနေစေမလား၊ တစ်ဟုန်ထိုးကျဆင်းသွားစေမလားဆိုတာကို ငွေကြေးဖေါင်းပွမှုက ပုံဖေါ်ပေးနိုင်တယ်၊ စီးပွားရေးအထွတ်အထိပ်ကိုရောက်နေခြင်းက ငွေကြေးဖေါင်းပွမယ့်ဘေးအန္တရာယ်ထဲကို ကျရောက်သွားစေနိုင်ပြီး ဈေးနှုန်းတွေတက်လာဖို့ အလားအလာကောင်းဖြစ်စေတယ်။ ဈေးနှုန်းတွေခေါင်ခိုက်တဲ့အထိတက်သွားပြီး ဟိုက်ပါအင်ဖလေးရှင်းတောင်မှဖြစ်သွားစေနိုင်တယ်။ ၁၉၂၀ နှစ်တွေမှာ ဂျာမနီကို ဟိုက်ပါအင်ဖလေးရှင်းဖြစ်စေခဲ့ပြီး ရာစုသစ်ရဲ့ ပထမဆယ်စုနှစ်တွေအတွင်းမှာလည်း ဇင်ဘာဘွေနိုင်ငံဟာ ဒီဒုက္ခကို ခံစားခဲ့ရတယ်။ ဟိုက်ပါအင်ဖလေးရှင်းဖြစ်တယ်ဆိုတာ တစ်လအတွင်း အနည်းဆုံး ၅၀ % ကျော် ဈေးနှုန်းတွေတက်သွားတာမျိုးကို ဆိုလိုတယ်၊ တစ်ခါတစ်ရံဒီထက်မကတောင် တက်သွားနိုင်တယ်။ ဂျာမနီမှာတော့ ၁၉၂၃ မှာ ဟိုက်ပါအင်ဖလေးရှင်းက အထွတ်အထိပ်ကို ရောက်ခဲ့တာကြောင့် မတက်သာတဲ့အဆုံးမှာ ၁၀၀ ထရီလီယံတန်ငွေစက္ကူတွေ ထုတ်ပြီး ပြေရှင်းခဲ့ရတယ်။

ငွေကြေးဖေါင်းပွမှု ၂၀ % လောက်ပြန့်ပြီးနိမ့်ကျလာတာတောင်မှ အန္တရာယ်ရှိနိုင်သေးတယ်။ အထူးသဖြင့် ၁၉၇၀ နှစ်တွေက ယူအက်စ် နဲ့ ယူကေမှာ ငွေကြေးဖေါင်းပွမှုနဲ့အတူ စီးပွားရေးတိုးတက်မှု ကျဆင်းလာခဲ့တယ်၊ ဒါကို ဗေဒဗေဒုယျအားဖြင့် စီးပွားရေးအီလည်ရပ်တန့်နေခြင်း (stagflation)လို့ ထိကြတယ် (တိုးတက်မှုရပ်တန့်ပြီး ဖေါင်းပွမှုမြင့်တက်နေတဲ့ အခြေအနေမျိုးဖြစ်တယ်)။ ဒီအခြေအနေကြောင့် ယူအက်စ် နဲ့ ယူကေမှာ နှစ်အတန်ကြာအောင် အလုပ်လက်မဲ့နှုန်းမြင့်တက်ခဲ့ပြီး လုပ်ငန်းဒေဝါလီခံမှုတွေနဲ့ ကြုံတွေ့ခဲ့ရတယ်။ အတိုချုပ်ပြောရရင်တော့ ငွေကြေးဖေါင်းပွမှုက ဂုဏ်ယူဖွယ်ကြွယ်ဝရကောင်းမွန်တဲ့ စီးပွားရေးတွေကို တစ်ချက်တည်းနဲ့ ဖျက်စီးပစ်လိုက်နိုင်တဲ့ စွမ်းအားရှိတယ်လို့ ဆိုရမယ်။

| ၁၇၇၃-၁၇၉၆ | ၁၉၂၀ နှစ်များ | ၁၉၃၀ | ၁၉၇၀ နှစ်များ | ၂၀၀၈ |
|---|---|---|---|---|
| အမေရိကန်ပြည်တွင်း စစ်နောက်က မဟာစီးပွား ပျက်ကပ်ကြီးလိုက်ပါလာ | ပထမကမ္ဘာစစ်အပြီးမှာ ဂျာမနီနိုင်ငံဟာ ခေါင်ခိုက်အောင်ကုန်ဈေးနှုန်းတက်မှု (hyperinflation)ကို ခံစားရ | မဟာစီးပွားပျက်ကပ်ကာလအတွင်းမှာ [illegible] ဗြိတိန်နဲ့ ကမ္ဘာ့နိုင်ငံတွေဟာ ငွေကြေး[illegible] tion) တောင်ရောက်သွားပါတယ်[illegible] | ယူအက်စ် နဲ့ ယူကေမှာ ရေနံအကျပ်အတည်းက ငွေကြေးဖေါင်းပွမှုကို ၂၀ % ကျော် မြင့်တက်စေခဲ့တယ် | ဇင်ဘာဘွေနိုင်ငံဟာ ခေါင်ခိုက်အောင်ကုန်ဈေး နှုန်းတက်မှုနဲ့ကြုံရချိန်မှာ ၁၀၀ ထရီလီယံတန် ငွေစက္ကူကို ရိုက်နှိပ်ထုတ်ဝေခဲ့တယ် |

## ငွေကြေးဖောင်းပွမှုအတိုင်းအတာအမျိုးမျိုး

**စားသုံးသူဈေးဆနှုန်းကိန်း (CPI)**။ စားသုံးသူဈေးဆနှုန်းကိန်းဆိုတာဗြိတိန်၊ အမေရိကန်ပြည်ထောင်စု၊ ဥရောပနဲ့ တခြားကမ္ဘာ့နေရာအနှံ့အပြားမှာ အများဆုံးသုံးစွဲကြတဲ့ ငွေကြေးဖောင်းပွမှုတိုင်းတာပုံဖြစ်တယ်။ တရင်းအင်းပညာရှင်တွေက နိုင်ငံအနှံ့က ဈေးဆိုင်တွေ၊ စီးပွားရေးလုပ်ငန်းတွေကို သွားရောက်ပြီး လအလိုက်တွက်ချက်ကြတယ်။ ကုန်စည်နဲ့ဝန်ဆောင်မှု ဈေးနှုန်းတွေဘယ်လောက် မြန်မြန်တက်သွားလဲဆိုတာ စစ်ဆေးကြတာဖြစ်တယ်။

**လက်လီဈေးဆနှုန်းကိန်း (RPI)**။ လက်လီဈေးဆနှုန်းကိန်းကို နေထိုင်မှုစရိတ်တွေကို ပိုပြီးကျယ်ကျယ်ပြန့်ပြန့်တိုင်းတာဖို့ ယူနိုက်တက်ကင်းဒမ်းမှာ အသုံးပြုတယ်။ ဒီညွှန်းကိန်းမှာ အပေါင်စာချုပ်ငွေပြန်ဆပ်မှုတွေနဲ့ အတိုးနှုန်းလိုမျိုး အိမ်ပိုင်ဆိုင်မှုတွေနဲ့ ဆက်စပ်မှုရှိတဲ့ စရိတ်တွေပါဝင်တယ်။

**ဂျီဒီပီဒီဖလေတာ (GDP deflator)**။ ဈေးနှုန်းတွေကို အကျယ်ပြန့်ဆုံးတိုင်းတာမှုပဲ။ ဒီတိုင်းတာမှုက စီးပွားရေးတစ်ရပ်လုံးမှာရှိတဲ့ ကုန်စည်နဲ့ဝန်ဆောင်မှုတွေရဲ့စရိတ်တွေကို ခန့်မှန်းအကဲဖြတ်ပေးတယ်၊ ဒါပေမဲ့ ဒီတိုင်းတာမှုက CPI နဲ့ RPI ကိန်းဂဏန်းတွေထက် အချိန်ကြာမှ ထုတ်ပြန်မှုနောက်ကျတယ်။

**ထုတ်လုပ်သူဈေးဆနှုန်းကိန်း (PPI)**။ ဒီညွှန်းကိန်းက ထုတ်လုပ်သူတွေအတွက် ကုန်ကြမ်းကုန်ကျစရိတ်နဲ့ ကုန်ချောအတွက် လက်လီရောင်းချသူတွေဆီက တောင်းခံတဲ့ဈေးနှုန်းနှစ်မျိုးစလုံးကို တိုင်းတာတယ်။ ဒီညွှန်းကိန်းဟာ ငွေကြေးဖောင်းပွမှုဖြစ်တော့မယ်ဆိုတာကို အချက်ပြပေးတယ်။

**တခြားအညွှန်းကိန်းများ**။ နောက်ထပ်ပိုပြီးအသေးစိတ်ကျတဲ့ အညွှန်းကိန်းတွေ အများကြီးရှိတယ်။ ဒီထဲမှာ အိုးအိမ်ဈေးနှုန်းအညွှန်းကိန်းတွေနဲ့ ကုန်စည်နဲ့ဝန်ဆောင်မှု ဈေးနှုန်းအညွှန်းကိန်းတွေပါဝင်တယ်။



### အကြောင်းနဲ့အကျိုး

ငွေကြေးဖောင်းပွမှုက လူမှုရေးနဲ့ စီးပွားရေးအခြေအနေနှစ်မျိုးစလုံးနဲ့ ပတ်သက်တဲ့အရာတွေကို ပြောပြနိုင်တယ်။ အိမ်ထောင်စုတွေရဲ့ ဝင်ငွေတိုးတက်လာနေတဲ့နှုန်းနဲ့ နေထိုင်မှုစရိတ်တွေ ဘယ်လောက်မြန်မြန်မြင့်တက်လာနေတယ်ဆိုတာ နှိုင်းယှဉ်ကြည့်ပြီး လူ့အဖွဲ့အစည်းရဲ့ နေထိုင်မှုအဆင့်အတန်းတိုးတက်လာတဲ့နှုန်းကို တွက်ချက်နိုင်တယ်။ ငွေကြေးဖောင်းပွမှုက နေထိုင်မှုအဆင့်အတန်းတိုးတက်လာတဲ့နှုန်းကို ကျော်လွန်နေရင် သူတို့ရဲ့ နေထိုင်မှုအဆင့်အတန်းက ဒီသားစုတွေရဲ့လုပ်ခတို့ ကျော်လွန်နေရင် သူတို့ရဲ့ နေထိုင်မှုအဆင့်အတန်းက ကျဆင်းသွားတယ်လို့ ဆိုရမယ်။ လူတွေဟာ သူတို့အရင်က ဝယ်နိုင်သလောက် ကုန်ပစ္စည်းတွေကို များများစားစား မဝယ်နိုင်တော့ဘူး။ လုပ်ခလစာတွေက ဖောင်းပွမှု ထက်ကျော်လွန်မြင့်တက်လာတဲ့အခါ၊ သူတို့ရဲ့ပုံမှန်ကုန်ကျစရိတ်တွေကို သုံးစွဲပြီးတဲ့အခါ

လူတွေမှာ ငွေပိုတွေကျန်နေမှာဖြစ်ပြီး
ဒါက သူတို့ရဲ့လူနေမှုအဆင့်အတန်းကို မြှင့်တက်စေတယ်။

❝ငွေကြေးဖောင်းပွခြင်းဆိုတာ
ဥပဒေမဲ့အခွန်ကောက်ခံခြင်းတစ်မျိုးပဲ❞

မီလတန်ဖရိုင်းမင်း

စီးပွားရေးတစ်ရပ် လျင်လျင်မြန်မြန်တိုးတက်လာတဲ့အခါ
အလုပ်သမားတွေအဖို့ လစာတွေတိုးလာမယ်။
ဒါက သူတို့ကို ကုန်စည်နဲ့ ဝန်ဆောင်မှုတွေအတွက်
ငွေကြေးပိုပြီးသုံးစွဲစေလိမ့်မယ်။ ဒီအခါမှာ ဝယ်လိုအားတွေ

တိုးလာတာကြောင့် ဈေးနှုန်းတွေတက်လာလိမ့်မယ်။ အလားတူပဲ စီးပွားရေးကျဆင်းလာရင်လည်း ဝယ်လိုအားတွေကျလာပြီး ဈေးနှုန်းတွေကျလာလိမ့်မယ်၊ ဈေးနှုန်းတွေမကျခဲ့ရင်တောင်မှ တက်တဲ့နှုန်းက နှေးသွားမှာပဲဖြစ်တယ်။

ဝယ်လိုအားကြောင့်သက်သက်တင်မကဘဲ၊ လူတွေသုံးစွဲနိုင်တဲ့ငွေကြေးပမာဏကလည်း ဈေးနှုန်းတွေအပေါ် သက်ရောက်မှုရှိတယ်။ (ငွေစက္ကူတွေပိုပြီး ရိုက်နှိပ်လို့ပဲဖြစ်ဖြစ်၊ ဘဏ်တွေက ငွေတွေပိုထုတ်ချေးလို့ပဲဖြစ်ဖြစ်) ငွေကြေးပမာဏတိုးလာရင် ကုန်စည်ပမာဏတုတူချင်းအပေါ်မှာပဲ လိုက်ဝယ်တဲ့ငွေကြေးက ပိုများလာလိမ့်မယ်။ ဒါကလည်း ဈေးနှုန်းတွေကို တက်စေတာပါပဲ၊ ဒီဖြစ်စဉ်အပေါ် ဘယ်လို တိတိကျကျထွန်းမိုးမှု ရှိသလဲဆိုတာနဲ့ပတ်သက်တဲ့အငြင်းအခုံကတော့ ၂၀ ရာစုရဲ့ အထင်ကရစီးပွားရေးပညာရှင်တွေ ဖြစ်တဲ့ငွေကြေးထိန်းချုပ်ရေးဝါဒီတွေနဲ့ကိန်းဝါဒီတွေကြားက တိုက်ပွဲပါပဲ (အခန်း ၃၃ နဲ့ ၁၀ ကိုကြည့်ပါ)။

"စီမံခန့်ခွဲမှုအားနည်းနေတဲ့တိုင်းပြည်တစ်ပြည်အတွက် ပထမဆုံးက ငွေကြေးဖောင်းပွမှုဖြစ်ပြီး ဒုတိယကတော့ စစ်ပွဲပါပဲ။ ဒီနှစ်ခုစလုံးကတော့ ယာယီအကျိုးအတာနဲ့ကြီးပွားချမ်းသာမှုနဲ့ထာဝရပျက်စီးမှုကို ဖြစ်စေပါတယ်။ ဒါပေမဲ့ ဒီနှစ်ခုစလုံးဟာ စီးပွားရေးနဲ့ နိုင်ငံရေးအခွင့်အလမ်းဝါဒီတွေရဲ့ကြွန်းခိုရာပါပဲ။"

အားနက်စ် ဟဲမင်းဝေး

## အမြဲတမ်းငွေကြေးဖောင်းပွနေလား

ဈေးနှုန်းတွေက အမြဲတမ်းတက်နေတာပဲလား၊ ရှိမြဲအတိုင်းရော ရှိမနေနိုင်ဘူးလားဆိုတာ မကြာခဏမေးလေ့ရှိတဲ့မေးခွန်းတစ်ခုပဲ။ ဘာကြောင့်လဲ ဆိုတော့ ဈေးနှုန်းတွေဟာ ရပ်တန့်နေနိုင်ပါတယ်၊ သမိုင်းမှာလည်း ဒီလိုရှိနေခဲ့ဖူးပါတယ်။ စီးပွားရေးကို လည်ပတ်ဖို့အတွက် ငွေကြေးဖောင်းပွမှုဆိုတာ သဘောတရားအရမလိုအပ်ပေမယ့် နိုင်ငံရေးသမားတွေကတော့ အကြောင်းအမျိုးမျိုးနဲ့ ငွေကြေးဖောင်းပွမှုတွေကို နည်းနည်းတော့ ဖြစ်စေချင်ပုံရတယ်။

ပထမဆုံးနဲ့အရေးအကြီးဆုံးအချက်က ငွေကြေးဖောင်းပွမှုဟာ လူတွေကို ငွေစုဖို့ထက် ငွေသုံးဖို့ကို ပိုပြီးအားပေးတယ်။ အကြောင်းက လက်ထဲကငွေကြေးရဲ့တန်ဖိုးဟာ တဖြည်းဖြည်းချင်း ဆုတ်ယုတ်ကျဆင်းသွားတာကြောင့်ပဲ။ ဒီအချိန်အပုန်နဲ့ ရေ့ဝိုးသွားဖို့အတိုင်းအတာတစ်ခုအထိတော့ ခေတ်သစ်အရင်းရှင်စီးပွားရေးမှာ လိုအပ်တယ်။ ရေရှည်မှာ ဒါက ကုမ္ပဏီတွေကို နည်းပညာသစ်တွေအတွက် ရင်းနှီးမြှုပ်နှံဖို့ တွန်းအားဖြစ်စေတာကြောင့်ပဲ။ ဒါပေမဲ့ ငွေကြေးဖောင်းပွမှုက အကြွေးတွေကိုလည်း လျော့ပါးသွားစေတယ်၊ ကြွေးတင်နေတဲ့အစိုးရတွေအားလုံးဟာ သူတို့ပေးဆပ်ရမယ့်ငွေပမာဏကို သိသိသာသာ လျော့ကျသွားစေဖို့ ငွေကြေးဖောင်းပွမှုတွေမြင့်တက်လာစေချင်ကြတယ်။

ငွေကြေးဖောင်းပွမှုဆိုတာ အတိုးနှုန်းတွေနဲ့အလားတူပါပဲ (အခန်း ၁၈ ကိုကြည့်ပါ)။ လူတွေဟာ အတိုးနှုန်းလျော့ကျသွားတာထက် အတိုးနှုန်းတက်တာနဲ့ပိုပြီး အသားတကျရှိကြတယ်။ ဘဏ်တွေရဲ့သမိုင်းမှာ (တမျှမှာအတိုးနှုန်းတွေကျနေတာကြောင့်) လူတွေကို ငွေစုဖို့တိုက်တွန်းခဲ့ပြီး ငွေထုတ်ချေးဖို့ လုပ်ဆောင်ခဲ့တဲ့သက်သေသာဓကနည်းနည်းပဲ ရှိခဲ့ဖူးပါတယ်။ အကျပ်အတည်းတွေဖြစ်နေချိန်မှာသာ လူတွေကို ငွေစုဖို့ထက် ငွေသုံးဖို့ တွန်းအားပေးတာက အရေးတကြီးလိုအပ်တာပါ။



နောက်ဆုံးအချက်ကတော့ လူတွေဟာ ပင်ကိုအားဖြင့် လုပ်ခလစာတွေတိုးလိုချင်ကြတယ်၊ ဒါက ရှုသာတာပေါ့ပဲ၊ လူတွေဟာ တိုးတက်ဖို့ ရှန်းကန်လှုပ်ရှားကြတယ်။ ဈေးနှုန်းတွေအနည်းနဲ့အများဆိုသလို တည်ငြိမ်နေတာတောင်မှ နှစ်အလိုက် ရပ်တန့်နေတဲ့လစာတွေကို သိပ်ပြီးသည်းမခံနိုင်ကြဘူး။

## ငွေကြေးဖောင်းပွမှု လှေကားထစ်များ

တစ်ခါတစ်ရံမှာဈေးနှုန်းတွေက တစ်ဆင့်ပြီးတစ်ဆင့် မြင့်သထက်မြင့်တက်လာတယ်။ ဒါကို ယေဘုယျအနေနဲ့တော့ ဖောင်းပွမှုလှေကားထစ်များလို့ ခေါ်ကြတယ်။ ငွေကြေးဖောင်းပွမှုပိုမြင့်လာမလား၊ လူနေမှုအဆင့်အတန်းပိုဆိုးရွားလာတာကိုသိတဲ့ အလုပ်သမားတွေကြားမှာ မကျေနပ်မှုတွေပိုပြီး တိုးလာလေပဲ။ သူတို့က လုပ်ခလစာတွေကို ငွေတောင်းဆိုကြလို့ ငွေပို ငွေလျှံတွေကို သူတို့ သုံးစွဲလာနိုင်ရင် တစ်ဖက်ကလည်း ငွေကြေးဖောင်းပွလာစေသေးတယ်၊ ဈေးနှုန်းတွေက လိုက်မြင့်တက်လာတယ်။ ဒါကပိုလို့တောင် ငွေကြေးဖောင်းပွလာစေသေးတယ်၊ ဒီတော့ အလုပ်သမားတွေအဖို့လည်း သူတို့အလုပ်ရှင်တွေဆီမှာ တစ်ခါပြန်ပြီး လစာတိုးတောင်းရပြန်တယ်။

လွန်လွန်ကဲကဲငွေကြေးဖောင်းပွခြင်း၊ ဒါမှမဟုတ် လွန်လွန်ကဲကဲငွေကျံခြင်း (အခန်း ၂၀ ကိုကြည့်ပါ) ရဲ့ အခြေခံပြဿနာက စီးပွားရေးကို ကြောက်စရာကောင်းလောက်အောင် မတည်မငြိမ်ဖြစ်စေနိုင်တာပါပဲ။ ဈေးနှုန်းတွေ ဘယ်လောက်မြန်မြန်ဆန်ဆန်ကျဆင်းသွားမလဲ၊ ဘယ်လောက်မြန်မြန်ဆန်ဆန် တက်လာမလဲဆိုတဲ့အခေါ် မိသားစုတွေနဲ့ လုပ်ငန်းတွေအဖို့ မရေမရာစံစားနေရတဲ့အခါ သူတို့တွေအနေနဲ့ ရင်းနှီးမြှုပ်နှံမှုတွေ၊ စုဆောင်းမှုတွေမလုပ်တော့ဘဲ၊ သာမန်ဘဝမှာပဲ ရပ်တန့်နေကြတယ်။ ဒါကြောင့် အစိုးရတွေနဲ့ ဗဟိုဘဏ်တွေဟာ လူတွေကြိုတင်ခန့်မှန်းနိုင်တဲ့ နှုန်းတစ်ခုမှာ ဈေးနှုန်းတွေကို အရှိန်မပျက်ဆက်ထိန်းထားကြရတယ်။ ဒီလို မထိန်းနိုင်တဲ့အခါ ဆော့နယ်လ်ရောင် ထောက်ပြခဲ့သလို လူတွေဟာ ကြီးမားတဲ့ပနစ်သက်စရာ အတွေးအကြံတို့ ရင်ဆိုင်ကြရတော့မှာဖြစ်တယ်။

အနှစ်ချုပ်အတွေးအခေါ်

**ဈေးနှုန်းတွေကို ဖြည်းဖြည်းချင်းပဲတက်အောင် ထိန်းထားကြ**

# ၂၀ - အကြွေးနှင့် ဒီဖလေးရှင်း

## Debt and deflation

ဒီနေ့ခေတ်နဲ့မတူဘာက ဈေးနှုန်းတွေနှစ်စဉ်ကျဆင်းနေတဲ့ ဒီဖလေးရှင်းအခြေအနေမျိုးကို ဩဇာကြောက်မှုတစ်ရပ်အဖြစ် အမြဲတမ်းမတွေ့ခဲ့ရတာပဲဖြစ်တယ်။ ၂၀ ရာစုအစကာလအထိ ရာစုနှစ်နှစ်ခုကျော်ကြာအောင် တက်ကြွကောင်းမွန်နေတဲ့ စီးပွားရေးတွေဟာ ဒုက္ခသုက္ခရောက်ရတဲ့ စုတ်ပြတ်တိုက်အခြေအနေမျိုးတွေကိုလည်း မကြာခဏဆိုသလို တွေ့ကြုံခံစားခဲ့ရတာပါပဲ။ တကယ်တော့ မီလတန်ဖရိုင်းမင်းက ဒီဖလေးရှင်းအခြေအနေကို အကော်အသင့်အနေအထားမှာ ရေရှည်ထိန်းထားဖို့ အစိုးရတွေအနေနဲ့ ရည်ရွယ်ထားသင့်တယ်လို့ သီအိုရီအရခံယူဆုပ်ကိုင်ထားတယ်။

နေရာတကာမှာရှိတဲ့ကုန်ပစ္စည်းဈေးနှုန်းတွေ တဖြည်းဖြည်းကျဆင်းလာနေတယ်ဆိုတာ ကိုယ့်ပိုက်ဆံထဲမှာရှိတဲ့ ပိုက်ဆံတွေ ပိုပြီးတန်ဖိုးရှိလာတာပါ။ နှစ်စဉ်ရနေတဲ့ဝင်ငွေက တိုးမလာဘူးဆိုရင်တောင် ဝယ်ယူနိုင်စွမ်းအားကတော့ တကယ့်ကိုပဲ ပိုတက်လာတဲ့အခြေအနေမျိုးဖြစ်ပါတယ်။ ဒါက ငွေကြီးဖေါင်းပွမှုကြောင့် နောက်နှစ်တွေမှာကိုယ့်ရဲ့ငွေသားတွေတန်ဖိုးမဲ့လာမှာကို စိုးရိမ်စရာမလိုတော့ဘူးပေါ့

### ဒီဖလေးရှင်းနှင့်စီးပွားပျက်ကပ်

ဈေးနှုန်းကျဆင်းမှုတွေရဲ့ ပိုပြီးနာကျင်ခံစားရတဲ့အတွေ့အကြုံတွေကြောင့် ဒုက္ခပေးတဲ့ဒီဖလေးရှင်းဆိုတာ ၂၀ ရာစုမှာ ခမ္မာမှိန်ပျောက်ကွယ်လာခဲ့တယ်၊ ၁၉၃၀ နှစ်တွေရဲ့ မဟာစီးပွားပျက်ကပ်ကြီးဖြစ်ပွားစဉ်အချိန်တွေကတော့ အဆိုးဆုံးပါ၊ ၁၉၂၀ နှစ်တွေတစ်လျှောက်လုံး ဗုဒဆောင်းငွေတွေနဲ့မဟုတ်ဘဲ ငွေတွေချေးပြီး ရှယ်ယာတွေ အမြောက်အမြားဝယ်ခဲ့ကြလို့ ရှယ်ယာဈေးနှုန်းတွေတိုးလာမှုနောက်မှာ စီးပွားပျက်ကပ်ကြီး ဖြစ်လာခဲ့တာပါ၊ အဲ့ဒယနိုးအမြတ်အစွန်းရရှိမှု တွေဟာ စီးပွားနယ်ကြီးတိုင်းတာရာဖြစ်တဲ့ Dow Jones Industrial Average (DJIA) (စတော့ဈေးနှုန်းညွှန်းကိန်းတစ်ရပ်ဖြစ်တဲ့)ကြောက်နှစ်ကာလမှာ ၅ ဆလောက်တက်လာခဲ့တယ်။) ညွှန်းကိန်းဟာ ကုန်ခဲ့တဲ့ကြောက်နှစ်တာကာလမှာ အခြေခံထားတာမဟုတ်ဘဲ၊ မျှော်လင့်ချက်နဲ့ ထင်ကြေးပေး တကယ့်လက်တွေ့ပေါ်မှာ အခြေခံထားတာမဟုတ်ဘဲ ဈေးကစားမှုတွေအပေါ်မှာသာ အခြေခံပြီးဖြစ်နေတယ်ဆိုတာ ၁၉၂၉ ခုနှစ်မှာ ရင်းနှီးမြှုပ်နှံသူတွေ သိရှိလာတဲ့အခါ ဈေးကွက်ပြိုလဲကျသွားခဲ့တယ်။

**အဓိကကျသည့် ဆိုချက်များ:**

ဒီဖလေးရှင်း (**deflation**) ဆိုတာ နှစ်တစ်နှစ်ချင်းစီ ကိုအခြေခံထားပြီး ကုန်စည်နဲ့ ဝန်ဆောင်မှုတွေရဲ့ ဈေးနှုန်းတွေ ကျဆင်းနေတာကို ညွှန်ပြတယ်။

ဒစ်အင်ဖလေးရှင်း (**disinflation**) ဆိုတာ ဖေါင်းပွမှုနှုန်းတဖြည်းဖြည်းကျဆင်းနေခပမယ့် ဖေါင်းပွမှုကတော့ ကျန်ရှိနေဆဲ အခြေအနေဖြစ်တယ်၊

အမေရိကန်နဲ့ တခြားကမ္ဘာတစ်လွှားက နိုင်ငံတွေဟာ အမှောင်မိုက်ဆုံးခေတ်ကျပ် ခေတ်ဆိုးကြီးထဲမှာ ဘာတွေထင်ပြီး ကြုံလာရသေးလဲလေ့လာကြည့်ရအောင်ပါ၊ ဘဏ်တွေဟာ ကြွေးပြန်ထုပ်ဝန်ပိုးတွေ ကြောင့် ဒေဝါလီခံခဲ့ကြရပြီး အိမ်ဈေး တွေထိုးကျ၊ ကုမ္ပဏီတွေပိတ်ရနဲ့ လူသန်းပေါင်းများစွာဟာ အလုပ်လက်မဲ့ တွေဖြစ်ခဲ့ကြရတယ်။ ဒီအကျပ်အတည်းရဲ့ အဓိကပြဿနာတွေထဲကတစ်ခုကတော့ ဒီဖလေးရှင်းပါပဲ၊

၁၉၂၀ နှစ်တွေရဲ့စီးပွားရေးကို လွှမ်းမိုးထားတဲ့ လောဘစိတ်နဲ့ အလွန်အကျွံဖွံ့လမ်းမှုတွေကြောင့် အစစ်အမှန်မဟုတ်တဲ့ ဖေါင်းပွမှုတွေကို ခံစားခဲ့ရကြောင်း လူတွေသိရှိလာတဲ့အခါ ဈေးနှုန်းတွေစတင်ကျဆင်းလာတယ်။ ရှယ်ယာဈေးတွေနဲ့အိမ်ဈေးတွေကျဆင်းလာခဲ့ပေမယ့် အလုံးစုံရစေဖို့ လူတွေချေးယူခဲ့ရတဲ့ကြွေးမြီတွေကတော့ မကျေသေးဘဲ ဆက်လက်တင်ရှိ နေသေးတယ်၊ ဈေးနှုန်းတွေတစ်နှစ်ကို ၁၀% ကျဆင်းသွားတိုင်း အရင်ကကြွေးမြီဒေါ်လာ၁၀၀

**အချိန်ပြဇယား:**

| ၁၈၀၀ နှစ်များ | ၁၉၃၀ | ၁၉၉၀ နှစ်များ | ၂၀၀၉ |
| --- | --- | --- | --- |
| ဗော်တွတော်လှန်ရေးက ဒီဖလေးရှင်းကြောင့် ခံစားရတဲ့ ဒုက္ခတွေကို သယ်ဆောင်လာ | မဟာစီးပွားပျက်ကပ်ကာလမှာ အမေရိကန်ပြည်ထောင်စုဟာ ကြွေးမြီနဲ့ ဒီဖလေးရှင်းထဲမှာ လုံးချာလည်နေ | ဂျပန်နိုင်ငံဟာ အိမ်ခြံမြေဈေးကွက် ပူဖေါင်း ပေါက်သွားတာကြောင့် ဈေးနှုန်းတွေတိုးကျပြီး ဒီဖလေးရှင်းအခြေအနေကို ရောက်သွား | ယူရိုကန်နဲ့ယူအက်စ်အပါအဝင် စီးပွားရေးအင်အားကြီး နိုင်ငံတွေဟာ ဒုတိယကမ္ဘာစစ်အပြီးမှာ ပထမဆုံးအကြိမ် အဖြစ် ဒီဖလေးရှင်းအခြေအနေကြုံတွေ့ရ |

> ကြွေးမြီ-ငွေကျုံ့ခြင်း (debt-deflation) သီအိုရီရဲ့အရေးကြီးတဲ့
> ကြောင်းကျိုးဆက်စပ်မှုကို ကျွန်တော့်အနေနဲ့ အလေးအနက်ထားရပါလိမ့်မယ်။
> ဒီကြောင်းကျိုးဆက်စပ်မှုက မဟာစီးပွားပျက်ကပ်ကြီးတွေကို
> ငွေကျုံ့မှုဖြစ်ပြီးခြင်းနဲ့ တည်ငြိမ်စေခြင်းအစီအမံတွေကနေတစ်ဆင့် ကုသလို့ရသလို၊
> ကာကွယ်လို့လည်း ရနိုင်တယ်ဆိုတာပါပဲ။
>
> အာဗင်း ဖစ်ရှာ၊ အမေရိကန်စီးပွားရေးပညာရှင်

ရှိခဲ့တယ်ဆိုရင် အကြွေးက ဒေါ်လာ ၁၁၀ ဖြစ်သွားတယ်။ အရင်က ပိုက်ဆံ ၁၀၀ ဟာ အခုအချိန်မှာ ၁၁၀ ဖိုးဝယ်ယူလာနိုင်တာကြောင့် အခုလို ဖြစ်သွားတာပါ။ အိမ်ထောင်စုတွေက အခုလို ဈေးကွက်ပြိုကျသွားတာကို ချက်ချင်းတုံ့ပြန်ပြီး မရင်ဆိုင်နိုင်ကြဘူး။ သူတို့မှာတင်ရှိနေတဲ့ကြွေးမြီတန်ဖိုးတွေက တစ်ဖက်သတ် တိုးမြင့်လာလို့ သန်းနဲ့ချီတဲ့ ပြည်သူတွေဟာ ဒီပရေးရှင်းအခြေအနေရဲ့ သားကောင်ဘဝကို ကျရောက်သွားခဲ့ရတယ်။

### ပိုပြီးကြမ်းတဲ့ မနားတမ်းဈေးနှုန်းကျဆင်းမှု

ဒီပရေးရှင်းက ကြွေးမြီရှိသူတွေကိုသာမကဘူး။ စီးပွားရေးတစ်ခုလုံးကိုပါထိခိုက်စေတာပါ။ ဈေးနှုန်းတွေစပြီး ထိုးစိုက်ကျဆင်းသွားတဲ့အခါ လူတွေက ငွေသားတွေကို စတင်စုဆောင်းလှောင်ကြတယ်၊ လအနည်းငယ်အတွင်းမှာ ပစ္စည်းတွေဈေးပေါလာတာကို သူတို့က သိကြတာကိုး။ သူတို့က ဈေးနှုန်းတွေ ဒီ့ထက်ပိုကျဆင်းသွားလိမ့်မယ်ထင်ပြီး သုံးဖို့ပွဲဖို့ကို အင်တင်တင်ဖြစ်နေကြတယ်။ ဒါ့အပြင် သူတို့ရဲ့လစာတွေကလည်း တရားဝင်စာချုပ်ချုပ်ဆိုထားပြီးသား ဖြစ်နေတာကြောင့် စီးပွားရေး လုပ်ငန်းတွေက သူတို့လစာတွေကို ရုတ်တရက် တိုးပေးလိုက်သလိုဖြစ်နေတယ်။ အရင်က ဒေါ်လာ ၁၀၀၀ ရခဲ့တဲ့သူဟာ အခု အချိန်မှာ လစာမတိုးဘဲ ဒေါ်လာ ၁၁၀၀ ရသလိုဖြစ်နေတာပေါ့။ လုပ်ငန်းရှင်တွေအတွက်တော့ လစာတွေက အရင်အတိုင်းပေးနေပြီး သူတို့ရဲ့ကုန်စည်တွေနဲ့ ဝန်ဆောင်မှုတွေကိုတော့ ဈေးတွေ လျှော့ရောင်းနေရတာကြောင့် ကပ်ဆိုက်သလိုဖြစ်နေကြရတယ်။



### ဒီပရေးရှင်းနှင့် လမ်းပျောက်နေတဲ့ ဆယ်စုနှစ်

မဟာစီးပွားပျက်ကပ်ကြီးမှာ အလုပ်လက်မဲ့နှုန်းက အလုပ်လုပ်နိုင်သူဦးရေရဲ့ လေးပုံတစ်ပုံအထိ မြင့်တက်ခဲ့ပြီး ဂျီဒီပီက သုံးပုံတစ်ပုံကျဆင်းသွားခဲ့တယ်၊ ဒီဖြစ်ရပ်ကို အမေရိကန်ရဲ့ခေတ်သစ်ကာလမှာ အဆိုးဝါးဆုံးဈေးနှုန်းတွေ နှောင့်ယှက်ဖြစ်ပွားမှုအတွေ့အကြုံအဖြစ် မှတ်ယူထားခဲ့ပေမယ့် ဈေးဘယ်လို ထိုးစိုက်ကျဆင်းမှုအတွေ့အကြုံတွေကိုလည်း မကြာသေးခင်ကအထိ ကြုံနေရတုန်းပါပဲ။ ဒီဖြစ်ရပ်မျိုး ထပ်ကျော့ဖြစ်ပွားမှုတွေကိုလည်း မကြာသေးခင်ကအထိ ကြုံနေရတုန်းပါပဲ။ အထင်ရှားဆုံးဖြစ်ရပ်ကတော့ ၁၉၉၀ နှစ်တွေမှာ ဂျပန်နိုင်ငံမှာကြုံတွေ့ခဲ့ရတဲ့ဖြစ်ရပ်ပါ။ ဈေးနှုန်းတွေ မဟားတရားကျဆင်းသွားခြင်းက ဂျပန်ဝယ်ဘက်အနေနဲ့ အတိုးနှုန်းကို သုညအထိသတ်မှတ်ရလောက် အောင်ဖြစ်စေခဲ့တယ်။ ဈေးနှုန်းကျဆင်းမှုကနေ တိုင်းပြည်ဟာမလွတ်မြောက်နိုင်ဘဲ တဝဲလည်လည်နဲ့ ဖြစ်နေလိုက်ပြီး တိုးတက်မှုက အားရစရာမရှိတာကြောင့် အဲ့ဒီကာလကို လမ်းပျောက်နေတဲ့ ဆယ်စုနှစ်လို့ တင်စားခေါ်ဆိုခဲ့ကြတယ်၊

ဒါဟာ အစပိုင်းမှာတော့ အလုပ်သမားတွေအတွက် သတင်းကောင်းလို့ထင်ရပေမယ့် လက်တွေ့မှာ လုပ်ငန်းရှင်တွေအဖို့ ကြွေးမြီကင်းကင်းနဲ့အလုပ်လုပ်နိုင်ဖို့ဆိုရင် အလုပ်သမားတွေကို အလုပ်ဖြုတ်ပစ်ရတော့မှာ ဖြစ်ပါတယ်၊ အလားတူပါပဲ၊ ငွေချေးသူတစ်ချို့ကနေ ဘဏ်တွေအနေနဲ့ အပေါင်စာချုပ်အတွက် ငွေပြန်ဆပ်မှုတွေ တိုးပြီးရလာနေပေမယ့် စီးပွားရေးတစ်ရပ်ထဲမှာရှိတဲ့ တခြားကုန်စည်နဲ့ဝန်ဆောင်မှုဈေးတွေက ကျဆင်းနေတာကြောင့် ကျန်တဲ့ငွေချေးယူထားသူတွေအဖို့တော့ လုံးဝအကြွေးပြန်မဆပ်နိုင်ကြတော့တဲ့အခြေအနေနဲ့ ကြုံကြရမှာဖြစ်တယ်။

ကုထုံးအများအပြားကတော့ ငွေကြေးအလွန်ဖေါင်းပွနေတဲ့ကာလမှာ ကြုံခဲ့ရတဲ့ကုထုံးတွေလိုပါပဲ။ နှစ်မျိုးစလုံးက ထိန်းမနိုင် သိမ်းမရနှုန်းနဲ့ ဈေးနှုန်းတွေ မြင့်တက်လာတာနဲ့ သက်ဆိုင်တာပါပဲ၊ ဒါပေမဲ့ ငွေကြေးဖေါင်းပွမှုက

လမ်းပေါ်က ကုန်စည်တွေရဲ့ဈေးနှုန်းကို ပိုပြီးဈေးတက်လာစေတာဖြစ်ပြီး ငွေကျဖို့ ဒီဖလေးရှင်းကတော့ ကြွေးမြီတွေနဲ့ တခြားအာမခံထားတဲ့အရာတွေကို ဈေးတက်စေတာဖြစ်ပါတယ်။

ဒီဖလေးရှင်းနဲ့ ပတ်သက်တဲ့အကြီးဆုံးအန္တရာယ်ကတော့ ကုမ္ပဏီတွေအနေနဲ့ ဈေးချပြီး သူတို့ရဲ့ဆုံးရှုံးရမယ့်အနေအထားကို ကြည့်တဲ့အခါ အမြဲတမ်းတက်နေတဲ့ဈေးတွေက ကျဆင်းလာတာပါပဲ။ ဒါက ဈေးနှုန်းတွေကို ကျမြဲကျဆင်းနေစေလိမ့်မယ်။ ဘယ်လိုပဲဖြစ်ဖြစ် ဒါက ငွေကြေးဖောင်းပွမှုဆိုင်ရာပဲကတော့ထဲကနေ လွတ်မြောက်ဖို့ထက်တောင် ပိုပြီးခက်ခဲပါသေးတယ်၊ အကြောင်းက ခေတ်သစ်စီးပွားရေးက ငွေကြေးဖောင်းပွမှုနဲ့ ပိုပြီးထိထိရောက်ရောက်ဆက်ဆံဖို့ တီထွင်ထားတဲ့ယန္တရားတွေ ပြောင်းလဲဖြစ်ပေါ်ခဲ့ပြီးသားမို့ပါပဲ (အခန်း ၁၈ ကိုကြည့်ပါ)။

## ရောဂါဝေဒနာနှင့် အဖြေများ

ဒီဖလေးရှင်းနဲ့ပတ်သက်ပြီး စီးပွားရေးပညာရပ်က ရှင်းပြတာကတော့ စီးပွားရေးစနစ်ထဲမှာ လည်ပတ်နေတဲ့ငွေပမာဏ လျော့ကျသွားတာ၊ ဒါမှမဟုတ် ကုန်စည်နဲ့ဝန်ဆောင်မှုတွေ ပေါများလာတာကြောင့်ပဲလို့ ဆိုတယ်။ တကယ်တော့ ငွေကြေးဖောင်းပွမှုက ကုန်ပစ္စည်းနည်းနည်းနောက်ကို ငွေအမြောက်အမြားက လိုက်နေတာနဲ့ ဆိုင်ပါတယ်။ ဒီဖလေးရှင်းကတော့ သူနဲ့ ဆန့်ကျင်ဘက်ပါပဲ။ မဟာစီးပွားပျက်ကပ်ကြီးနဲ့ ၁၉၉၀ နဲ့ ၂၀၀၀ကြားက ဂျပန်နိုင်ငံရဲ့အတွေ့အကြုံတွေကိုကြည့်ရင် ငွေကျခြင်းက အဓိကအကြောင်းတရားပါပဲ၊ (ဒီဖြစ်ရပ်တွေက လူတွေဟာ သူတို့ချေးသာကြွယ်ဝမှုထက်ပိုပိုကဲကဲ၊ လွန်လွန်ကျူးကျူး သုံးခဲ့ကြပြီးတဲ့နောက် သုံးစွဲမှုကို လျှော့ချပြီး ငွေပိုစုကြတဲ့အခါ ဖြစ်လာတဲ့ ကြွေးမြီပူပေါင်းနဲ့ ဆက်စပ်နေတယ်)၊ တစ်ဖက်ကကြည့်ရင် ၁၉ ရာစု ညင်သာတဲ့ ဒီဖလေးရှင်းကတော့ ထုတ်လုပ်မှုစွမ်းအားပိုလာပြီး ဈေးလိုအားတိုးလာတာနဲ့ ပိုပြီးသက်ဆိုင်ပါတယ်။

ထုံးစံအတိုင်းပါပဲ။ ငွေကြေးဖောင်းပွမှုကို ထိန်းချုပ်ဖို့သုံးတဲ့ ဗဟိုဘဏ်ရဲ့ အဓိကလက်နက်ကတော့ အတိုးနှုန်းပါပဲ။ ဒါပေမဲ့ ဗဟိုဘဏ်တွေအနေနဲ့



ဖောင်းပွမှုကို သူညအောက်ရောက်အောင်တော့ မလျှော့နိုင်ကြဘူး။ ဒါကြောင့် ဈေးနှုန်းတွေကျသွားတဲ့အခါမှာတော့ ပိုပြီးသမားရိုးကျမဟုတ်တဲ့ လက်နက်တွေကို သူတို့အားကိုးရုံကလွဲလို့ သူတို့လုပ်နိုင်တာမရှိသလောက်ပါပဲ။ အမေရိကန်ဗဟိုဘဏ်ဥက္ကဋ္ဌဖြစ်ခဲ့သူ ဘင်ဘာနက်ကီကတော့ ငွေရှုံ့နိုင်စက်တွေကို အသက်သွင်းကြလို့ ဆိုတယ်။ သဘောကတော့ ငွေကြေးဖောင်းပွမှုတွေ ကြုံရတဲ့အခါ သူတို့အနေနဲ့ စီးပွားရေးထဲမှာရှိတဲ့ ငွေသားတွေကို ထိန်းချုပ်ထားဖို့ ကြိုးစားကြတာနဲ့ ပြောင်းပြန်ပါပဲ၊ ဗဟိုဘဏ်တွေအနေနဲ့စီးပွားရေးလည်ပတ်မှုထဲကို ငွေသားတွေပေးပြီး ထိုးသွင်းထည့်လိုက်တာပါ၊ ဒါကို နည်းလမ်းမျိုးစုံနဲ့ လုပ်ဆောင်နိုင်ပါတယ်၊ ဘွန်းစာချုပ်တွေ၊ ရှယ်ယာတွေစတဲ့ အက်ဆက်တွေကို တိုက်ရိုက်ဝယ်ယူပြီးတော့ပဲဖြစ်ဖြစ်၊ စီးပွားရေးဘဏ်တွေရဲ့ ငွေတိုက်ခန်းတွေထဲက ငွေပမာဏတွေကို တိုးလာအောင် လုပ်ပြီးတော့ဖြစ်ဖြစ် လုပ်ဆောင်နိုင်ကြပါတယ်။ ဒီနည်းတွေအားလုံးကို ထပ်တူတစ်စည်းထဲအရေအတွက် တိုးလာစေခြင်းလို့ သိကြတယ်၊

ဒီအစီအမံတွေကို ထောင်စုနှစ်အကူးအပြောင်းကာလမှာဂျပန်နိုင်ငံကရော၊ ၂၀၀၈ ဘဏ္ဍာရေးအကျပ်အတည်းကာလ နောက်ပိုင်းမှာ အမေရိကန်ဗဟိုဘဏ်နဲ့ အင်္ဂလန်ဗဟိုဘဏ်တွေကပါ အသုံးချခဲ့ပါတယ်။ ဒီဘဏ်တွေဟာ ကြွေးမြီက စီးလာင်ရာလေပင့်လုပ်ထားတဲ့ဘဏ္ဍာရေးအလည့်အပြောင်းအခြေအနေကို ထိန်းသိမ်းဖို့ ကြိုးစားတဲ့အခါမှာ ဒီအစီအမံတွေကို သုံးခဲ့ကြရတာပဲဖြစ်တယ်၊ သူတို့ရဲ့ ကြိုးပမ်းအားထုတ်မှုတွေအောင်မြင်တယ်၊ မအောင်မြင်ဘူးဆိုတာကို သက်သေပြနိုင်ဖို့တော့ စောင့်ကြည့်ရပါဦးမယ်။

### အနှစ်ချုပ်အတွေးအခေါ်

**ဈေးနှုန်းတွေကျဆင်းခြင်းက စီးပွားရေးကို အကြီးအကျယ်ထိခိုက်ပျက်စီးစေနိုင်တယ်**

# ၂၁ - အခွန်ကောက်ခံမှုများ

## Taxes

**"ဒီကမ္ဘာကြီးမှာ သေခြင်းတရားနဲ့ အခွန်ကောက်ခံမှုတွေကလွဲရင် ဘာကိုမှ သေချာပေါက်မပြောနိုင်ဘူး" လို့ ၁၇၈၉ ခုနှစ်မှာ ဘင်ဂျမင် ဖရန့်ကလင်းက ပြောခဲ့တယ်။ အခွန်ကောက်ခံမှုတွေနဲ့ ပတ်သက်လို့ ညည်းညူခဲ့တာ သူကပထမဆုံးတော့ မဟုတ်လောက်ပါဘူး။ အခွန်တွေရှိလာတဲ့အချိန်ကစပြီး အစိုးရတွေဟာ ငွေကြေးတွေ ပိုမိုကောက်ခံဖို့ ကြံဖန်ပြီးနည်းလမ်းမျိုးစုံ တီထွင်ခဲ့ကြတယ်။**

ဂျိုးဇက်နဲ့ မေရီတို့ Bethlehem ကို သွားတဲ့အခါမှာ အခွန်ဆောင်ဖို့ရည်ရွယ်ချက်နဲ့ သူတို့ပိုင်ဆိုင်တဲ့ ပစ္စည်းဥစ္စာတွေကို မှတ်ပုံတင်စာရင်းသွင်းခဲ့တယ်လို့ ဘိုင်ဘယ်ကျမ်းစာမှာ ဖော်ပြထားတယ်။ ၁၀၈၆ ခုနှစ်မှာ အင်္ဂလန်ဘုရင် ဝီလီယံက သူအခွန်ကောက်ခံနိုင်တဲ့သူကိုစုံစမ်းရှာဖွေဖို့ အင်္ဂလန်ရဲ့နယ်မြေတွေကို ကျယ်ကျယ်ပြန့်ပြန့် ဆန်း ကောက်ထားတဲ့စာအုပ် Domesday Book ကို စီစဉ်ဖို့ အမိန့်ပေးခဲ့တယ်။ ခေအဒီ ၁၀ ခုနှစ်လောက်မှာ တရုတ်နိုင်ငံသားတွေဟာ ဝင်ငွေခွန်ပေးဆောင်နေခဲ့ကြ

> ကမ္ဘာသိမှာနာမည်ကြီး အသက်ဆုံးအရာဟာ ဝင်ငွေခွန်ပါပဲ
>
> အဲလ်ဘတ် အိုင်းစတိုင်း

ဒီနေ့ခေတ်မှာတောင် အခွန်ကောက်ခံမှုတွေက နိုင်ငံရေးမှာ အငြင်းအပွားရဆုံး အကြောင်းအရာတစ်ခုဖြစ်နေသေးတယ်။ ၁၉၈၈ ခုနှစ် ရွေးကောက်ပွဲမှာ သမ္မတ ဂျော့ချ်ဒဗလျူဘုရှ်ပေးခဲ့တဲ့ကတိကို ဒီနေ့အချိန်အထိ ပြန်အမှတ်ရနေဦးမှာပဲ သူက "ကျွန်တော့်နှုတ်ခမ်းတွေကိုကြည့်ပြီး မှန်းဆလိုက်ပါ။ အခွန်အသစ်ဆိုတာ

**အချိန်ပြဇယား:**

| ဘီစီ ၃၀၀၀ | ၁၇၇၉ |
|---|---|
| ရှေးခေတ်ဟောင်းအီဂျစ်မှာ အခွန်စည်းကြပ်ခဲ့တဲ့ ပထမဆုံးသက်သေအထောက်အထား | ဗြိတိသျှပေါ်လုန်ရေးစတင်ခဲ့တာ အခွန်နှုန်းမြင့်မားမှုအပေါ် ဆန့်ကျင်တာတွေထဲ တစ်ပိုင်တစ်ဒေသပါဝင် |



မရှိစေရဘူး" လို့ ကတိပြုခဲ့တယ်။ သူ့အတွက်ဝမ်းနည်းစရာကောင်းတာက ပြည်သူ့ဘဏ္ဍာအခြေအနေက သူပြောတာနဲ့ ဆန့်ကျင်ဘက်ဖြစ်သွားခဲ့တယ်။ ဒါနဲ့ပဲ နောက်လေးနှစ်မှာမဲမရတော့ဘဲ၊ အမျိုးမျိုးသောအခွန်ကောက်ခံမှုတွေလည်း နောက်ပိုင်းမှာ ပြန်မြင့်တက်လာခဲ့တယ်၊

သိုင်းဦးကာလကတည်းက လူတွေဟာ သူတို့ကြိုးစားပမ်းစားရှာဖွေထားရတဲ့ငွေကြေးတွေကို သူတို့ဆီကနေ အကြောင်းပြချက်ကောင်းကောင်းနဲ့ မကြာခဏယူသွားတဲ့အပေါ် ကျေနပ်မှုမရှိခဲ့ကြတယ်၊ အခွန်ကောက်ခံသူတွေက အခုအချိန်ထက် အများကြီးပိုပြီး အကြမ်းဖက်ဆဲမဲ့တတ်ကြတယ်။ အဖေဆိုင်းကာလတွေမှာ လယ်သမားတွေနဲ့ အလုပ်သမားတွေဟာ အခွန်မပေးဆောင်နိုင်တဲ့အခါ သူတို့ရဲ့မိန်းမတွေ၊ ဒါမှမဟုတ် သမီးတွေကို ကျွန်အဖြစ် ရောင်းချကြရတယ်။ (ပဲပေးပိုင်ခွင့်အခွင့်အရေးလိုမျိုးကနေတစ်ဆင့်) ပြန်လည်တုံ့ပြန်ပြီး ခါးလစ်ရှုပ်ခြင်းတွေအပေါ် လွှမ်းမိုးနိုင်ဖို့ အခွင့်အရေးမရှိဘဲ အခွန်ပေးဆောင်နေရတာကို မကျေမနပ်ဖြစ်နေရခြင်းတွေက ၁၂၁၅ ခုနှစ်မှာ မဂ္ဂနာကာတာစာချုပ်ချုပ်ခြင်း၊ ပြင်သစ်တော်လှန်ရေး၊ ဘော့စ်တွန်လက်ဖက်ခြောက်ပါတီဖြစ်ရပ်နဲ့ အမေရိကန်တော်လှန်ရေးစစ်ပွဲတွေကို အစပျိုးမီးထိုးပေးခဲ့တယ်၊

ဒါပေမဲ့ဒီဖြစ်ရပ်အားလုံးနီးပါးမှာ ကြုံတွေ့ခဲ့ရတဲ့အခွန်စည်းကြပ်မှုတွေဟာ ဒီနေ့ခေတ်နိုင်ငံအများစုက နိုင်ငံသားတွေ ပေးဆောင်နေရတဲ့ အခွန်စည်းကြပ်မှုတွေနဲ့စာရင် ဘာမှမပြောပလောက်ပါဘူး။ သူတို့ ပေးဆောင်ရတဲ့အခွန်နှုန်းက ၁၀ ရာခိုင်နှုန်းထက်မပိုခဲ့ဘူး။ အခါအားလျော်စွာ စစ်ပွဲတွေအတွက် အခွန်ပေးဆောင်ရတာမျိုးတွေရှိခဲ့ပေမယ့် စစ်ပွဲတွေဆိုတာလည်း နှစ်တိုင်းဖြစ်နေခဲ့တာမှ မဟုတ်ပဲ။ ဒီနေ့ခေတ်မှာ စစ်ပွဲလုံးဝမရှိတဲ့ ဆွစ်ဇာလန်လိုနိုင်ငံမျိုးတောင်မှ ပျမ်းမျှအလုပ်သမားတစ်ယောက်ကို သူ့လစာရဲ့ ၃၀ % လောက်အခွန်ပေးဆောင်နေရတယ်။

### အခွန်စည်းကြပ်မှုအတတ်ပညာ

အခွန်စည်းကြပ်မှုမှာ ဘာတွေပြောင်းလဲသွားလဲဆိုရင်၊ ၁၉၅၀ နောက်ပိုင်းမှာ လူမှုဖူလုံရေးစနစ်နဲ့ လူမှုလုံခြုံရေးစနစ်တွေ ပေါ်ထွန်းလာခြင်းက အဓိကအပြောင်းအလဲပါပဲ။ ကမ္ဘာတစ်ဝန်းက တိုင်းပြည်တွေဟာ ကျန်းမာရေး၊ ပညာရေး၊ အလုပ်လက်မဲ့နဲ့ သက်ကြီးရွယ်အိုတွေရဲ့

| ၁၇၉၈ | ၁၉၈၀ နှစ်များ |
|---|---|
| William Pitt the Younger က ဗြိတိန်ရဲ့ ပထမဆုံးဝင်ငွေခွန်စနစ်ကို စတင်မိတ်ဆက် | ယူအက်စ်နဲ့ ယူကေမှာ ရော်နယ်လ်ရေဂင်နဲ့ မာဂရက်သက်ချာတို့က အဓိကအခွန်တွေ လျှော့ချဖို့ စီစဉ်ညွှန်ကြား |

သက်သာချောင်ချိရေးနဲ့ အများပြည်သူလုံခြုံဘေးကင်းစေရေးတွေအတွက် ရုတ်တရက် အာမခံမှုပေးခဲ့ကြတယ်၊ ဒါကြောင့် ဒီနိုင်ငံတွေအနေနဲ့ ယခင်ကထက် ငွေကြေးသိသိသာသာပိုသုံးရတော့မှာဖြစ်လို့ ငွေသားတွေ ပိုလိုအပ်လာခဲ့တယ်၊ ဒီအတွက်အဖြေကတော့ အခွန်စည်းကြပ်ခြင်းပါပဲ။

ဒါပေမဲ့ (တစ်ဦးတစ်ယောက်ရဲ့လစာပေါ်အခြေခံထားတဲ့ ပမာဏတစ်ရပ်ကိုဖြတ်တောက်နုတ်ယူမယ်) ဝင်ငွေခွန်သက်သက်ပဲတော့ မဟုတ်ဘူး၊ အခုခေတ်မှာ အစိုးရတွေအနေနဲ့ အခွန်စည်းကြပ်မှုကို ကြိုက်တဲ့ပုံစံနဲ့ စိတ်တိုင်းကျရွေးချယ်နိုင်ကြပါတယ်၊ ပြောရရင် (လောင်တာဆီလိုမျိုးရောင်းကုန်တွေ အပေါ်မှာ ပုံသေဖြတ်တောက်မှုတွေအပါအဝင်၊ ad valorem taxes လို့သိကြပြီး ရောင်းရတဲ့ပစ္စည်းတွေအပေါ်မှာ ကောက်ခံတဲ့) ရောင်းခွန်၊ (တန်ဖိုးတက်လာတဲ့ ရင်းနှီးမြှုပ်နှံမှုတစ်ခုကို ရောင်းချခြင်းကနေရတဲ့ အမြတ်အစွန်းအပေါ်မှာကောက်ခံတဲ့) အရင်းတန်ဖိုးတိုးခွန်၊ (ကုမ္ပဏီတွေရဲ့ အမြတ်အပေါ်ကောက်ခံတဲ့) အမြတ်ခွန်၊ (တစ်ဦးတစ်ယောက်သေဆုံးသွားတဲ့အခါရတဲ့ အမွေအပေါ်ကောက်ခံတဲ့) အမွေဆက်ခံမှုအခွန်၊ (အိမ်အရောင်းအဝယ်အပေါ်ကောက်ခံတဲ့) ပစ္စည်းပိုင်ဆိုင်မှုအခွန်၊ သွင်းကုန်ပို့ကုန်တွေအပေါ်စည်းကြပ်တဲ့အကောက်ခွန်၊ (လေထုညစ်ညမ်းစေတဲ့ဓာတ်ငွေ့ထုတ်လွှတ်မှုတွေအတွက်ကောက်ခံတဲ့) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးအခွန်၊ (တစ်ဦးတစ်ယောက်ပိုင်ဆိုင်တဲ့အိတ်ဆက်တန်ဖိုးတွေ အပေါ်အခြေခံပြီးကောက်ခံတဲ့) ဥစ္စာဓနအခွန်စတဲ့ ခေါင်းစဉ်ပေါင်းများစွာပါဝင်ပါတယ်၊ နိုင်ငံအများစုမှာ ဗဟိုအစိုးရမှာရော ဒေသန္တရအစိုးရမှာပါ အခွန်စည်းကြပ်နိုင်တဲ့ပါဝါရှိတယ်။

ဒေသန္တရအစိုးရတွေအနေနဲ့ ပစ္စည်းပိုင်ဆိုင်မှုအခွန်တွေ (property taxes)အပေါ် ပိုပြီးမှီခိုအားထားကြပြီး ဗဟိုအစိုးရတွေကတော့ ဝင်ငွေခွန်တွေအပေါ်မှာ ပိုပြီးအမှီအခိုပြုကြတယ်၊ ၂၀ ရာစုဝက်ကာလလောက်ကတည်းက အခွန်စနစ်တွေမှာ ငွေကြေးထောက်ပံ့မှုနဲ့ပတ်သက်ပြီး အခန်းကဏ္ဍနှစ်ရပ်ရှိခဲ့တယ်။ (စစ်တပ်၊ ရဲ၊ အရေးပေါ်ဝန်ဆောင်မှုလုပ်ငန်းတွေ၊ တရားရုံးနဲ့ နိုင်ငံရေးသမားတွေစတဲ့) နိုင်ငံသားတွေကို အကာအကွယ်ပေးတဲ့ အင်စတီကျူးရှင်းတွေကို ငွေကြေးအထောက်အပံ့ပေးတဲ့အပိုင်းကတစ်ပိုင်း။ နောက်တစ်ပိုင်းက နေဥစ္စာပြည့်စုံသူတွေဆီကနေ ဆင်းရဲနွမ်းပါးတဲ့သူတွေဆီမျှဝေပေးဖို့ ခွဲဝေဖြန့်ဖြူးမှုနဲ့ဆိုင်တဲ့အပိုင်းက တစ်ပိုင်းဖြစ်တယ်၊ ထုံးစံအရတော့ တိုင်းပြည်ကပိုချမ်းသာလာလေ နိုင်ငံသားတွေဆီကကောက်ခံတဲ့ အခွန်တွေ ပိုတိုးလာလေပါပဲ။



## စမစ်ရဲ့အခွန်စည်းကြပ်မှုဆိုင်ရာ နိယာမများ

The Wealth of Nations စာအုပ်မှာ အဒမ်စမစ်က အခွန်စည်းကြပ်ခြင်းအတွက် အောက်ပါစည်းမျဉ်းလေးရပ်ကို ဖော်ထုတ်ခဲ့တယ်။

လူတွေဟာ သူတို့ရဲ့ဝင်ငွေအချိုးအစားအလိုက် ထည့်ဝင်သင့်တယ်၊

၁။ လူတွေဟာ သူတို့ရဲ့ဝင်ငွေအချိုးအစားအလိုက် ထည့်ဝင်သင့်တယ်၊ ဝင်ငွေပိုကောင်းတဲ့သူက အခွန်ပိုပေးသင့်တယ်လို့ ဆိုလိုတယ်။ နိုင်ငံအများစုက နှုန်းတိုးခွန်စနစ်နဲ့ လည်ပတ်လုပ်ကိုင်ကြတယ်။ ဒီစနစ်အရ ဝင်ငွေပိုကောင်းသူတွေအနေနဲ့ ဆင်းရဲနွမ်းပါးသူတွေထက် ဝင်ငွေခွန်ကို အချိုးအဆပိုပြီးပေးဆောင်ရတယ်။

## ရီကာဒီယန် ညီမျှခြင်း (Ricardian equivalence)

(ဗြိတိသျှအကျိုးသီအိုရီ (အခန်း ၇ ကိုကြည့်ပါ) ရဲ့ခေါင်းတိုင်ဖခင်ကြီးဖြစ်တဲ့ ဘောဂဗေဒပညာရှင်ဒေးဗစ်ရီကာဒိုကို အစွဲပြုခေါ်ထားတဲ့) ရီကာဒီယန်ညီမျှခြင်းသီအိုရီက အစိုးရတွေအနေနဲ့ အခွန်လျှော့ချပြီး ငွေချေးယူခြင်းအားဖြင့် ဘဏ္ဍာငွေမရှာသင့်ဘူးလို့ အကြံပြုတယ်၊ စီးပွားရေးတိုးတက်အောင်အားပေးမြှင့်တင်ဖို့ အခွန်အကောက်တွေလျှော့ချတာကို နည်းလမ်းကောင်းတစ်ရပ်လို့မြင်တတ်ကြတယ်။ သီအိုရီသဘောကတော့ လူတွေအိတ်ထဲမှာငွေတွေပိုထားခဲ့ရင် လူတွေက ငွေတွေပိုသုံးလိမ့်မယ်လို့ ယူဆတာကြောင့်ပဲ၊ အခွန်ရငွေလျော့ကျသွားမှုအပေါ်အစိုးရတွေအနေနဲ့ ငွေချေးယူပြီး ဖြည့်ဆည်းမယ်ဆိုရင် တချို့စီးပွားရေးပညာရှင်တွေရဲ့အလိုအရတော့ အကျိုးသက်ရောက်မှုကမပြောပလောက်ဘူးလို့မြင်ကြတယ်။ အကြောင်းက ဒါဟာ ယာယီအစိုက်အတန့်ပဲလုပ်နိုင်တာဖြစ်ပြီး နောက်တစ်ချိန်မှာ အစိုးရအသုံးစရိတ်တွေ လျှော့ပြီးဖြစ်ဖြစ်၊ အခွန်တွေပိုတိုး ကောက်ခံပြီးပဲဖြစ်ဖြစ်လုပ်ပြီး ချေးငွေကို ပြန်ဆပ်ရမှာ ကြောင့်ပဲဖြစ်တယ်။ ရီကာဒီယန်ညီမျှခြင်းဥပဒေသက ဘဏ္ဍာငွေ မရတဲ့အခွန် လျှော့ချမှုလို့ခေါ်တဲ့ ဒီအခြေအနေကို ဖော်ထုတ်ခဲ့ပေမယ့် ဒီလိုမလုပ်ဖို့ နိုင်ငံရေးသမားတွေကို တားမြစ်ရတာမျိုးကတော့ဖြစ်တောင့်ဖြစ်ခဲပါပဲ။

သူတို့အနေနဲ့ အခွန်နှုန်းမြင့်သလို၊ အခွန်ဆောင်ရတဲ့ငွေပမာဏလည်း မြင့်တယ်။ အခွန်တွေဟာ (လူတိုင်းတစ်ပြေးညီပေးဆောင်ရတဲ့ ပုံသေခွန်အပါအဝင်) အချိုးကျအခွန်ဆောင်ရတာမျိုးလည်းဖြစ်နိုင်သလို၊ (ချမ်းသာသူတွေအနေနဲ့ သူတို့ရဲ့ဝင်ငွေ၊ ဒါမှမဟုတ် စနည်းစွာအပေါ်ပိုနည်းတဲ့အချိုးအဆနဲ့ဆောင်ရတဲ့) နှုန်းလျော့ခွန်နဲ့လည်း ကောက်ခံနိုင်တယ်။ ထုံးစံအတိုင်းပါပဲ၊ ဗီနေ့ခေတ် နှုန်းတိုးဝင်ငွေခွန်စနစ်တွေအရ လူတွေဟာ အခွန်လွတ်ငြိမ်းခွင့်လည်း ရကြတယ်။ သူတို့အနေနဲ့ သတ်မှတ်ထားတဲ့ လစာအဆင့်တစ်ရပ်ကိုရောက်မှ လစာရဲ့ ရာခိုင်နှုန်းတစ်ရပ်ကို အခွန်ထမ်းဆောင်ရပြီး၊ လစာနောက်တစ်ဆင့်ပြီး တစ်ဆင့်တက်သွားတဲ့အခါ အခွန်ဆောင်ရတဲ့အချိုးအဆတွေကလည်း နောက်ထပ်ပိုပိုပြီး တက်သွားတယ်။

၂။ အခွန်ဆိုတာစိတ်ထင်တိုင်းကောက်ခံလို့မရဘဲ၊ အချိန်ကာလနဲ့ အမျိုးအစား သတ်မှတ်ချက်တွေအရ ငွေပေးချေမှုမှာ အားလုံးအတွက် ရှင်းလင်းတိကျမှုရှိသင့်တယ်။

၃။ အခွန်ဟာ အလျဉ်းသင့်တဲ့အချိန်မှာလည်း ရောက်လာသင့်တယ်။ ဥပမာ - ငှားရမ်းမှုတွေလုပ်ဆောင်ရိန်မှာ ငှားရမ်းခတွေအပေါ် ကောက်ခံတဲ့အခွန်တွေကို ပေးဆောင်သင့်တယ်။

၄။ အခွန်တွေဟာနိုင်ငံသားနဲ့ နိုင်ငံတော်နှစ်ဖက်စလုံးအတွက် လိုအပ်တာထက်ပိုပြီး ဆုံးရှုံးနစ်နာမှုမရှိစေသင့်ဘူး။ တစ်နည်းပြောရရင် အခွန်တွေဟာ လူတွေရဲ့ နေ့စဉ်လူနေမှုဘဝထဲမှာ ရွေးချယ်မှုတွေလုပ်ဆောင်တဲ့အပေါ် ဝင်ရောက်စွက်ဖက်မှု တတ်နိုင်သမျှအနည်းဆုံးပဲဖြစ်သင့်တယ်။ အစွန်းထွက်အခွန်နှုန်းကို တိုးမြင့်လိုက်ပြီး လူတွေကိုအချိန်ပိုအလုပ်လုပ်ရတဲ့အပေါ် စိတ်ပျက်စေဖို့ လုပ်ဆောင်ရတာ လွယ်ကူလွန်းပါတယ်။ (အစွန်းထွက်အခွန်နှုန်းဆိုတာ လူတစ်ယောက် လက်ရှိလုပ်နေတာထက် တစ်နာရီပိုလုပ်မယ်ဆိုရင် အဲ့ဒီလူအနေနဲ့ ပေးဆောင်ရမယ့် နှုန်းတစ်ရပ်ပဲဖြစ်တယ်။) ဒါပေမဲ့ ဒါဟာ အကြီးအကျယ်အငြင်းအခုံဖြစ်ရတဲ့ နယ်ပယ်တစ်ရပ်ပါပဲ၊ တချို့က အခွန်ဝနစ်ဟာ လူတွေကို ကောင်းတာလုပ်ဖို့ တွန်းအားပေးပြီး၊ မကောင်းတာလုပ်ဖို့ စိတ်မပါအောင်လုပ်တဲ့ လက်နက်တစ်ခုအနေနဲ့ အသုံးချသင့်တယ်လို့ မြင်တယ်။ ဥပမာ - လူတွေရဲ့ကျန်းမာရေးအတွက်ဆိုတဲ့ အကြောင်းပြချက်တွေနဲ့ အစိုးရအများစုဟာ စီးကရက်နဲ့အရက်တွေအပေါ်



အခွန်တွေအများကြီးတိုးပြီးကောက်ကြတယ်။

> “အခွန်စည်းကြပ်ခြင်းအတတ်ပညာဟာငန်းငှက်တွေ့နုတ်တဲ့ပညာလိုပါပဲ။ ငန်းငှက်များများပြီးအသံနည်းနည်းပဲထွက်ဖို့ လိုတယ်။”
>
> **Jean-Baptiste Colbert,**
> ပြင်သစ်ဘဏ္ဍာရေးဝန်ကြီး (၁၆၆၅ - ၁၆၈၃)

## အခွန်စည်းကြပ်မှုဆိုင်ရာကနဦးသတ်ချက်များ

အခွန်တွေတိုးကောက်လေလေ လူတွေကို အခွန်ရှောင်စေဖို့ မက်လုံးတွေပိုတိုးလေလေ

အခွန်ရှောင်စေဖို့ မက်လုံးတွေပိုတိုးလေလေ ... ၁၉၇၀ နှစ်တွေနဲ့ ၁၉၈၀ နှစ်တွေမှာ ကမ္ဘာတစ်ဝန်းက အစိုးရတွေရင်ဆိုင်ခဲ့ရတဲ့ ဖြစ်တယ်။ ဒါဟာ ၁၉၇၀ နှစ်တွေနဲ့ ၁၉၈၀ နှစ်တွေမှာ ကမ္ဘာတစ်ဝန်းက အစိုးရတွေရင်ဆိုင်ခဲ့ရတဲ့ အတွေ့အကြုံပဲ။ တချို့ကအလုပ်သမားတွေက အစွန်းထွက် အခွန်နှုန်းကို ရင်ဆိုင်ခဲ့ရတယ်၊ တစ်နည်းပြောရရင် တစ်ဒေါ်လာ၊ ဒါမှမဟုတ် တစ်ပေါင်ထပ်တိုးရတိုင်း သူတို့ပေးဆောင်ရတဲ့ အခွန်နှုန်းက ၇၀% နဲ့အထက်ဖြစ်နေခဲ့တယ်။ ဒီတော့ အချိန်ပိုအလုပ်လုပ်တာထက် အလုပ်လျော့လုပ်မျိုး၊ အပိုဝင်ငွေရတာကို ပင်စင်စုငွေထဲထည့်ပြီး အခွန်ရှောင်တာမျိုး၊ ဝင်ငွေခွန်သက်သာတဲ့ တခြားနိုင်ငံတွေကို သူတို့ငွေသားတွေကို ရွှေ့ပြောင်းထားတာမျိုးတွေ လုပ်ခဲ့ကြတယ်။ ကမ္ဘာ့ဘယ်နေရာကိုမဆို လေယာဉ်ကလေးတစ်ချက်နှိပ်လိုက်ရုံနဲ့ ငွေကြေးတွေကို ရွှေ့ပြောင်းနေနိုင်တဲ့ခေတ်ကြီးမှာ ဒါမျိုးကို တားဆီးဖို့ဆိုတာ အတော့်ကို ခက်ခဲတဲ့ကိစ္စဖြစ်လာတယ်။ ဒီတော့ အစိုးရတွေအနေနဲ့ တတ်နိုင်သမျှ သူများတန်းတူအနေအထားမှာ အခွန်တွေကို ထိန်းထားရုံကလွဲပြီး ရွေးချယ်စရာမရှိတော့ပါဘူး။

ဘယ်ဖြစ်ဖြစ် အချိန်ကြာလာတာနဲ့အမျှ အခွန်စနစ်တွေကို တစ်ခုနဲ့တစ်ခု ပေါင်းစပ်တည်ဆောက်လာကြတာကြောင့် နှစ်တွေကြာလာတာနဲ့အမျှ ပိုပြီးရှုပ်ထွေးလာ၊ ပိုပြီးတင်းတင်းမာမာဖြစ်လာတယ်။ William Pitt the Younger က ၁၇၉၈ မှာ ဗြိတိန်ရဲ့ ပထမဆုံးဝင်ငွေခွန်ကောက်ခံမှုကို စတင်တဲ့အခါတုန်းက သူ့အနေနဲ့ နပိုလီယံစစ်ပွဲအတွက် ယာယီအစိုက်အတန့်အစီအစဉ်တစ်ရပ်အဖြစ်ပဲ မရမက တောင်းခံခဲ့တာဖြစ်မယ်။ သူ့အနေနဲ့ အဲ့ဒီအချိန်လေးအတွက်ပဲ ရည်ရွယ်ခဲ့တာတောင်မှ ဖြစ်ကောင်းဖြစ်နိုင်ပါတယ်။

### အနှစ်ချုပ်အတွေးအခေါ်

**အခွန်ဆိုတာ သေခြင်းတရားလို ပဲ့ ကန့်ရှိနေတဲ့အရာပဲ**

# ၂၂ - အလုပ်လက်မဲ့ပြဿနာ

## Unemployment

**စီးပွားရေးပညာမှာ အရာရာတိုင်းဟာ နောက်ဆုံးမှာတော့ အလုပ်လက်မဲ့ပြဿနာဆီကိုပဲ ပြန်ရောက်လာကြတယ်။ နိုင်ငံရေးသမားတွေနဲ့ ကျွမ်းကျင်သူတွေအဖို့ တိုင်းပြည်ရဲ့ ဂျီဒီပီ၊ ငွေကြေးဖောင်းပွမှု၊ အတိုးနှုန်း၊ ချမ်းသာကြွယ်ဝမှုတောတွေအပေါ် ဘယ်လောက်ပဲအာရုံစိုက်စိုက်၊ လူတွေအလုပ်ရှိလား၊ မရှိဘူးလားဆိုတဲ့ ရိုးစင်းတဲ့မေးခွန်းလေးကတော့ အဓိကအချက်အချာအဖြစ်ရှိနေတာပါပဲ။ အလုပ်အကိုင်အပြည့်အဝရရှိရေးဆိုတာ ကမ္ဘာတစ်ဝန်းက နိုင်ငံရေးပါတီတွေရဲ့ မူဝါဒကြေညာစာတမ်းမှာ ပထမဆုံးကတိကဝတ်ပြုတတ်ကြတဲ့အရာမျိုးပဲ။ ဒါပေမဲ့ ဘယ်လောက်အတိုင်းအတာအထိ ကတိတည်သလဲဆိုတာကတော့ အတော်လေးအပြောင်းအလဲဖြစ်နိုင်ပါတယ်။**

လူတစ်ယောက်အလုပ်ပြုတ်တာနဲ့အတူတွဲပါလာတဲ့စိတ်သောကရောက်ရမှုတွေကို ထည့်စဉ်းစားမယ်ဆိုရင် အလုပ်လက်မဲ့ပြဿနာတွေကို ကိုင်တွယ်ဖြေရှင်းဖို့ အစိုးရတွေရဲ့စိတ်ပိုင်းဖြတ်ထားမှုကို နားလည်နိုင်ပါတယ်။ ဒါပေမဲ့ စီးပွားရေးစနစ်တစ်ရပ်ကို ပီပီလည်ပတ်စေဖို့ တက်ကြွလှုပ်ရှားတဲ့နည်းလမ်းတစ်ရပ်အဖြစ် လွတ်လပ်တဲ့ဈေးကွက်ကို အစိုးရတွေက ဖန်တီးတည်ဆောက်ထားတာကြောင့် ကုမ္ပဏီတွေအနေနဲ့ အလုပ်သမားတွေကို ပြုတ်နိုင်၊ ခန့်နိုင်တဲ့ပွမ်းနည်းရှိနေတယ်၊ အိမ်ခြံမြေအကျိုးဆောင်လုပ်ငန်းတစ်ခုအနေနဲ့ အရောင်းအဝယ်မကောင်းတဲ့ ကာလတွေမှာ သိပ်ပြီးအလုပ်မဖြစ်တော့တဲ့အခါ ဈေးကွက်ရှာဖွေရေးမန်နေဂျာတွေ၊ ရှေ့နေတွေကို လျှော့ချပြီးခြိမ်ခြွေတာရေးလုပ်ဖို့ ကြိုးစားနိုင်တယ်။

**အချိန်ပြဇယား:**

| ၁၉၃၃ | ၁၉၇၀ နှစ်များ |
| --- | --- |
| မဟာစီးပွားပျက်ကပ်ကာလအတွင်း ယူအက်စ်မှာ အလုပ်လက်မဲ့နှုန်း ၂၅ ရာခိုင်နှုန်းအထိရှိလာ | ရေနံဈေးတွေ တစ်ဟုန်ထိုးတက်လာပြီး အလုပ်လက်မဲ့နှုန်း ရုတ်တရက် ထိုးတက်သွားတယ် |



ဒါပေမဲ့ ဒီအသုံးစရိတ်တွေဆိုတာ ဝန်ထမ်းတွေကို အလုပ်ဖြုတ်လိုက်လို့ရလာမယ့် ချွေတာမှုနဲ့ ယှဉ်ကြည့်ရင်တော့ ဘာမှမပြောပလောက်ဘူး။ အစိုးရတွေက လူတွေကို ဘတ်နိုင်သမျှလုပ်ငန်းခွင်မှာရှိနေစေချင်တယ်။ ကုမ္ပဏီတွေကလည်း ကြွေးမြီကင်းရှင်းတဲ့အနေအထားနဲ့ ရပ်တည်နိုင်ဖို့ လိုလားကြတယ်။ ဒီအားရုန်းစိုကြားအပြန်အလှန်အားပြိုင်မှုတွေက လုပ်အားဈေးကွက်ကို ပုံဖော်ရုံတင်မကဘူး၊ စီးပွားရေးရဲ့ ဂဏ်ကြမ္မာကိုပါ ပုံဖော်ပေးနိုင်တယ်။

### လုပ်အားဈေးကွက်နှစ်ခုရဲ့ ပြဇာတ်

ဥရောပနဲ့ အမေရိကန်ပြည်ထောင်စုရဲ့ အတွေ့အကြုံတွေကို နှိုင်းယှဉ်လေ့လာကြည့်ရအောင်ပါ။ ဥရောပနိုင်ငံအများစုမှာ လုပ်သားဈေးကွက် ဥပဒေတွေက ကုမ္ပဏီတွေအနေနဲ့ အလုပ်သမားတွေကို အလုပ်ဖြုတ်နိုင်မှုအပေါ် တင်းသတ်ချက်တွေ ပြဋ္ဌာန်းထားတယ်။ အနိမ့်ဆုံးလုပ်ခလစာ သတ်မှတ်ချက်တွေကိုလည်း ပြဋ္ဌာန်းပေးထားတယ်၊ ဒါပေမဲ့ အမေရိကန်စီးပွားရေးပညာရှင် သောမတ်စ် ဆိုဝဲလ်ကတော့ Basic Economics စာအုပ်မှာ "အလုပ်အကိုင်လုံခြုံရေးပေါ်လစီတွေက အလုပ်ရှိနေသူတွေ အလုပ်အကိုင်မဆုံးရှုံးရအောင် ဆယ်မ, ပေးပေမယ့် စီးပွားရေးတစ်ရပ်လုံးအနေနဲ့ စရိတ်ရောက်မှုနဲ့ ပြောင်းလွယ်ပြင်လွယ်ရှိမှုတွေကိုတော့ ရင်းနှီးလိုက်ရတယ်။ ဒီလိုနဲ့ပဲ တခြားအလုပ်သမားတွေအတွက် အလုပ်အကိုင်သစ်တွေဖန်တီးမှုကို အတန့်အတားဖြစ်သွားစေတယ်" လို့ ရေးသားခဲ့တယ်။ ဒါကြောင့် ဥရောပနိုင်ငံတွေဟာ အမေရိကန်လောက် အလုပ်အကိုင်သစ်တွေကို မြန်မြန်ဆန်ဆန် ဖန်တီးပေးနိုင်တာတွေ့ရတယ်၊ အမေရိကန်ရဲ့ လုပ်သားဈေးကွက်ကတော့ တကယ့်ကို ပြောင်းလွယ်ပြင်လွယ်ရှိတာတွေ့ရတယ်၊

### အလုပ်လက်မဲ့ဆိုင်ရာ အဓိပ္ပါယ်ဖွင့်ဆိုချက်

အလုပ်လက်မဲ့ဆိုတာ အလုပ်အကိုင်မရှိတဲ့အခြေအနေလို့ ရိုးရိုးလေးပဲ တွေးနိုင်ပါတယ်၊ ဒါပေမဲ့ စီးပွားရေးပညာရှင်တွေအတွက်တော့ ဒီဖွင့်ဆိုမှုက မလုံလောက်ပါဘူး။ တစ်ပိုင်းတစ်စအလုပ်လက်မဲ့လို့ခေါ်တဲ့ အလုပ်တစ်ခုနဲ့တစ်ခုကြား ဘီတစ်ပတ်အနည်းငယ်လောက်ပဲ

**၁၉၇၉**

ကွန်ဆာဗေးတစ်ပါတီက "Labour isn't Working" လို့ မဲဆွယ်ကြော်ငြာချက်ထုတ်ပြန်ပြီး ယူကေနိုင်ငံရွေးကောက်ပွဲမှာ အနိုင်ရခဲ့

## အလုပ်လက်မဲ့ခံစားခွင့်

ရှိသင့်တာထက် ပိုပြီးဆွဲဆောင်မှုရှိတဲ့ အလုပ်လက်မဲ့အာမခံတွေကို ဖန်တီးပေးထားတာကြောင့် အစိုးရတွေဟာ လူတွေကို အလုပ်အကိုင်မရှိဘဲ နေချင်အောင်တွန်းအားပေးသလို ဖြစ်နေတာတွေကို မကြာခဏဆိုသလို တွေ့နေရတယ်။ ဒါနဲ့ပတ်သက်ပြီး ဟားဗတ်စီးပွားရေးပညာရှင် မာတင်ဖဲလ်စတိန်းက လေ့လာမှုတစ်ရပ်လုပ်ခဲ့တယ်။ လူတစ်ယောက် အလုပ်လုပ်ရင် တစ်နာရီကိုလုပ်ခ ၁၀ ဒေါ်လာရပြီး အလုပ်မရှိရင် အလုပ်လက်မဲ့ခံစားခွင့်က တစ်နာရီ ၈ ဒေါ်လာ ရတယ်ဆိုပါစို့။ အလုပ်လက်မဲ့ခံစားခွင့်အပေါ် ဝင်ငွေခွန်က ၁၈ % ဖြတ်လိုက်တာကြောင့် သူ့အနေနဲ့ တစ်နာရီကို ၆.၅၆ ဒေါ်လာခံစားခွင့်ရတယ်၊ အလုပ်ရှိတဲ့သူကတော့ ဝင်ငွေခွန် ၁၈ % နဲ့လူမှုဖူလုံရေးထည့်ဝင်ငွေ ၇.၅ % ဖြတ်လိုက်ရင် သူရတဲ့အသားတင်ဝင်ငွေက တစ်နာရီကို ၇.၄၅ ဒေါ်လာရမှာဖြစ်တယ်၊ နှိုင်းယှဉ်ကြည့်ရင် အလုပ်လုပ်လို့ပိုရမယ့် ငွေက တစ်နာရီကို ၀.၈၉ ဒေါ်လာပဲ ပိုရတာကြောင့် အလုပ်မလုပ်ဘဲ အနားယူနေတာက ပိုပြီးထိုက်တန်တယ်လို့ တွေးကောင်းတွေးကြလိမ့်မယ်၊ ဒါကြောင့် အစိုးရတွေဟာ လူတွေကိုအလုပ်ခွင်ပြန်သွားအောင်တွန်းအားပေးခြင်းနဲ့ အလုပ်ပြုတ်တဲ့အပေါ် နစ်နာကြေးထောက်ပံ့ပေးခြင်းကို ချိန်ညှိလုပ်ဆောင်ဖို့ အမြဲတမ်းကြိုးစားကြရတယ်၊

ခြားပြီးအလုပ်အကိုင်ယာယီမရှိတဲ့ ဘုံးပိုင်းအလုပ်သမားတစ်ယောက်နဲ့ စက်ရုံနိုင်ငံရပ်ခြားကို ပြောင်းရွှေ့သွားလို့ သူ့ကျွမ်းကျင်မှုအပေါ် ဝယ်လိုအားမရှိနိုင်တော့တဲ့ စက်ပြင်အလုပ်သမားတစ်ယောက်ကြားမှာ အခြေအနေတအများကြီးကွာခြားမှုရှိပါတယ်၊ ပထမလူက သိပ်မကြာခင်မှာပဲ လုပ်ငန်းခွင်ထဲပြန်ရောက်သွားတာပါ။ စက်ပြင်သမားကတော့ အကြာကြီးအလုပ်လက်မဲ့ဖြစ်သွားတာမို့ သူ့ကိုပြန်ပြီးလေ့ကျင့်ပေးရမယ့် ကုန်ကျစရိတ်ရှိနိုင်ပါတယ်။

မတူညီတဲ့ ဒီအခြေအနေတွေကို ကြိုးစားပြီးခွဲခြားကြည့်ဖို့ စီးပွားရေးပညာရှင်တွေဟာ အလုပ်လက်မဲ့အမျိုးအစားခွဲခြားမှုပုံစံ အမျိုးမျိုးကို တီထွင်ခဲ့ကြတယ်၊ အပြည်ပြည်ဆိုင်ရာအလုပ်သမားအဖွဲ့ချုပ် (အိုင်အယ်လ်အို)ရဲ့ အလိုအရတော့ လူတစ်ယောက်ဟာ အလုပ်လက်မဲ့ဖြစ်သွားပေမယ့် လုပ်သားဈေးကွက်ထဲကို



မြို့ရောက်ရှိ တက်တက်ကြွကြွကြိုးစားနေတဲ့ အခြေအနေကို အလုပ်လက်မဲ့အခြေအနေလို့ ခုံထိုတယ်။ ဒီသတ်မှတ်ချက်အရ ၂၀၀၈ ခုနှစ်မှာ ယူအက်စ်မှာ ၆.၅%၊ ယူကေမှာ ၅.၆% နဲ့ ဥရောပသမဂ္ဂမှာ ၇% ရှိတယ်လို့ ခေါ်ပြပါတယ်။ နောက်အမျိုးအစားတစ်ခုကတော့ ကာလရှည်ကြာအလုပ်လက်မဲ့ဖြစ်မှုပါ၊ အဲ့ဒီအမျိုးအစားကတော့ ကျောင်းသားတွေ၊ ပင်စင်စားတွေ၊ အိမ်မှာနေရတဲ့မိခင်တွေ၊ အလုပ်မလုပ်နိုင်တဲ့နာတာရှည်ရောဂါသည်တွေပါ ဝင်တာကြောင့် အတော်လေးအချိုးအစားကြီးမားပါတယ်။ ယူကေမှာဆို ၂၁% အထိ ရှိတာတွေ့ရတယ်။ အလုပ်လုပ်တဲ့အသက်အရွယ်တွေအလိုက်လည်း စီးပွားရေးပညာရှင်တွေက အမျိုးအစားခွဲခြားကြပြီး ဒါဟာ ကြောင်းကျိုးဆီလျော်မှုရှိတဲ့ ခွဲခြားမှုလို့ ဆိုနိုင်ပါတယ်။ ဒီလေ့လာမှုက ဆယ်ကျော်သက်အရွယ်မှာ ကာလရှည်ကြာအလုပ်မရှိတာလား၊ အဲ့ဒီနောက်ပိုင်းမှာ နှစ်ဆယ်ကျော်အရွယ်မှာ ကာလရှည်ကြာအလုပ်မရှိတော့တာလား၊ လုံးဝအလုပ်အကိုင်မရှိတော့တာလားဆိုတာကို ပြသပေးတယ်။

### အလုပ်လက်မဲ့တိုင်းတာမှုများ

အလုပ်လက်မဲ့ဖြစ်မှုကို နည်းလမ်းနှစ်မျိုးနဲ့ တိုင်းတာတယ်။ သမားရိုးကျနည်းလမ်းက အလုပ်လက်မဲ့အကျိုးခံစားခွင့် တောင်းဆိုတဲ့အရေအတွက်ကို တိုင်းတာတယ်။ ပြဿနာကတော့ အလုပ်မရှိဘဲ၊ အလုပ်ရှာနေသူတိုင်းက အလုပ်လက်မဲ့ခံစားခွင့်ကို မတောင်းဆိုကြတာဘဲ။ မတောင်းဆိုကြတဲ့ အကြောင်းရင်းကတော့ မျိုးစုံပါပဲ။ တချို့က ဂုဏ်သိက္ခာကြောင့်၊ တချို့ကလည်း အခြေအနေအရ စိတ်မပါလို့၊ တချို့ကျတော့လည်း သူတို့မှာ ခံစားခွင့်အတွက် အရည်အချင်းမပြည့်မီဘူးလို့ သံသယရှိကြတာတွေကြောင့်ဖြစ်တယ်၊ ခေတ်သစ်နည်းလမ်းကတော့ ပိုပြီးကျယ်ကျယ်ပြန့်ပြန့် ငြင်းခုံကြရတယ်။ ဒီနည်းက ကိုယ်တိုင်ပြုတဲ့အလွှာအလိုက် စစ်တမ်းကောက်ခံတဲ့နည်းပဲ။ ယူကေမှာ လက်ရှိအလုပ်အကိုင်အခြေအနေအရ နောက်ခံအခင်းအကျင်းမျိုးစုံကနေ တစ်ရင်းကောက်ယူလို့ရတဲ့ အရေအတွက် ၆ သောင်းနီးပါးရှိတာတွေ့ရတယ်။

စီးပွားရေးကောင်းမွန်ကျယ်ပြန့်လာတာနဲ့အမျှ အလုပ်လက်မဲ့အဆင့်တွေဟာ ကျဆင်းသွားတတ်တဲ့သဘောရှိတယ်၊ အမေရိကန်ပြည်ထောင်စုမှာ မဟာစီးပွားပျက်ကပ် ကာလတုန်းက အလုပ်လက်မဲ့ ၂၅% အထိ ရှိခဲ့တယ်။ ဒါပေမဲ့ အလုပ်လက်မဲ့နှုန်းဟာ ဘယ်တော့မှ သုညအထိတော့ ကျဆင်းမသွားခဲ့ဘူး။ အစိုးရတွေမှာ အလုပ်လက်မဲ့နှုန်းကို လျှော့ချလိုတဲ့ ကောင်းမွန်တဲ့

## အလုပ်လက်မဲ့နှုန်းများ

(အလုပ်လုပ်နိုင်သူဦးရေ၏ရာခိုင်နှုန်း) ၂၀၀၈ ခုနှစ်နှစ်ကုန်အထိ

| | |
|---|---|
| ဗြိတိန် | |
| အမေရိကန် | ၇.၉ |
| ဂျာမနီ | ၇.၆ |
| ယူနိုက်တက်ကင်းဒမ်း | ၇.၂ |
| ဂျပန် | ၆.၃ |
| ရင်းမြစ်။ အမျိုးသားစာရင်းအင်းဌာန | ၃.၉ |

ရည်ရွယ်ချက်ရှိကြပြီး စီးပွားရေး တိုးတက်အားကောင်းနေချိန်မှာ တောင်မှ အလုပ်လက်မဲ့နှုန်းက အလုပ်လုပ်နိုင်တဲ့ လူဦးရေရဲ့ ၄% အောက်ကို ကျဆင်းသွားတယ် ဆိုတာ ဖြစ်တောင့်ဖြစ်ခဲပါ။

လက်တွေ့မှာ အလုပ်အကိုင်အပြည့်အဝ ရရှိဖို့ဆိုတာ မဖြစ်နိုင်ပါဘူး။ တစ်ပိုင်းက အလုပ်ရှိနေရင်တောင် လူတွေက မှန်ကန်တဲ့အလုပ်အကိုင်ကိုရှာဖွေဖို့ အချိန်လိုအပ်တာကြောင့်ပါ။

နောက်တစ်ပိုင်းကလည်း စီးပွားရေးတိုးတက်ပြီး နည်းပညာတွေ တိုးတက်လာတာကြောင့် အလုပ်ရှိတာတောင် အဲ့ဒီအလုပ်လုပ်ကိုင်ရာမှာလိုအပ်တဲ့ ကျွမ်းကျင်မှုတွေ ချို့ယွင်းနေသေးလို့ပဲ ဖြစ်ပါတယ်။ မကြာခဏဆိုသလို အလုပ်သမားသမဂ္ဂတွေရဲ့လုပ်ခလစာတောင်းဆိုနိုင်မှုပါဝါနဲ့ အနိမ့်ဆုံးလုပ်ခလစာသတ်မှတ်ချက်တွေအရ လုပ်ငန်းတွေက သုတ်နိုင်တာထက် လုပ်ခလစာတွေကို ပိုပေးရတာကြောင့် အလုပ်လက်မဲ့နှုန်းဟာ ရှိနေတာထက် ပိုတက်သွားတဲ့ သဘောရှိတာတွေ့ရတယ်။ အလားတူပါပဲ၊ ရှိနေတဲ့အလုပ်လက်မဲ့ခံစားခွင့်ကလည်း အလုပ်လုပ်ဖို့ထက် အလုပ်လက်မဲ့ဘဝနဲ့နေဖို့ ပိုပြီးတွန်းအားပေးတဲ့အခြေအနေမျိုးဖြစ်နေနိုင်ပါတယ်။ ဒါကြောင့် နိုင်ငံတွေမှာ သဘာဝအလုပ်လက်မဲ့နှုန်းလို့ စီးပွားရေးပညာရှင်တွေခေါ်ကြတဲ့ ရေရှည်ပျမ်းမျှ အလုပ်လက်မဲ့နှုန်းတစ်ရပ်ရှိနေတာဖြစ်ပါတယ်။

ဗြိတိန်ရဲ့အကျော်ကြားဆုံး စီးပွားရေးပညာရှင်တစ်ယောက်ဖြစ်တဲ့ အေ ဒဗလျူဖီလစ်က အလုပ်လက်မဲ့အဆင့်နဲ့ ငွေကြေးဖောင်းပွမှုကြားက ဆန်းကြယ်တဲ့အဆက်အစပ်ကို ရှာဖွေတွေ့ရှိခဲ့တယ်။ အလုပ်လက်မဲ့နှုန်းက သတ်မှတ်အဆင့်တစ်ခုအောက်ကို ကျဆင်းသွားတဲ့အခါ ဒါက လုပ်ခတွေကို တွန်းတင်လိုက်တာကြောင့် ငွေကြေးဖောင်းပွမှုပိုဖြစ်လာတယ်။ ကြောင့်ပဲ၊ ဒီအခြေအနေရဲ့ဆန့်ကျင်ဘက်အခြေအနေမှာ အလုပ်လက်မဲ့နှုန်းမြင့်မားလာတဲ့အခါ



ဖောင်းပွမှုလည်း ကျဆင်းသွားတာ တွေ့ရတယ်။ စီးပွားရေးပညာဝေါဟာရအရတော့ ငွေကြေးဖောင်းပွမှုနဲ့ အလုပ်လက်မဲ့နှုန်းအကြားမှာ ပြောင်းပြန်ဆက်စပ်မှုရှိနေတာ ပဲဖြစ်တယ်။ ဖီလစ်သီအိုရီက စီးပွားရေးပညာမှာ ရေရှည်အခံဆုံးဖြစ်တဲ့ မိုဒယ်တစ်ခုကိုမွေးထုတ်ပေးခဲ့တာပါ။ နိုဒယ်ကို ဖီလစ်မျဉ်းကွေးလို့ခေါ်ပြီး ဒီမျဉ်းကွေးက ငွေကြေးဖောင်းပွမှုနဲ့ အလုပ်လက်မဲ့နှုန်းကြားမှာ ပြောင်းပြန် ဆက်စပ်မှုကို သရုပ်ဖော်ပြတယ်။ အလုပ်လက်မဲ့နှုန်းက ၄% လောက်မှာ ထိန်းထားချင်ရင် ငွေကြေးဖောင်းပွမှုက ၆% မှာငြိမ်နေမယ်။ ငွေကြေးဖောင်းပွမှုကို ၂% လောက်ပဲထားချင်ရင်တော့ အလုပ်လက်မဲ့နှုန်းက ၇% လောက်မှာထားဖို့ လက်ခံရမှာပဲဖြစ်တယ်။

> ❝ တစ်ခုတည်းသောအရေးအကြီးဆုံး ပက်သရိုဘာဝဒေအဆက်အစပ်က ဖီလစ်မျဉ်းကွေးဆိုတာ သေချာသလောက်ပါပဲ။ ❞
>
> **George Akerlof,**
> နိုဗယ်ဆုရစီးပွားရေးပညာရှင်

ကျော်ကြားတဲ့ စီးပွားရေးပညာရှင် မီလ်တန်ဖရိုင်းမင်းက အက်ဒ်မွန်ဖဲလ်နဲ့ပေါင်းပြီး ၁၉၆၀ ပြည့်နှစ်အကြေးအခေါ်အပေါ်မှာ နောက်ထပ်ခြေလှမ်းသစ်တစ်ရပ်လှမ်းခဲ့တယ်။ ဒါကတော့ ငွေကြေးဖောင်းပွမှုကိုမတိုးစေသောအလုပ်လက်မဲ့နှုန်း "non-accelerating inflation rate of unemployment" (NAIRU) ဆိုတဲ့ သီအိုရီတစ်ရပ်ကို တီထွင်ခဲ့တာပဲဖြစ်တယ်။ ဒီသီအိုရီရဲ့အာဘော်က ရေတိုမှာ ဖီလစ်မျဉ်းကွေးအရ ပေါ်လစီချမှတ်သူတွေအနေနဲ့ အလုပ်လက်မဲ့နှုန်းကို လျှော့ချနိုင်ပေမယ့် နောက်ဆုံးမှာ အလုပ်လက်မဲ့နှုန်းက သူ့ရဲ့ သဘာဝနှုန်းဆီကိုပြန်တက်သွားလိမ့်မယ်လို့ ဆိုလိုတယ်။ (အတိုးနှုန်းကို လျှော့ချပြီး စီးပွားရေးတိုးတက်အောင်အားထုတ်နေစဉ်အတွင်းမှာ ဖောင်းပွမှုတွေ မြင့်တက်လာနိုင်ပေမယ့် ဒါကတော့ နောက်ကဏ္ဍတစ်ခုပါပဲ။)

နိုင်ငံရေးသမားတွေကတော့ လူတွေအလုပ်အကိုင်ပိုရဖို့ကြိုးစားဖို့ ကတိကဝတ်တွေပေးနေကြတုန်းပါပဲ။ ဒါပေမဲ့ စီးပွားရေးပညာရှင်တွေကတော့ အလုပ်အကိုင်အပြည့်အဝရှိတယ်ဆိုတာ လက်တွေ့မှာ မဖြစ်နိုင်တဲ့အရာလို့ ဝမ်းနည်းစရာအဖြေကို ထုတ်ပေးခဲ့ပြီးပြီဖြစ်ပါတယ်။

အနှစ်ချုပ်အတွေးအခေါ်

### အလုပ်လက်မဲ့ လုံးဝမရှိရေးဆိုတာ မဖြစ်နိုင်ဘူး

# ၂၃ - ငွေကြေးစနစ်များနှင့် ဖလှယ်နှုန်းများ

## Currencies and exchange rates

**လွန်ခဲ့တဲ့နှစ်အနည်းငယ်က ဝါရှင်တန်ဒီစီက ဖက်ဒရယ်ရီဇက်အဖွဲ့က ကျွမ်းကျင်သူတွေဟာ အမေရိကန်ငွေကြေးစနစ်ကြီးတွေရဲ့ အနာဂတ်အလားအလာကို ကြိုတင်ခန့်မှန်းနိုင်ဖို့ မိုဒယ်တစ်ခုကို အတူတကွပူးပေါင်းဒီဇိုင်းထုတ်ခဲ့ကြတယ်။ နိုင်ငံခြားငွေကြေးဖလှယ်မှုဈေးကွက်ရဲ့ သတင်းအချက်အလက်တွေကိုရဖို့ တခြားဘယ်နိုင်ငံက စီးပွားရေးပညာရှင်တွေထက်မဆို သူတို့မှာ အခွင့်အလမ်းတွေပိုရှိတာကြောင့် သူတို့အောင်မြင်မယ်လို့ ယုံကြည်ခဲ့ကြတယ်။ လပေါင်းများစွာကြာအောင် ဒီစီမံကိန်းကို လုပ်ကိုင်ခဲ့ကြပြီးနောက်ဆုံးမှာ ဒီစက်ကို ခလုတ်ဖွင့်နိုင်တဲ့အချိန်ကို ရောက်လာခဲ့ပါတယ်။**

ရက်အတန်ကြာပြီးချိန်မှာတော့ ဒီစပ်းသပ်ချက်က လုံးဝအဖတ်ဆယ်မရအောင် ဖြစ်သွားတယ်ဆိုတာ ရှင်းလင်းပေါ်လွင်လာခဲ့တယ်။ ဖက်ဒရယ်ရီဇက်အဖွဲ့ရဲ့ ဥက္ကဋ္ဌဟောင်း အလန်ဂရင်းစပန်းကတော့ "လူတွေ၊ လုပ်အားတွေ၊ အချိန်တွေ ရင်းနှီးမြှုပ်နှံလိုက်တဲ့အပေါ် ပြန်ရလာမှုကတော့ အကြွင်းသုညပါပဲ" လို့ဆိုတယ်။ ဒီရလဒ်မျိုးက အံ့ဩစရာကောင်းချင်မှလည်း ကောင်းပါလိမ့်မယ်။ လူတွေက ငွေကြေးအရွေ့အပြောင်းတွေကို ကြိုတင်မှန်းဆဖို့ ကြိုးစားကြတာကြောင့် နိုင်ငံခြားငွေကြေးဖလှယ်မှုဈေးကွက်တွေဟာ ဒေါ်လာထရီလီယံချီတဲ့ ငွေနှစ်ဆစားရင်းနှီးမြှုပ်နှံမှုတွေကို နှစ်စဉ်ဆွဲဆောင်ထားပါတယ်။ ဒါပေမဲ့ ဒီဈေးကွက်တွေအားလုံးဟာ မတည်ငြိမ်ဆုံးနဲ့ ကြိုတင်ခန့်မှန်းရအခက်ဆုံးပါပဲ။

**အချိန်ပြဇယား:**

ကျွန်တော်တို့အားလုံး နိုင်ငံရပ်ခြားကို ခရီးသွားကြတဲ့အခါမှာ ငွေကြေးဈေးကစားသူတွေ ဖြစ်လာတယ်လို့ ပြောလို့ရနိုင်ပါတယ်။ ကျွန်တော်တို့အနေနဲ့ ဒေါ်လာ သို့မဟုတ် ပေါင်ကို

| ၁၉၄၄ | ၁၉၆၆ | ၁၉၇၉ |
|---|---|---|
| ဘရက်တန်ဝုဒ် သဘောတူညီချက် | ဘရက်တန်ဝုဒ်စနစ် စတင်ပျက်ပြယ် | ဥရောပငွေကြေးဖလှယ်မှုယန္တရား (ERM) ကို စတင်မိတ်ဆက် |



ဒီဆို သို့မဟုတ် ယူရိုနဲ့ လဲလှယ်လိုက်တာနဲ့ ကျွန်တော်တို့ဟာ နိုင်ငံခြားငွေကြေးစနစ်မှာ ရင်းနှီးမြှုပ်နှံသူတွေဖြစ်လာကြပါတယ်။ ကျွန်တော်တို့ အိမ်ပြန်ရောက်တဲ့အချိန်မှာ ဒီငွေကြေးတန်ဖိုးက တက်ချင်တက်သွားနိုင်သလို ကျချင်လည်းကျသွားနိုင်ပါတယ်။

### ငွေကြေးလဲလှယ်မှုဈေးကွက်များ

ငွေကြေးလဲလှယ်မှုဈေးကွက်တွေဆိုတာ ရင်းနှီးမြှုပ်နှံသူတွေ နိုင်ငံခြားငွေကြေးတွေ အရောင်းအဝယ် လုပ်ကြတဲ့နေရာပါ။ ဒီဈေးကွက်တွေဟာ ကမ္ဘာ့သက်တမ်းအရင့်ဆုံးဘဏ္ဍာရေး အင်စတီကျူးရှင်းကြီးတွေကြားမှာ ရှိနေတာဖြစ်ပါတယ်။ နောက်ပြန် တွဲဆန့်လိုက်ရင် ရှေးခေတ်နဲ့ရောမခေတ်မတိုင်ခင်အချိန်တွေအထိ ရောက်သွားနိုင်ပြီး ငွေကြေးနဲ့ နိုင်ငံခြားကုန်သွယ်မှုနဲ့ အပြိုင်ပေါ်ထွန်းလာခဲ့တဲ့ အင်စတီကျူးရှင်းကြီးတွေလို့ ဆိုနိုင်မှာဖြစ်ပါတယ်။ ဒါပေမဲ့ ရောမခေတ်အခြေအနေကတော့ ဒီနေ့ခေတ် ဈေးကွက်တွေရဲ့ နိုင်ငံတကာအထိကျယ်ပြန့်မှု၊ ရှုပ်ထွေးဆန်းပြားမှုနဲ့ အရွယ်အစားကိုတော့ မမီနိုင်ပါဘူး။

နှစ်စဉ် ဒေါ်လာ (သို့မဟုတ် ယူရို သို့မဟုတ် ပေါင်) ငွေကြေးတွေကို ထရီလီယံနဲ့ချီပြီး ရင်းနှီးမြှုပ်နှံသူတွေက အရောင်းအဝယ်လုပ်ကြတယ်။ ဒီရင်းနှီးမြှုပ်နှံသူတွေဟာ ဒေါ်လာငွေ အားကောင်းခိုင်မာမှုထိုးတက်သွားတဲ့အခါ အမေရိကန်ပြည်ထောင်စုကနေ တင်သွင်းတဲ့ သူတို့ရဲ့ သွင်းကုန်တွေကို အများကြီးပိုဈေးကြီးအောင်လုပ်ပြီး သူတို့ရဲ့အမြတ်အစွန်းတွေ မဆုံးရှုံးရအောင် စိတ်ဆန္ဒပြင်းပြနေတဲ့ ကုမ္ပဏီတွေဖြစ်နေလိမ့်မယ်။ ငွေနှစ်စားမှုတွေကို အာမခံနိုင်ဖို့အတွက် အဟန့်အတားတွေလုပ်ဖို့ကြိုးစားကြလိမ့်မယ်။ ဒီလိုအချိန်မျိုးတွေမှာ သူတို့တွေဟာ သူတို့ရဲ့ ကိုယ်ပိုင်ငွေကြေးတွေကို အဆင့်တစ်ခုမှာ ထိန်းထားဖို့ ငွေကြေးလဲလှယ်မှုဈေးကွက်ထဲမှာ ကြားဝင်စွက်ဖက်မှုတွေလုပ်တဲ့ အစိုးရတွေလိုပါပဲ။ တခြားအချိန်တွေမှာတော့ ငွေကြေးစနစ် တစ်ရပ်ဖရိုဖရဲဖြစ်တော့မယ်ဆိုတဲ့ ထင်မြင်ချက်နဲ့ ငွေကြေးခေါင်းပုံဖြတ်နေကာကွယ်နိုင် ရှယ်ယာတွေဝယ်ယူထားတဲ့ မန်နေဂျာတွေ ရင်းနှီးမြှုပ်နှံတဲ့သူတွေဖြစ်တယ်။ တစ်ခါတစ်ရံမှာတော့ သူတို့ဟာ ခင်ပျားတို့၊ ကျွန်တော်တို့လို နိုင်ငံခြားသားတိုးရစ်တွေပါပဲ။

| ၂၀၀၂ | ၂၀၀၅ |
|---|---|
| ယူရိုငွေကြေးစတင်သုံးစွဲ | တရုတ်နိုင်ငံဟာ သူ့ရဲ့ငွေကြေးယွမ်ငွေကိုဒေါ်လာ peg ချိတ်ထားမှုကို ဖြေလျှော့ |

## ယူရိုနှင့် ငွေကြေးယူနီယံများ

ငွေကြေးတစ်မျိုးတည်းကို နိုင်ငံတွေမျှဝေသုံးစွဲတဲ့ အထင်ရှားဆုံးငွေကြေးယူနီယံကတော့ ယူရိုပဲဖြစ်ပါတယ်။ ၂၀၀၈ ခုနှစ်မှာ ယူရိုငွေကြေးစနစ်မှာ အဖွဲ့ဝင်နိုင်ငံ ၁၅ နိုင်ငံပါဝင်တယ်။ ဥရောပငွေကြေးဖလှယ်မှုနှုန်းယန္တရား (ERM) က အဖွဲ့ဝင်ဖြစ်လာမယ့် နိုင်ငံတွေ အချင်းချင်းစီးပွားရေးကို သေချာအောင် အရင်ချိတ်ဆက်ပေးတယ်။ ယူရိုငွေကြေးကိုတော့ ၂၀၀၂ ခုနှစ်မှာ အပြည့်အဝ စတင်မိတ်ဆက်ခဲ့ပြီး အဖွဲ့ဝင်နိုင်ငံတိုင်းက သူတို့ရဲ့ကိုယ်ပိုင်ငွေကြေးနေရာမှာ ယူရိုငွေကြေးနဲ့အစားထိုးခဲ့ကြတယ်။

အစိုးရတွေအနေနဲ့ သူတို့ရဲ့စီးပွားရေးပေါ်လစီတွေကို လွတ်လွတ်လပ်လပ်ကြီးမပြီး လုပ်ကိုင်ကြတာကြောင့် အခြားငွေကြေးစနစ်တွေမှာ အတိတ်ကာလတွေက ဒီလိုအားထုတ်ခဲ့မှုတွေဟာ ပြိုကျခဲ့ရတယ်။ ဒါပေမဲ့ ယူရိုငွေကြေးစနစ်တည်ထောင်သူတွေကတော့ ယူရိုငွေကြေးနယ်ပယ်ကြီးတစ်ခုလုံးအတွက် အတိုးနှုန်းရှုမှတ်ဖို့ ဗဟိုဘဏ်တစ်ခုကို တည်ထောင်ခဲ့ကြပြီး အစိုးရတွေရဲ့ငွေချေးယူမှုနဲ့သုံးစွဲနိုင်မှုကို အကန့်အသတ်အတွင်းမှာပဲ လုပ်ဆောင်ဖို့ သဘောတူညီချက်တစ်ရပ်ကို တည်ဆောက်ပြီး ဒီပြဿနာကို ကိုင်တွယ်ဖြေရှင်းခဲ့တယ်။

သိပ်မကြာသေးခင်ကပဲ ပါရှန်းပင်လယ်ကွေ့နိုင်ငံတွေနဲ့ လက်တင်အမေရိကနိုင်ငံတွေကြားမှာလည်း ငွေကြေးယူနီယံတွေ ထူထောင်ဖို့ဖြစ်နိုင်ခြေတွေနဲ့ပတ်သက်လို့ ဆွေးနွေးပြောဆိုမှုတွေရှိလာနေပြီဖြစ်ပါတယ်။

### အတက်အကျ

ငွေကြေးတစ်ရပ်ရဲ့အတက်အကျဖြစ်ရတဲ့အကြောင်းတွေက အများကြီးပါပဲ။ ဒါပေမဲ့ ဒါနဲ့ပတ်သက်တဲ့အဓိကအကြောင်းကတော့ နှစ်မျိုးရှိတယ်လို့ ဆိုရမယ်။ ပထမအကြောင်းက အရေးအကြီးဆုံးပါပဲ၊ ဒီငွေကြေးနဲ့ဆက်စပ်နေတဲ့ (ဒီငွေကြေးကို ထုတ်ဝေခွင့်ရှိတဲ့) တိုင်းပြည်ရဲ့ စီးပွားရေးအခြေအနေအပေါ် သိမြင်နားလည်မှုတွေနဲ့ ဒီငွေကြေးဟာ ဟန်ချက်ညီညီအတက်အကျဖြစ်လေ့ရှိတာတွေ့ရတယ်၊ ဒုတိယအကြောင်းက ငွေကြေးရင်းနှီးမြှုပ်နှံသူတွေဟာ



တိုးမှုအများဆုံးငွေကြေးနောက်ကိုလိုက်လေ့ရှိတာပဲဖြစ်တယ်၊ နိုင်ငံတစ်နိုင်ငံမှာ အတိုးနှုန်းတွေမြင့်ပြီး အစိုးရရဲ့ဘွန်းစာချုပ်တွေနဲ့ တခြားရင်းနှီးမြှုပ်နှံမှုအခွင့်အလမ်းတွေက အရေးပါနေတယ်ဆိုရင် အတိုးနှုန်းအလွန်နိမ့်ကျနေတဲ့တိုင်းပြည်ထက် အရင်းအနှီးတွေ ပြန့်ဝင်လာဖို့သေချာတယ်၊

ကမ္ဘာတစ်ဝန်းက ရင်းနှီးမြှုပ်နှံသူတွေဟာ အဲ့ဒီရင်းနှီးမြှုပ်နှံမှုတွေကို အများကြီးတိုးပြီးဝယ်ယူကြမှာ ဖြစ်တယ်၊ အဲ့ဒီအခါ တိုင်းပြည်ရဲ့ရင်းနှီးမြှုပ်နှံမှုအတွက် ဝယ်လိုအားပိုလျှံမှုတွေဖြစ်လာပြီး ငွေကြေးရဲ့တန်ဖိုးကလည်း တက်လာမှာဖြစ်တယ်။ တစ်ဖက်မှာလည်း အတိုးနှုန်းတွေ ကျဆင်းပြီး လူတွေဟာအဲ့ဒီငွေကြေးအမျိုးအစားမှာ သူတို့ရဲ့ရင်းနှီးထားမှုတွေကို နှုတ်ထားခဲ့တဲ့အခါ ဒီငွေကြေးတန်ဖိုးဟာ ကျဆင်းလာမှာဖြစ်တယ်။

### အရှင်မျှောလား၊ အသေချိတ်လား

၁၉၇၀ ခုနှစ်တွေမှာ အနောက်ကမ္ဘာကနိုင်ငံအားလုံးနီးပါးမှာ ငွေကြေးကို အရှင်မျှောစနစ် ကျင့်သုံးတာကြောင့် အဲ့ဒီငွေကြေးတန်ဖိုးကို တခြားငွေကြေးအမျိုးအစားတွေနဲ့ယှဉ်ပြီး ဈေးအတက်အကျဖြစ်စေဖို့ဆိုတာ ဈေးကွက်တွေကပဲ ပြဋ္ဌာန်းပေးတာဖြစ်တယ်။ ဒါပေမဲ့ တခြားငွေကြေးအမျိုးအစားနဲ့ အသေချိတ်ထားတဲ့ တိုင်းပြည်တချို့လည်း ခြွင်းချက်အနေနဲ့ရှိပါတယ်။ အထင်ရှားဆုံးဥပမာပေးရရင်တော့ တရုတ်နိုင်ငံပါပဲ။ တရုတ်အစိုးရဟာ လိုအပ်လာရင် ဒေါ်လာနဲ့တန်ဖိုးသင့်ထားတဲ့ အက်ဆက်တွေကို ဝယ်ယူတဲ့နည်းနဲ့ ယွမ်မင်ဘီငွေကြေးကို ဒေါ်လာတန်ဖိုးနဲ့ဂရုတစိုက်ထိန်းချုပ်ထားတယ်၊

တခြားနိုင်ငံတွေဟာလည်း သူတို့ရဲ့ငွေတန်ဖိုးအလွန်အကျွံမြင့်တက်သွားမယ်၊ ဒါမှမဟုတ် ကျဆင်းသွားမယ်လို့ ယုံကြည်တဲ့အခါမျိုးတွေမှာ အခါအားလျော်စွာ အလားတူနည်းတွေကိုလုပ်ပြီး ကြားဝင်စွက်ဖက်မှုတွေလုပ်လေ့ရှိတယ်။ ထောင်စုနှစ် အလှည့်အပြောင်းကာလမှာတတည်းက ဂျပန်နဲ့ ယူရိုငွေကြေးသုံးနိုင်ငံတွေမှာ အလားတူလုပ်ဆောင်ခဲ့ဖူးတယ်၊ ဒီနည်းနဲ့ သူတို့ရဲ့ငွေကြေးကို အသေချိတ်ဆက်ထားတဲ့ နိုင်ငံတွေပေါ်ထွက်လာပြီး ဒါက ရှုပ်ထွေးအားနည်းချက်တွေအတွက် အကျိုးရှိကြောင်း ထင်ရှားတယ်၊ ဒီလိုလုပ်ခြင်းက တည်ငြိမ်မှုကို တိုးတက်လာစေပြီး လူတွေကို ရင်းနှီးမြှုပ်နှံဖို့နဲ့ ကူးသန်းရောင်းဝယ်မှုလုပ်ဖို့ တွန်းအားဖြစ်စေတာကြောင့်ဖြစ်တယ်၊

အရှင်မျှောနှုန်းတွေက မကြာသေးခင်အချိန်အထိတော့ ကမ္ဘာမှာ စံသတ်မှတ်ချက်မဟုတ်ကြဘူး။

၁၉ ရာစုနဲ့ ၂၀ ရာစု တစ်လျှောက်လုံး အစိုးရတွေဟာ သူတို့ရဲ့ငွေကြေးကို အသေနှုန်းတစ်ရပ်နဲ့ သတ်မှတ်ပြီး ထိန်းထားခဲ့ကြတယ်။ ရွှေစံချိန် (Gold Standard) ခေတ်တွေတုန်းက အစိုးရတွေဟာ သူတို့ငွေတိုက်ထဲက ရွှေပမာဏနဲ့ သူတို့သုံးတဲ့ငွေကြေးတန်ဖိုးကို စံချိန်ယူအသေသတ်မှတ်ခဲ့တယ်၊ ကမ္ဘာ့ပေါက်စနေရာတိုင်းမှာ ရွှေတန်ဖိုးကို အညီအမျှ သတ်မှတ်ပြီး ရွှေကို နိုင်ငံတကာ ငွေကြေးသုံး တစ်ရပ်အဖြစ် သဘောထားခဲ့ကြတယ်။ ရွှေစံချိန်စနစ်ကြောင့် စီးပွားရေးလုပ်ငန်းတွေအနေနဲ့ သူတို့ကုန်ပစ္စည်းတင်ပို့မယ့်နိုင်ငံရဲ့ ငွေကြေးအတက်အကျတွေက သူတို့ရဲ့ အမြတ်အစွန်းတွေကို ထိခိုက်မှာ မစိုးရိမ်ရတော့ဘူး၊ ဒါကြောင့် ဒီစနစ်က ကမ္ဘာ့ကုန်သွယ်ရေးကို တိုးတက်စေခဲ့တယ်၊ ဘူးပေါ်ရှိနေတဲ့ ရွှေပမာဏ ကုန်သွယ်ရေးနဲ့ ရင်းနှီးမြှုပ်နှံမှုအရှိန်ကို ထိန်းမထားနိုင်တဲ့ပြဿနာတော့ရှိတယ်။

> ဒေါ်လာဟာကျွန်တော်တို့အတွက်
> ငွေကြေးဖြစ်ကောင်းဖြစ်မယ်။
> ဒါပေမဲ့ခင်ဗျားအတွက်တော့ပြဿနာဖြစ်မယ်။
>
> **John Connally**
> သမ္မတနစ်ဆင်၏
> ဘဏ္ဍာရေးဝန်ကြီး
> (ဥရောပဓမ္မဘက်
> တာဝန်ရှိသူတွေကို ပြောသဲ့စကား)

နောက်ဆုံးမှာတော့ ရွှေစံချိန်စနစ်က အလျှင်အမြန် တိုးတက်နေတဲ့ စီးပွားရေးကို အခီကအပေါ်နဲ့အတား ဖြစ်လာတော့ကြောင့် မဟာစီးပွားပျက်ကပ်ဝန်းကျင် ကာလလောက်မှာ ဒီစနစ်ကိုစွန့်လွှတ်ခဲ့ကြတယ်၊

## ဘရီတန်ဝုဒ်

ဒုတိယကမ္ဘာစစ်အပြီးမှာ စီးပွားရေးပညာရှင်တွေနဲ့ မူဝါဒချမှတ်သူတွေပါဝင်တဲ့ အုပ်စုတစ်စုဟာ အမေရိကန်ပြည်ထောင်စု၊ နယူးဟမ့်ရှိုင်းယားပြည်နယ်၊ ဘရီတန်ဝုဒ်မြို့လေးက မောင့်ဝါရှင်တန် ဟိုတယ်မှာ တွေ့ဆုံခဲ့ကြတယ်၊ နိုင်ငံတကာငွေကြေးဖလှယ်မှုနှုန်းကို ထိန်းညှိဖို့အတွက် စနစ်သစ်တစ်ခုကို တီထွင်ဖို့ တွေ့ဆုံခဲ့ကြတာဖြစ်တယ်။ သူတို့ဟာ အဲဒီကာလက အမေရိကန်ဒေါ်လာနဲ့ညှိယူထားတဲ့ နှုန်းအသေစနစ်တစ်ရပ်ကို စဉ်းစားခဲ့ကြတယ်။ ကမ္ဘာမှာ အမေရိကန်ပြည်ထောင်စုက စီးပွားရေးစွမ်းပါဝါဖြစ်နေပြီး ဒေါ်လာငွေကြေးကလည်း ရွှေတန်ဖိုးနဲ့ချိတ်ပြီး တည်ငြိမ်မှုရှိနေတာကြောင့် အဲ့ဒီလို စဉ်းစားခဲ့ကြတာဖြစ်တယ်။ နိုင်ငံတိုင်းက သူတို့သုံးစွဲနေတဲ့ငွေကြေးကို ဒေါ်လာပမာဏနဲ့ ချိတ်ဆက်ထားဖို့ အာမခံရတာဖြစ်တယ်။

ငွေကြေးအမျိုးအစားတစ်ရပ်ကို နောက်ငွေကြေးတစ်မျိုးနဲ့ အသေချိတ်ဆက်ထားတဲ့ပြဿနာက အဲဒီနိုင်ငံအနေနဲ့ သူ့နိုင်ငံ ရဲ့စီးပွားရေးကို ထိန်းချုပ်ဖို့ စွမ်းရည်တချို့ကို ဆုံးရှုံးထားရသလို ဖြစ်နေတာပဲ



ဖြစ်တယ်။ ငွေကြေးယူနီယံတစ်ရပ်မှာ ပါဝင်နေတဲ့ တိုင်းပြည်က သူ့ရဲ့အတိုးနှုန်းကို မြှင့်တင်လိုက်တဲ့အခါ ကျန်တဲ့နိုင်ငံတွေကလည်း အလားတူလိုက်ပြီး မြှင့်တင်ကြရတယ်။ အဲ့လိုမှမလုပ်ရင် ကျန်တဲ့နိုင်ငံအဖို့ အရေးကြီးတဲ့ငွေကြေးပေါင်းပွမှုဝဲကတော့ကို အစပျိုးစွန့်တားလိုက်တာပဲဖြစ်တယ်။ ဒီလိုနဲ့ဘရီတန်ဝုဒ် အစီအစဉ်တွေဟာ ၁၉၆၀ ခုနှစ်မှာ စတင်ပျက်ပြယ်ခဲ့တယ်၊

## ငွေကြေးဈေးကစားခြင်း

ငွေလဲနှုန်းအသေသတ်မှတ်ထားတဲ့စနစ်တွေက ငွေကြေးရဲ့ကာလယ့်တန်ဖိုးအစစ်ကို နှုတ်ယူထားသလို ဖြစ်နိုင်တယ်လို့ တချို့က ဆိုတယ်။ ကြာသေးခဲ့စနစ်တွေအတွင်းမှာ ငွေကြေးဈေး ကစားသူတွေက နိုင်ငံတစ်နိုင်ငံရဲ့ငွေကြေးတွေကို ရောင်းထုတ်လိုက်ပြီး ဈေးနှုန်းသတ်မှတ်ချက် တွေကိုရေရှည်ထိန်းမထားနိုင်အောင် အပြင်းအထန်တိုက်ခိုက်ခဲ့ကြတဲ့ သာဓကတွေ အများကြီးပါပဲ။ ၁၉၉၀ နှောင်းပိုင်းနှစ်တွေမှာ ဘဏ္ဍာရေးအကျပ်အတည်းတွေဖြစ်နေတဲ့အချိန်အတွင်းမှာ အာရှနိုင်ငံတွေဟာ ဒီလိုဖြစ်ရပ်တွေကို အများကြီးကြုံခဲ့ကြရတယ်။ အထူးသဖြင့် ပေါင်စတာလင် ငွေကြေးက ပိုပြီးနာမည်ပျက်ခဲ့ရတယ်၊ (Black Wednesday လို့လူသိများတဲ့) ၁၉၉၂ ခုနှစ် စက်တင်ဘာ ၁၆ ရက်နေ့မှာ ယူကေအစိုးရအဖွဲ့ဟာ ဥရောပငွေကြေးဖလှယ်မှုယန္တရား (ERM) ကနေထွက်ဖို့ ဖိအားပေးခံခဲ့ရတယ်။ ဘန်းကြွယ်သူဌေးကြီးဂျော့ချ်ဆိုးရော့စ်ဦးဆောင်တဲ့ ငွေကြေးဈေးကစားသူတွေက စတာလင်ပေါင်တွေကို အချိန်တိုအတွင်းရောင်းထုတ်လိုက်ပြီး ဈေးကစားပြီးတဲ့နောက်မှာ ဒီလိုတွေ့ကြုံခဲ့ရတာဖြစ်တယ်၊ အတိုးနှုန်းကဂဏန်းနှစ်လုံးပမာဏအထိ မြင့်တက်လာပေမယ့် ယူကေဘဏ္ဍာတိုက်က စတာလင်ပေါင် ရင်းနှီးမြှုပ်နှံသူတွေရဲ့အစုလိုက် အပြုံလိုက်ထွက်ခွာသွားမှုကို မတားဆီးနိုင်ခဲ့ဘဲ၊ နောက်ဆုံးမှာ စတာလင်ပေါင်ကို တန်ဖိုးချပြီး လက်လျှော့အရှုံးပေးခဲ့ရတယ်။ အဲ့ဒီနေ့ဟာ ယူကေစီးပွားရေးအတွက် စိတ်ပျက်စရာ ကောင်းတဲ့နေ့တစ်နေ့ပါပဲ။ နိုင်ငံတစ်နိုင်ငံရဲ့ငွေကြေးအဆင့်အတန်းဟာ စီးပွားရေး မူဝါဒတွေနဲ့ပတ်သက်တဲ့ သဘောထားအမြင်တွေကို ဘယ်လိုတိုက်ရိုက်ထင်ဟပ်နေတယ်ဆိုတာ ဒီဖြစ်ရပ်က အထိရောက်ဆုံးသာဓကပါပဲ။

အနှစ်ချုပ်အတွေးအခေါ်

**နိုင်ငံတစ်နိုင်ငံရဲ့ အဆင့်အတန်းကိုပြတဲ့ ဘာရိုမီတာ**

# ၂၄ – ပြည်ပငွေပေးငွေယူရှင်းတမ်း

## Balance of payments

**မကြာသေးမီကာလကအထိ စီးပွားရေးသတင်းဆိုင်ရာရှုထောင့်အမြင်တချို့က ပြည်ပငွေပေးငွေယူရှင်းတမ်းဆိုင်ရာ ကိန်းဂဏန်းတွေအဖြစ် မျှော်လင့်တကြီးစောင့်စားခဲ့ကြပါတယ်။ ဂျီဒီပီနဲ့အတူတွဲပြီး နိုင်ငံတစ်နိုင်ငံရဲ့ စီးပွားရေးအခြေအနေကောင်း၊ မကောင်း အကဲဖြတ်ရာမှာ တခြားကမ္ဘာ့နိုင်ငံတွေနဲ့ ဘဏ္ဍာရေးနဲ့ စီးပွားရေးဆိုင်ရာ အပြန်အလှန်တုံ့ပြန်မှုအသေးစိတ်အချက်အလက်တွေကို အရေးအကြီးဆုံးအရာအဖြစ် သဘောထားခဲ့တယ်။ အခုအချိန်မှာ အရင်တုန်းကလို ပြည်ပငွေပေးငွေယူရှင်းတမ်းအပေါ် အရူးအမူးစွဲလန်းတာမျိုးမရှိတော့ပေမယ့် ဒီရှင်းတမ်းတွေဟာ နိုင်ငံတစ်နိုင်ငံရဲ့ နိုင်ငံတကာစီးပွားရေးဆက်သွယ်မှုတွေကို အဆုံးစွန်လမ်းပြပေးတဲ့အရာတွေအနေနဲ့တော့ ဆက်လက်တည်ရှိနေသေးတယ်။**

ပြည်ပငွေပေးငွေယူရှင်းတမ်းက နိုင်ငံတစ်နိုင်ငံရဲ့ အတွင်းနဲ့အပြင်ကို စီးဆင်းနေတဲ့ကုန်သွယ်မှုတွေအားလုံး ထည့်သွင်းထားတယ်လို့ စဉ်းစားမယ်ဆိုရုံလောက်နဲ့ သူ့ရဲ့အရေးပါမှုကို ပုံကြီးချဲ့လို့မရနိုင်လောက်ဘူး။ နိုင်ငံတစ်နိုင်ငံရဲ့အတွင်းနဲ့အပြင်ကို စီးဆင်းနေတဲ့ကုန်သွယ်ရေးလို့ ဆိုရာမှာ နိုင်ငံရပ်ခြားတိုင်းပြည်တွေက ဖြည့်သွင်းလာတဲ့ငွေကြေးတွေလည်းပါဝင်တယ်။ ဥပမာ - နိုင်ငံခြားတိုင်းပြည်မှာရှိတဲ့ မိသားစုတွေ၊ လုပ်ငန်းတွေက ပို့လိုက်တဲ့ ငွေကြေးတွေဖြစ်တယ်။ နိုင်ငံတစ်နိုင်ငံဟာ ငွေတွေချေးယူထားပြီး အနာဂတ်ကာလမှာ ဒုက္ခကြုံရမယ့်အလားအလာကို အလွန်အကျွံ အချိန်ဆွဲဆန့်ထားသလားဆိုတာနဲ့ ကုန်ပစ္စည်းတွေဖလှယ်ရာမှာ တခြားနိုင်ငံတွေကို ငွေသားတွေထုတ်ချေးထားလားဆိုတဲ့အခြေအနေကိုလည်း ပြည်ပငွေပေးငွေယူရှင်းတမ်းက ဖော်ပြပေးတယ်။ နောက်ဆုံးမှာဒီရှင်းတမ်းက နိုင်ငံတစ်နိုင်ငံရဲ့ အနာဂတ်ဟာ စီးပွားဖြစ်ထွန်းမှုဆီကို ဦးတည်နေသလား၊ ဒါမှမဟုတ် အဲဒါနဲ့ဆန့်ကျင်ဘက်ဖြစ်ပြီး ကြွေးမြီကင်းရှင်းဖို့ နိုင်ငံတကာငွေကြေးရန်ပုံငွေအဖွဲ့ (အိုင်အမ်အက်ဖ်) ထံကနေ အကူအညီတွေရဖို့ ကြိုးစားနေရလားဆိုတာကိုလည်း ဖော်ထုတ်ပေးပါလိမ့်မယ်။



### လက်ငင်းစာရင်းနှင့် ငွေလုံးငွေရင်းစာရင်း

တိုင်းပြည်တစ်ပြည်ရဲ့ ပြည်ပငွေပေးငွေယူရှင်းတမ်းမှာ လက်ငင်းစာရင်း (current accounts) နဲ့ ငွေလုံးငွေရင်းစာရင်း (capital accounts) ဆိုပြီး အပိုင်းနှစ်ပိုင်းပါဝင်တယ်၊

- လက်ငင်းစာရင်း ။ လက်ငင်းစာရင်းက နိုင်ငံတစ်နိုင်ငံရဲ့ ကုန်စည်နဲ့ ဝန်ဆောင်မှုတွေအဝင်အထွက်စီးဆင်းမှုကို တိုင်းတာပြတယ်၊ (ရုပ်ဝတ္ထုပစ္စည်းတွေလို) မြင်နိုင်တဲ့ကုန်သွယ်မှုနဲ့ (ဥပဒေအကြံပေးခြင်း၊ ကြော်ငြာခြင်း၊ ဗိသုကာလက်ရာပေးတဲ့ဝန်ဆောင်မှုတွေအတွက် ငွေပေးချေမှုလို) မမြင်ရတဲ့ကုန်သွယ်မှုတွေပါဝင်တယ်။ နိုင်ငံတစ်နိုင်ငံရဲ့ ပို့ကုန်ထက် သွင်းကုန်က သိသိသာသာများနေရင် ကြီးမားတဲ့လက်ငင်းစာရင်းလိုငွေပြမှုဖြစ်လိမ့်မယ်၊ ၁၉၈၀ နှစ်တွေ ကတည်းက ယူအက်စ်နဲ့ ယူကေနိုင်ငံတွေဟာ သူတို့ရဲ့ ပို့ကုန်ထက်သွင်းကုန်က ပိုများနေတာကြောင့် နှစ်တိုင်းနီးပါးကြီးမားတဲ့ လက်ငင်းစာရင်းလိုငွေပြမှုကို ကြုံခဲ့ရတယ်။ တစ်ဖက်မှာ လက်ငင်းစာရင်း ပိုငွေပြမှုကြီးကြီးမားမားရှိတဲ့ ဂျာမနီ၊ ဂျပန်နဲ့ တရုတ်နိုင်ငံတွေလို ပို့ကုန်တင်ပို့တဲ့ အဓိကတိုင်းပြည်ကြီးတွေလည်း ရှိပါတယ်၊ တရုတ်နိုင်ငံကတော့ ကမ္ဘာ့အနှံ့ကို ကုန်ပစ္စည်းအရေအတွက်အများအပြား ပို့ဆောင်နိုင်တာကြောင့် မကြာသေးမီကမှ ကမ္ဘာ့အလုပ်ရုံဆွေးနွေးပွဲတွေမှာ ပို့ကုန်တင်ပို့တဲ့ အဓိကတိုင်းပြည်လို့

**အချိန်ပြဇယား:**

- **၁၆၀၁ – ၇၂** ရွှေစံချိန်စနစ်ကို အသုံးချနေဆဲ
- **၁၉၄၄** ငွေကြေးဖလှယ်မှုဆိုင်ရာ နှုန်းသေသတ်မှတ်ချက်တွေအပေါ် ဘရက်တန်ဝုဒ်သဘောတူညီချက်ရရှိ
- **၁၉၇၀ နှစ်များ** ရစ်ချက် နစ်ဆင်က ဘရက်တန်ဝုဒ်စနစ်ကို စွန့်လွှတ်
- **၁၉၉၈** ရုရှားနိုင်ငံဟာ ပြည်ပငွေပေးငွေယူရှင်းတမ်း အကျပ်အတည်းနဲ့ ရင်ဆိုင်ရပြီး ကြွေးမြီပေးဆပ်ဖို့ ပျက်ကွက်တဲ့အပေါ်မှာ ဖိအားပေးခံရ
- **၂၀၀၈** အိုက်စလန်၊ ယူကရိန်းနဲ့ လတ်ဗီးယားနိုင်ငံတွေဟာ အကြွေးတွေကို အရှင်မပျောက်ဖို့ အိုင်အမ်အက်ဖ်ရဲ့ အထောက်အပံ့ရယူရန် ဖိအားပေးခံရ

## မတူညီတဲ့ လိုငွေအမျိုးအစား

ပြည်ပငွေပေးငွေယူရှင်းတမ်းတွေဟာ သတ်မှတ်ထားတဲ့အချိန်ကာလတစ်ခု (များသောအားဖြင့် တစ်နှစ် သို့မဟုတ် သုံးလ) အတွင်း နိုင်ငံတစ်နိုင်ငံနဲ့ တခြားကမ္ဘာ့နိုင်ငံတွေအကြား ဘဏ္ဍာရေးနဲ့ စီးပွားရေးစီးဆင်းမှုတွေကို မှတ်တမ်းတင်ထားတယ်။ ဒီထဲမှာ အစိုးရကဏ္ဍရော၊ ပုဂ္ဂလိကကဏ္ဍရော နှစ်ခုစလုံး ပါဝင်တယ်၊ ပြည်ပငွေပေးငွေယူရှင်းတမ်းကို ရသုံးခန့်မှန်းခြေငွေစာရင်း (ဘက်ဂျက်) သို့မဟုတ် ဘဏ္ဍာရေးစာရင်းနဲ့ မရောထွေးဖို့ လိုတယ်။ ဘဏ္ဍာရေးစာရင်းတွေက အစိုးရတစ်ရပ်ရဲ့အသုံးနဲ့ ချေးယူငွေတွေကို မှတ်တမ်းတင်တာဖြစ်တယ်။

သတ်မှတ်ခံလာရတာဖြစ်တယ်၊ နိုင်ငံခြားမှာအလုပ်သွားလုပ်သူတွေက မိသားစုတွေဆီပြန်ပို့တဲ့ငွေ၊ နိုင်ငံခြားကလာတဲ့အကူအညီနဲ့ လက်ဆောင်တွေလိုမျိုး နိုင်ငံခြားက လွှဲပြောင်းပေးတဲ့ ဘယ်လိုငွေကြေးလွှဲပြောင်းမှုမျိုးကိုမဆို လက်ငင်းစာရင်းမှာ အကျုံးဝင်တယ်။

- **ငွေလုံးငွေရင်းစာရင်း။** တိုင်းပြည်တစ်ပြည်ဟာ သူ့ရဲ့လက်ငင်းစာရင်းမှာ လိုငွေပြနေနိုင်ပေမယ့် ဒါကို တခြားနေရာတွေမှာ သေချာပေါက် စာရင်းပြန်ညှိဖို့လိုပါတယ်၊ ဂျပန်နိုင်ငံဟာ အမေရိကန်ကို ဒေါ်လာတစ်သန်းဖိုး ကားတွေ ရောင်းရမယ်ဆိုရင် ဒီဒေါ်လာတွေက စာရင်းထဲဝင်လာမှာဖြစ်တယ်။ ဒါကို အမေရိကန်မှာ ရင်းနှီးမြှုပ်နှံမှုတွေလုပ်ပြီးတော့ဖြစ်ဖြစ်၊ အမေရိကန်ဘဏ်အကောင့်တွေထဲကို ထည့်သွင်းလိုက်ပြီးတော့ဖြစ်ဖြစ် သုံးပစ်ရပါမယ်။ အလားတူဖြစ်ရပ်က ၁၉၉၀ နှစ်တွေနဲ့ ၂၀၀၀ နှစ်တွေတစ်လျှောက်လုံးမှာ အမေရိကန်ရယ်၊ အနောက်နိုင်ငံတွေရယ်နဲ့ ကုန်သွယ်ရာမှာ အလုံးအရင်းနဲ့ ပိုငွေရရှိခဲ့တဲ့ တရုတ်နိုင်ငံဟာ ဒီငွေပုံကြီးကို အမေရိကန်ဒေါ်လာ ထရီလီယံနဲ့ ချီတန်တဲ့ အမေရိကန်ရင်းနှီးမြှုပ်နှံမှုတွေကို ဝယ်ယူဖို့ သုံးစွဲခဲ့တယ်။

### အန္တရာယ်မရှိသော လိုငွေများ

ထုံးစံအတိုင်း ကုန်သွယ်မှုလိုငွေနဲ့အတူ တွဲပါလာလေ့ရှိတဲ့ လက်ငင်းစာရင်းလိုငွေဟာ



နိုင်ငံကို တခြားနိုင်ငံတွေဆီကနေ ငွေချေးဖို့ အချက်ပြပေးတယ်၊ နိုင်ငံရဲ့ တားသုံးလိုတဲ့ဆန္ဒဟာ သူ့ရဲ့ဝယ်လိုအားကို ဖြည့်ဆည်းဖို့ ကုန်ပစ္စည်းထုတ်လုပ်နိုင်တဲ့ စွမ်းရည်ထက် အလေးသာနေတယ်ဆိုတာကိုလည်း ညွှန်ပြနေပါတယ်။ ဒီအခြေအနေဟာ သာမန်အတိုင်းအတာလောက်အတွက် ပြောရမယ်ဆိုပေမယ့် အတော်လေးပမာဏများနေပြီဆိုရင်တော့ စိုးရိမ်စရာဖြစ်လာပါတယ်။ လက်ငင်းစာရင်းလိုငွေအတိုင်းအတာအတန်အသင့်လောက်က နိုင်ငံတစ်နိုင်ငံမှာ လုံးဝစီးပွားရေးကောင်းတဲ့အခြေအနေဖြစ်နိုင်ပါတယ်၊

၁၉၈၀ နှစ်တွေတစ်လျှောက်လုံးမှာနဲ့ နောက်တစ်ခါ သက္ကရာဇ် ၂၀၀၀ အစောပိုင်းနှစ်တွေမှာ အမေရိကန် လက်ငင်းစာရင်းလိုငွေဟာ ဂျီဒီပီရဲ့ ၆ % လောက်အထိမြင့်တက်နေပြီး ဒေါ်လာတစ်ထရီလီယံရဲ့ လေးပုံသုံးပုံပမာဏလောက် အထိမြင့်တက်ခဲ့တာ ဖြစ်ပါတယ်။ ယူကေမှာလည်း ဂျီဒီပီရဲ့အလားတူရာခိုင်နှုန်းလောက်ကို လက်ငင်းစာရင်းလိုငွေပြခဲ့တယ်။

နိုင်ငံတွေဟာ ပြည်ပငွေပေးငွေယူရှင်းတမ်းအကျပ်အတည်းကို ခြေညွှန့်အဝကြုံရနိုင်တယ်လို့ တချို့က သတိပေးခဲ့ကြတယ်။ ပြည်ပငွေပေးငွေယူရှင်းတမ်းရဲ့ လက်ငင်းစာရင်းမှာ တခြားနိုင်ငံတွေကနေ ဝင်ငွေမရနိုင်တဲ့အခါ ဒီလိုအဖြစ်မျိုးနဲ့ ကြုံရနိုင်တယ်။ ၁၉၉၀ နှောင်းပိုင်းနှစ်တွေမှာ အာရှဘဏ္ဍာရေးအကျပ်အတည်းကာလမှာ ဒီအဖြစ်မျိုးတွေအများကြီးကြုံခဲ့ရသလို ရုရှားနိုင်ငံမှာလည်း အဲ့ဒီအချိန်က အလားတူအဖြစ်မျိုးတွေကြုံခဲ့ရတယ်။ အဆိုပါနိုင်ငံတွေမှာ လက်ငင်းစာရင်းလိုငွေ ပမာဏကြီးကြီးမားမားရှိခဲ့တာဖြစ်တယ်။ အကြောင်းကတော့ ကမ္ဘာအနှံ့က ရင်းနှီးမြှုပ်နှံသူတွေဟာ အဲ့ဒီနိုင်ငံတွေမှာ စီးပွားရေးကျဆင်းတော့မယ်ဆိုတာ ရိပ်စားသိမြင်ခဲ့တာကြောင့် ရှာသယ်ငွေ၊ ဘတ်ငွေစတဲ့ငွေကြေးအမျိုးအစားတွေနဲ့ တန်ဖိုးသင့်ထားတဲ့ ဘယ်အက်ဆက်တွေကိုမှ မဝယ်ကြတော့တာကြောင့်ဖြစ်တယ်။ သဘောကတော့ ငွေလုံးငွေရင်းစာရင်းက လက်ငင်းစာရင်းလိုငွေကို ညှိမပေးနိုင်တော့ဘူးဆိုတဲ့သဘောပဲ။ ဒီငွေရေးကြေးရေးအခြေအနေက ပြင်းထန်ပြီးရှောင်လွှဲမရနိုင်တဲ့ စီးပွားရေးအကျပ်အတည်းကို

မလွဲဧကန်ဖြစ်ပေါ်လာစေတော့တာပါပဲ။

ဒါပေမယ့် လိုငွေအများစုကို ဘေးအန္တရာယ်ကင်းကင်းနဲ့ နှစ်ပေါင်းများစွာ ဆွဲဆန့်ထားနိုင်ပါတယ်၊ နိုင်ငံတစ်နိုင်ငံက ကြီးမားတဲ့ လက်ငင်းစာရင်း လိုငွေပမာဏကို ကိုင်တွယ်စီမံတဲ့အခါ ပေါ်လာတဲ့အကျိုးဆက်ရလဒ်က အမြဲတမ်းပဲ စီးပွားရေးအကျပ်အတည်းတစ်ခုဖြစ်လာတာတော့ မဟုတ်ပါဘူး။ ဒါပေမဲ့ အဲ့ဒီနိုင်ငံရဲ့ ငွေကြေးတန်ဖိုးကတော့ ကျဆင်းသွားမှာ သေချာပါတယ်၊ ငွေလဲနှုန်းကျဆင်းသွားတဲ့အခါ အဲ့ဒီနိုင်ငံရဲ့ပို့ကုန်တွေဟာ ပေါလာပြီး နိုင်ငံခြားသားတွေအတွက် ပိုပြီးဆွဲဆောင်စိတ်ဝင်စားစရာဖြစ်လာပါတယ်။ ဒါကပဲ တိုင်းပြည်ရဲ့ ရောင်းကုန်တွေပိုပြီးကျယ်ပြန့်လာစေမယ့် အလှည့်အပြောင်းတစ်ခုဖြစ်လာပါတယ်၊ ပြည်ပတင်ပို့တဲ့ ရောင်းကုန်တွေတိုးလာတာက လက်ငင်းစာရင်းလိုငွေကို လျော့ကျသွားစေနိုင်ပါတယ်၊ ဒါကြောင့် နိုင်ငံတကာငွေလဲနှုန်းအရှင်မျှောစနစ်မှာ လက်ငင်းစာရင်းလိုငွေတွေဟာ မလွဲဧကန်ကြုံရဘတ်ပြီး ဒါတွေဟာ သူ့ဟာသူပြန်လည်တည့်မတ်သွားမယ့်အရာတွေပဲလို့လည်း ယူဆကြတယ်၊

## စာရင်းများညှိခြင်း

နိုင်ငံတစ်နိုင်ငံမှာ လက်ငင်းစာရင်းလိုငွေပြနေရင် ပြည်ပရင်းနှီးမြှုပ်နှံမှုတွေက ရငွေနဲ့ သုံးငွေကို တိုင်းတာထားတဲ့ ငွေလုံးငွေရင်းစာရင်းရှိညီမျှတဲ့ ပိုငွေပမာဏနဲ့ ညှိယူရပါမယ်၊ ဒီသဘောကို ဥပမာပြရရင် ဗြိတိန်နိုင်ငံသားတွေနဲ့ ဗြိတိသျှကုမ္ပဏီတွေရဲ့နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုကရနေရမယ့်ဝင်ငွေနဲ့ နိုင်ငံရဲ့ လက်ငင်းစာရင်းလိုငွေပမာဏကို ထေမိခုမိသွားတဲ့သဘောပဲဖြစ်တယ်၊

နိုင်ငံတစ်နိုင်ငံရဲ့ငွေကြေးအမျိုးအစားတစ်ရပ် (ပေါင်ဖြစ်စေ၊ ဒေါ်လာဖြစ်စေ၊ ပီဆိုဖြစ်စေ) နဲ့ တန်ဖိုးသင့်ထားတဲ့အက်ဆက်တွေကို တခြားနိုင်ငံတွေက အများအပြားဝယ်ဖို့ ဆန္ဒရှိနေတယ်ဆိုရင်တော့ အဲ့ဒီနိုင်ငံအနေနဲ့ သူ့ရဲ့ပို့ကုန်ပမာဏထက် သွင်းကုန်တွေပိုသွင်းနိုင်မှာဖြစ်ပါတယ်၊ ဒါဟာ ပို့ကုန်ထက် သွင်းကုန်တွေ ပိုသွင်းနိုင်မယ့်တစ်ခုတည်းသောနည်းလမ်းပဲဖြစ်တယ်၊



" ကျွန်တော်တို့နိုင်ငံဟာ ရေပတိုက်ပိုမိုငွေပြုရေးလုပ်ငန်းကြီးတွေ ပိုင်ဆိုင်ပြီး
အလွန်အပင်းချမ်းသာကြွယ်ဝတဲ့ မိသားစုတစ်စုလိုပြုမူနေထိုင်နေခဲ့ကြတယ်။
ကျွန်တော်တို့ထုတ်လုပ်နိုင်တာထက် ၄% လောက်ပိုသုံးစွဲခဲ့ကြရင်း နေ့စဉ်ရက်ဆက်ဆိုသလို
ကျွန်တော်တို့ဟာ လယ်ယာလုပ်ငန်းတွေကို တစတစနဲ့ရောင်းချခဲ့ကြပြီး
ကျွန်တော်တို့ပိုင်ဆိုင်နေဆဲအရာတွေရဲ့အပေါင်စာချုပ်နဲ့ ချေးငွေပမာဏကလည်း တိုးတိုးလာနေခဲ့တယ်။ "

ဝါရင်း ဘက်ဖက်

## လိုငွေပြမှုတွေအပေါ် ဂရုတစိုက်စောင့်ကြည့်ခြင်း

ဒါကအမြဲတမ်းဖြစ်နေတဲ့ကိစ္စတော့မဟုတ်ပါဘူး။ အပေါ်မှာ ရှင်းပြခဲ့သလိုပါပဲ၊ သမိုင်းတစ်လျှောက် ငွေလဲနှုန်းအခေသ သတ်မှတ်ထားတဲ့စနစ်တွေ ရှိခဲ့ဖူးပါတယ်၊ အထင်ရှားဆုံးကတော့ ၁၉ ရာစုနဲ့ ၂၀ ရာစုအစောပိုင်းကာလတွေမှာ ရှိခဲ့တဲ့ ရွှေစံချိန်စနစ်နဲ့ ၁၉၄၅ ခုနှစ်ကနေ ၁၉၇၀ အစောပိုင်းနှစ်တွေမှာ ကျင့်သုံးခဲ့တဲ့ ဘရိုက်တန်ဝုဒ်စနစ်အစီအစဉ်တွေပဲဖြစ်ပါတယ်၊ ဒီကာလအပိုင်းအခြားတွေအတွင်းမှာ လက်ငင်းစာရင်းလိုငွေပြတဲ့နိုင်ငံတွေရဲ့ စီးပွားရေးဟာ ကျဆင်းသွားလေ့ရှိတယ်၊ နိုင်ငံရေးသမားတွေနဲ့ စီးပွားရေးပညာရှင်တွေဟာ သူတို့ရဲ့ စီးပွားရေးအခြေအနေ တောင်းမကောင်းကို သိရှိနိုင်ဖို့ပြည်ပငွေပေးငွေယူရှင်းတမ်း တရင်းဇယားတွေကို စေ့စေ့စပ်စပ်ကြည့်ရှုစစ်ဆေးခဲ့ကြပါလိမ့်မယ်၊

ကမ္ဘာကြီးဟာ ငွေလဲနှုန်းအခေသသတ်မှတ်တဲ့စနစ်တွေဆီကို နောက်ပြန်လှည့်မသွားတော့ဘူးဆိုရင်တောင်မှ နိုင်ငံတွေအနေနဲ့ လက်ငင်းစာရင်း လိုငွေပြနေလား၊ ပိုငွေပြနေလားဆိုတာကို အရေးတကြီး စောင့်ကြည့်စစ်ဆေးနေဦးမှာပါ၊ ဒါမှပဲ သူတို့ရဲ့ငွေပေးငွေယူရှင်းတမ်းရဲ့ဖွဲ့စည်းပုံအနေအထားကို သတ်မှတ်နိုင်မှာဖြစ်ပြီး ဒီတရင်းဇယားတွေက နိုင်ငံရဲ့အနာဂတ် ချမ်းသာကြွယ်ဝမှုအတွက် စံပေတံတစ်ခုဖြစ်နေဆဲပါပဲ၊

အနှစ်ချုပ်အတွေးအခေါ်

**နိုင်ငံတစ်နိုင်ငံရဲ့ နိုင်ငံတကာစီးပွားရေးဆက်သွယ်ချက်များဆိုင်ရာ စာရင်းဇယား**

# ၂၄ - ယုံကြည်မှုနှင့်ဥပဒေ

## Trust and the law

**တစ်ကီလိုဂရမ်ဟာ ဘယ်လောက်လေးပါသလဲ။ ဒီမေးခွန်းဟာ ကြောင်တောင်တောင်နိုင်တယ်လို့ ထင်စရာပါပဲ။ တစ်ခုခုကို ကောက်မချိန်တွယ်လိုက်တဲ့အခါ ဒီပစ္စည်းဟာ တစ်ကီလို၊ တစ်ပေါင်၊ တစ်စတုန် စတဲ့အလေးချိန်ရှိတယ်ဆိုတာမျိုးကို အားလုံးက အလိုလိုသိနားလည်ကြပြီးသားပါ။ ဒါပေမဲ့ တစ်ကီလိုဂရမ်လေးတယ်လို့ တရားဝင်အတိအကျသတ်မှတ်ထားတဲ့အရာဝတ္ထုဆိုလို့ ကမ္ဘာပေါ်မှာ တစ်ခုတည်းရှိပါတယ်။ အဲ့ဒီပစ္စည်းကို ပြင်သစ်နိုင်ငံ၊ ပါရီမြို့ ပြင်နားကမြေအောက်ခန်းထဲမှာ အစောင့်အရှောက်နဲ့ ထိန်းသိမ်းထားပါတယ်။ ၁၈၈၉ ခုနှစ်မှာ ပလက်တီနမ်နဲ့ အီရီဒီယမ်ရောပြီးပြုလုပ်ထားတဲ့ ဒီဒုလုံးရှည်လေးဟာ နိုင်ငံတကာရှေ့ပြေးတစ်ကီလိုဂရမ်အလေးချိန်ရှိ အရာဝတ္ထုတစ်ခုဖြစ်ပြီး ကမ္ဘာပေါ်က အတိုင်းအတာတွေအားလုံးကို စံကိုက်ချိန်ညှိပေးတယ်။**

ဒီသတ္တုချဲလေး ပျက်စီးသွား၊ ပျောက်ဆုံးသွားရင် ကမ္ဘာတစ်ဝန်းက စီးပွားရေးလုပ်ငန်းတွေ တဖြည်းဖြည်းနဲ့ အရှိန်သေပြီး လုံးဝရပ်တန့်သွားမှာကို စိုးရိမ်ပူပန်မှုများစွာရှိတာကြောင့် ဒီသတ္တုချဲလေးကို အပြည့်အဝကာကွယ် စောင့်ရှောက်ထားကြတယ်၊ ကမ္ဘာတစ်ဖက်ခြမ်းက စက်ရုံတွေကနေ သံမဏိမက်ထရစ်တန်တစ်တန် (၁၀၀၀ ကီလို) ဝယ်ယူနေတဲ့ ကုမ္ပဏီတစ်ခုဟာ စံကိုက်ချိန်ညှိထားတဲ့ စကေးအတိအကျမဟုတ်ဘဲ တစ်ပတ်ရိုက်ခံလိုက်ရတာမျိုး မဖြစ်ဖို့လိုပါတယ်၊ တိကျတဲ့သံမဏိ ပမာဏကို ရ၊ မရဆိုတာ မသေချာတော့ဘဲဖြစ်သွားနိုင်ပါတယ်။

### စံနှုန်းများသတ်မှတ်ခြင်း

စီးပွားရေးတစ်ရပ်ဟာ တရားဝင်နှုန်းစံတွေမရှိဘဲ၊ ဝွမ်းအားပြည့်အကောင်းဆုံးလည်ပတ်လုပ်ကိုင်နိုင်မှာမဟုတ်ဘူး။ တရားဝင်နှုန်းစံတွေကို ပြည်တွင်းဥပဒေတွေအရရော၊

**အချိန်ပြဇယား:**

**အေဒီ ၅၂၉**
အရှေ့ရောမအင်ပါယာဧကရာဇ် Justinian က သူ့ရဲ့ အခြေခံဥပဒေထဲမှာ ခေတ်သစ်တရားမဥပဒေအခြေခံ အုတ်မြစ်တွေကို ချမှတ်ပေးခဲ့

**၁၁၀၀–၁၂၀၀**
အလယ်ခေတ် အင်္ဂလန်မှာ မလေ့ထုံးတမ်းဥပဒေနစ် စတင်ပေါ်ပေါက်လာ



နိုင်ငံတကာဥပဒေတွေအရပါ သတ်မှတ်ထားရတယ်၊ ဒါ့အပြင် ဗဟိုဘဏ်တွေကနေ ငွေဆင်ကုမ္ပဏီတွေ နဲ့ လမ်းဘေးဈေးသည်တွေအထိ လုပ်ငန်းတွေအားလုံးနီးပါးကို ပွင့်လင်းစွာ လုပ်သင့်တယ်လို့ ယုံကြည်ကြတဲ့ လွတ်လပ်ဈေးကွက်အယူအဆကို အလေးထား လိုက်နာသူအများစုကတောင် ဥပဒေနဲ့ ပစ္စည်းပိုင်ဆိုင်ခွင့် အခွင့်အရေးတွေကို ပြဋ္ဌာန်း သတ်မှတ်ပေးဖို့ အစိုးရတွေကို လိုအပ်နေသေးတယ်ဆိုတာကို လက်ခံကြတယ်၊ ဒီလို ဥပဒေပြဋ္ဌာန်း ချက်တွေမရှိရင်၊ လွတ်လပ်တဲ့ဈေးကွက်ဟာ ကောင်း ကောင်းမွန်မွန်လည်ပတ်လုပ်ကိုင်နိုင်မှာ မဟုတ်သလို၊ ၁၈ ရာစုမှာ ဒေဘဂဗေဒပညာရပ်ရဲ့ခေါင်းကိုင် ဖခင်ကြီးအဒမ်စမစ်ညွှန်ပြခဲ့တဲ့ အန္တရာယ်တစ်ခုဖြစ်တဲ့ မင်းပွဲစရိုက်အခြေအနေမှာ ကျွန်တော်တို့တွေ ကျန်ရစ်ခဲ့ပါလိမ့်မယ်၊

လူတွေနဲ့ စီးပွားရေးလုပ်ငန်းတွေကြားထဲက စာချုပ်စာတမ်းတွေ အကျိုးသက်ရောက်မှုရှိစေဖို့နဲ့ နိုင်ငံသားတွေ လိုက်နာရမယ့် စံသတ်မှတ်ချက်တွေကို ချမှတ်ပြဋ္ဌာန်းပေးဖို့ အစိုးရတွေ လိုအပ်ပါတယ်၊ လူသားတွေ အနေနဲ့ သူတို့ပိုင်ဆိုင်ထားတဲ့တစ်စုံတစ်ရာကို အကြောင်းမဲ့ ဗိုလ်ကျ သိမ်းယူခြင်း မခံရနိုင်ဘူးဆိုတာနဲ့၊ လိမ်လည်လှည့်ဖျားခြင်းနဲ့ ခိုးယူခြင်းတွေဟာ သေချာပေါက် အပြစ်ပေးခံရလိမ့်မယ်ဆိုတာကို သိနားလည်နေပြီး လုံခြုံစိတ်ချရမှုရှိနေဖို့လိုအပ်ပါတယ်၊ ဘဏ်တစ်ဘဏ်ကနေ တစ်စုံတစ်ယောက်ကို ငွေချေးဖို့ ချင့်ချိန်စဉ်းစားတဲ့အခါ ဒီလူဟာငွေကို ပြန်ဆပ်နိုင်လိမ့်မယ်ဆိုတဲ့အပေါ် သူတို့အနေနဲ့ ယုံကြည်စိတ်ချမှုရှိမရှိ ဆိုတဲ့အပေါ် အခြေခံပြီး ဆုံးဖြတ်ပါတယ်၊ အလားတူပါပဲ၊ နိုင်ငံတစ်နိုင်ငံအနေနဲ့ ရယူထားတဲ့ချေးငွေပမာဏ အမြောက်အမြားကို အနာဂတ်မှာမပျက်မကွက် ပြန်လည်ပေးဆပ်မယ်ဆိုတာ နိုင်ငံတကာရင်းနှီးမြှုပ်နှံသူတွေ ယုံကြည်အောင် ကိုင်တွယ်ဖြေရှင်းပေးနိုင်ရမှာဖြစ်ပါတယ်၊

အရင်းရှင်စနစ်ဟာ ယုံကြည်စိတ်ချရမှုအပေါ် တကယ့်ကိုပဲ မှီခိုအားထားရတယ်၊

အရောင်းအဝယ်လုပ်ငန်းတစ်ခုမှာ တစ်ဖွဲ့နဲ့ တစ်ဖွဲ့ယုံကြည်မှုရှိရုံတင်မကဘူး၊ အရောင်းအဝယ်အပေါ် ကန့်သတ်တောင်းဆိုထားတဲ့ တည်ဆောက်ပုံအပေါ်မှာပါ ယုံကြည်မှုရှိဖို့ လိုတယ်၊ ဒါကြောင့် အစိုးရရဲ့အဓိကအခန်းကဏ္ဍဟာ လူမှုကောင်းကျိုးလုပ်ဆောင်ဖို့၊ အတိုးနှုန်းကိုဆုံးဖြတ်ပေးဖို့နဲ့

**၁၇၀၀–၁၈၀၀**
ကူးသန်းရောင်းဝယ်ရေးဆိုင်ရာ ဥပဒေကို နိုင်ငံရဲ့ တရားဥပဒေစနစ်အတွင်း စတင်ထည့်သွင်းရေးသားခဲ့တယ်

**၁၉၀၀ ခောင်းပိုင်းနှစ်များ**
ဥရောပသမဂ္ဂတည်ထောင်မှုနဲ့အတူ ဥရောပမှာ ဥပဒေအလွှာသစ်တစ်ရပ် တည်ဆောက်ခဲ့ရ

ဉစ္စာနေပြန်လည်ခွဲဝေဖြန့်ဖြူးပေးဖို့မဟုတ်ဘဲ၊ ပစ္စည်းဥစ္စာပိုင်ဆိုင်ခွင့်နဲ့ တခြားဥပဒေအကြောင်းအရာ ရပိုင်ခွင့်အခွင့်အရေးတွေနဲ့ပတ်သက်ပြီး တည်ငြိမ်မှုရှိတဲ့စနစ်တစ်ရပ်ပေါ်ပေါက်လာအောင် အလေးထားလုပ်ဆောင်ပေးဖို့ ဖြစ်ပါတယ်။ ဒီစနစ်က ဥပဒေချိုးဖေါက်သူတွေကို တာဝန်ခံစေဖို့၊ တာဝန်ရှိစေဖို့ လုပ်ဆောင်ပေးမှာဖြစ်တယ်။

စက်မှုတော်လှန်ရေးကာလတစ်လျှောက် ဗြိတိန်နိုင်ငံရှင်သန်ခဲ့တဲ့ အဓိကအကြောင်းတရားတစ်ရပ်က သူ့ရဲ့ဥပဒေစနစ်ဟာ လေးလေးစားစားမှီခိုအားထားနိုင်တယ်လို့ အသိအမှတ်ပြုခံခဲ့ရတာကြောင့်ပဲ။ ဒီနေရာမှာ တခြားဥရောပနိုင်ငံတွေနဲ့ယှဉ်ရင်အရမ်းကိုကွာခြားနေတာ တွေ့ရတယ်။ တခြားဥရောပ နိုင်ငံတွေမှာ စစ်ပွဲတွေ၊ အပြောင်းအလဲမှုတွေနဲ့ ပိုင်ဆိုင်မှုအခွင့်အရေးတွေ အပေါ်မရေရာဖြစ်နေခဲ့ရတယ်။ ဒါ့အပြင် မြေပိုင်ရှင်တွေအနေနဲ့လည်း သူတို့ရဲ့ပိုင်ဆိုင်မှုတွေနဲ့ ပတ်သက်ပြီး အပြည့်အဝပိုင်ဆိုင်ပါတယ် ဆိုတာ ဘယ်တော့မှစိတ်ချလက်ချ ယုံကြည်မထားနိုင်ကြဘဲ၊ မတရားလုပ်ခံရမလားဆိုတဲ့အပေါ် စိုးရိမ်ပူပန်နေခဲ့ကြရတယ်။

## ဉာဏပစ္စည်း မူပိုင်ခွင့်

မျက်စိနဲ့ မြင်ရတဲ့ပစ္စည်းဥစ္စာတွေရဲ့ ပိုင်ဆိုင်ခွင့်အခွင့်အရေးကိုတင် ကာကွယ်ပေးဖို့လိုတာမဟုတ်ဘဲ၊ စိတ်ကူးအိုင်ဒီယာတွေ၊ အနုပညာတီထွင်ဖန်တီးမှုတွေလို မမြင်ရတဲ့အရာတွေအပေါ်ပိုင်ဆိုင်ခွင့် အခွင့်အရေးတွေကိုလည်း ကာကွယ်ပေးဖို့လိုအပ်တယ်။ တီထွင်ဖန်တီးသူတစ်ယောက်ဟာ သူ့ရဲ့ တီထွင်ဖန်တီးမှုနဲ့ပတ်သက်ပြီး ဘာအခွင့်အရေး၊ ဘာအကျိုးအမြတ်မှ မရဘဲ၊ သူ့ရဲ့တီထွင်မှု လုပ်ငန်းပြီးပြီးချင်းမှာ ဒါကို တခြားလူတွေက အသုံးချတော့မယ်ဆိုတာ သိရင် ဒီလိုတီထွင်ဖန်တီးမှုတွေလုပ်ဖို့ မက်လုံးတွေမရှိသလောက်ဖြစ်နေမှာပါပဲ၊

ဒါကြောင့် စီးပွားရေးတစ်ရပ်ကောင်းမွန်စွာလည်ပတ်နိုင်ဖို့အတွက် အစိုးရတွေအနေနဲ့ မူပိုင်ခွင့်နဲ့ တခြားဉာဏပစ္စည်းပိုင်ဆိုင်ခွင့်ဆိုင်ရာတည်ငြိမ်တဲ့စနစ်တစ်ရပ်ကို အသေအချာစီစဉ်ပေးရမှာ ဖြစ်ပါတယ်၊ ဥပမာ – အချိန်သတ်မှတ်ချက်တစ်ရပ်အတွင်း စာရေးဆရာတွေရဲ့စာမူတွေ ခိုးယူကူးချခြင်းမခံရအောင်အကာအကွယ်ပေးထားတဲ့ copyright လို စာမူမူပိုင်ခွင့်မျိုးပေါ့။

တရုတ်နဲ့ အိန္ဒိယလို ထွန်းသစ်စစီးပွားရေးနိုင်ငံတွေပေါ်လာတဲ့ ကျေးဇူးကြောင့် ဉာဏပစ္စည်း မူပိုင်ခွင့်အခွင့်အရေးဟာ မကြာသေးမီနှစ်တွေအတွင်းမှာ တကယ့်ကိုပဲ စေ့စေ့ပေါ်ပေါ် စစ်ဆေးရတဲ့ အခြေအနေကို ရောက်လာနေခဲ့တယ်။ ဒီလို နိုင်ငံတွေမှာ စည်းမျဉ်းစည်းကမ်းတွေ၊ ဥပဒေတွေနဲ့



ခေလ့လုံးတမ်းစံသတ်မှတ်ချက်တွေကို အတည်ပြုထိန်းသိမ်းဖို့ရာ ခက်ခဲတယ်။ အကျိုးဆက်ကို ဥပမာပြရရင် အဲ့ဒီနိုင်ငံတွေက ကုမ္ပဏီတွေဟာ အနောက်တိုင်းဆေးဝါးကုမ္ပဏီတွေရဲ့သုတေသန ဖြစ်မြောက်မှုတွေအပေါ်အခြေခံပြီး ဈေးသက်သက်သာသာနဲ့ လိုင်စင်မဲ့ထုတ်လုပ်မှုတွေကို လုပ်လာနိုင် ကြတယ်။ အစပိုင်းမှာ စားသုံးသူတွေအနေနဲ့ ဒီလိုဈေးပေါပေါနဲ့ လိုင်စင်မဲ့ထုတ်လုပ်မှုတွေကို ကြိုဆိုခဲ့ကြပေမယ့် နောက်ပိုင်းမှာ အဲ့ဒီနိုင်ငံတွေက ထုတ်လုပ်တဲ့ကုန်ပစ္စည်းတွေအပေါ် ယုံကြည် စိတ်ချရရဲ့ပါ့မလားဆိုတာနဲ့ ပတ်သက်ပြီး ထိတ်လန့်တုန်လှုပ်မှုတွေ ရှိလာခဲ့ကြတယ်။ တရုတ်နိုင်ငံက ထုတ်တဲ့ ဆေးဝါးအတုတွေဟာ ဘာမှအာနိသင်မရှိတာ၊ ဒါမှမဟုတ် အန္တရာယ်ဖြစ်စေတာတွေကို တွေ့လာကြရတယ်။

## တရားမဝင်မျှဝေခြင်း

တော်သစ်နည်းပညာက အထည်ကိုယ်ခြပ်မရှိတဲ့ စိတ်ကူးအိုင်ဒီယာတွေကို မြန်မြန်ပျံ့နှံ့စေဖို့ အလွန်လွယ်ကူတာ ကြောင့်၊ မကြာသေးမီနှစ်တွေမှာ ဉာဏပစ္စည်းမူပိုင်ခွင့်ဆိုင်ရာ အခြင်းအစုံတွေဟာ အလွန့်အလွန်စိတ်လှုပ်ရှားဖွယ်ရာအခြေအနေကို ရောက်ရှိလာခဲ့တယ်။ တွန်းပြူတာပေါ်က ခလုတ်လေးတစ်ချက်နှိပ်လိုက်တာနဲ့ လူကြိုက်များတဲ့ အမ်ပီသရီးသီချင်း တစ်ပုဒ်ကိုပဲဖြစ်ဖြစ်၊ မကြာသေးမီက ထုတ်ထားတဲ့ရုပ်ရှင်ကားတစ်ကားကိုပဲဖြစ်ဖြစ် တရားမဝင်ဒေါင်းလုတ်ဆွဲလိုက်နိုင်ပါတယ်။ အဆိုတော်တို့၊ သရုပ်ဆောင်တို့ကို ဘာငွေကြေး တစ်ပြားတစ်ချပ်မှမပေးရဘဲ၊ ဖျော်ဖြေမှုကိုအခမဲ့ရရှိနိုင်ပါတယ်၊ ဒါကြောင့် အလကားရတဲ့ နေ့လည်စာဆိုတာမရှိဘူးဆိုတဲ့ ဘောဂဗေဒနည်းမျဉ်းကို စဉ်းစားကြည့်ရင် ဒီကိစ္စအတွက် ဘယ်သူက ဘာကယ်ပိုက်ဆံပေးလိုက်ရသလဲဆိုတာ မေးခွန်းထုတ်စရာဖြစ်လာပါတယ်။

အဖြေကတော့ သွယ်ဝိုက်တဲ့နည်းနဲ့ ကျွန်တော်တို့အားလုံးပေးလိုက်ရတယ်လို့ဆိုတယ်။ အနုပညာရှင်တွေရဲ့ဝင်ငွေက လျော့ကျလာ၊ ထုတ်လုပ်သူတွေကလည်း နောက်ထပ်ထုတ်လုပ်ဖို့ ကော်လုံးတွေလျော့ကျလာ၊ ဒီလုပ်ငန်းတွေကလည်း လူတွေကို သိမ်ပြီးမဆွဲဆောင်နိုင်တော့ဘဲ၊ တဖြည်းဖြည်းနဲ့နောက်ဆုံးမှာ ဈေးကွက်ထဲက တေးသီချင်းတွေ၊ ရုပ်ရှင်ဇာတ်ကားတွေရဲ့အရည်အသွေး တွေလည်း ကျဆင်းလာတော့တာပါပဲ။ အစဉ်အလာဘောဂဗေဒကတော့ ဒီလို မူပိုင်ခွင့်ထိပါးမှုတွေကို နည်းနိုင်သမျှလျှော့နည်းအောင်လုပ်ဖို့ အစိုးရတွေမှာ တာဝန်ရှိတယ်လို့ ဆိုကြမှာပါပဲ။ ဒါပေမဲ့ တချို့သူတွေကတော့ အနုပညာရှင်တွေအနေနဲ့ မူပိုင်ခွင့်အဖိုးအခရငွေလျော့နည်းသွားပေမယ့် လုံလောက်တဲ့ဝင်ငွေပမာဏကောင်းကောင်းတော့ ရနေသေးတာပဲလို့ စောဒကတက်ကြပါတယ်။

## မြို့စွန်ထဲစုရပ်ကွက်လေးက ပစ္စည်းဥစ္စာပိုင်ဆိုင်ခွင့် အခွင့်အရေး

ဆင်းရဲနွမ်းပါးသူတွေဟာ တကယ်ပဲ ကျွန်တော်တို့ ထင်ထားသလောက် ဆင်းရဲကြရဲ့လား။ ပီးရူးနိုင်ငံသား စီးပွားရေးပညာရှင်ဟာ နန်ဒိုဒီဆိုတိုကတော့ ကမ္ဘာ့အဆင်းရဲဆုံး မိသားစုတွေဟာ သူတို့ရဲ့ပိုင်ဆိုင်ပစ္စည်းတွေနဲ့ ပတ်သက်ပြီး ဥပဒေအရ အခွင့်အရေးမရှိတာကြောင့်သာ ဆင်းရဲနေကြတာပဲလို့ ဆိုခဲ့တယ်။ ဘရာဇီးနိုင်ငံ၊ ရီယိုမြို့နားမှာရှိတဲ့ ဆင်းရဲသားရပ်ကွက်လေးက တဲကုပ်လေးမှာ မိသားစုတစ်စု နေထိုင်တယ်ဆိုပါစို့။ သူတို့ဟာ (သူတို့ရဲ့အိုးအိမ်ပစ္စည်းတွေကို ခိုးယူ၊ ဖျက်ဆီးဖို့ကြိုးစားတတ်တဲ့) ဒေသခံ ရာဇဝတ်သားတွေ၊ ဒါမှမဟုတ် (မြို့စွန်တဲ စုရပ်ကွက်မှာနေထိုင်သူတွေကို တခြားနေရာကို မောင်းထုတ်ဖို့ ကြိုးပမ်းတတ်တဲ့) အစိုးရတွေကြောင့် ဆင်းရဲသားတွေကြားမှာ တရားမဝင်ပစ္စည်းပိုင်ဆိုင်ခွင့်အခွင့်အရေးနဲ့ တရားမဝင် ဥပဒေအခွင့်အရေးတွေပဲ ဖွံ့ဖြိုးရှင်သန်နေပြီး သူတို့ဟာ ကျားသနားမှ နွားချမ်းသာဆိုတဲ့ အခြေအနေမျိုးမှာပဲ နေထိုင်နေကြရတာဖြစ်တယ်။

ဒီပြဿနာရဲ့အဖြေကတော့ ဒီဆင်းရဲသားတွေကို သူတို့ရဲ့ပိုင်ဆိုင်မှုနဲ့ ပတ်သက်ပြီး တရားဝင်အခွင့်အရေးတွေပေးအပ်ဖို့ပဲလို့ ဒီဆိုတိုက ဆိုတယ်။ ဒီနည်းက သူတို့အနေနဲ့ ဒီပိုင်ဆိုင်မှုတွေကို ပိုပြီးစောင့်ရှောက်ပေးရုံသက်သက်မဟုတ်ဘဲ၊ သူတို့ရဲ့အိုးအိမ်တွေကို အာမခံပစ္စည်းတစ်ခုလိုအသုံးချပြီး ငွေချေးယူတာတွေကိုလည်း လုပ်နိုင်မှာဖြစ်တယ်။ ဖွံ့ဖြိုးဆဲကမ္ဘာက ဆင်းရဲသားတွေ ပိုင်ဆိုင်တဲ့အိုးအိမ်တွေရဲ့စုစုပေါင်း တန်ဖိုးဟာ လွန်ခဲ့တဲ့နှစ် ၃၀ အတွင်း ဖွံ့ဖြိုးပြီးနိုင်ငံတွေကို ပေးခဲ့တဲ့ နိုင်ငံခြားကထောက်ပံ့ကူညီမှု စုစုပေါင်းထက် အဆ ၉၀ ပိုများတယ်လို့ ဒီဆိုတိုက ဆိုတယ်။

### အများပိုင်ရဲ့အဖြစ်ဆိုး

ဆင်းရဲသားတွေ၊ ပစ္စည်းဥစ္စာပိုင်ဆိုင်ခွင့်အခွင့်အရေးအလုံအလောက်မရသူတွေကလည်း စီးပွားရေးတစ်ရပ်ကို ကြီးကြီးမားမား ဖျက်ဆီးစေနိုင်တယ်။ လူတွေကို ပိုင်ဆိုင်မှုအခွင့်အရေးတွေအပေါ်အာမခံချက်ပေးလိုက်ခြင်းက သူတို့ရဲ့ပိုင်ဆိုင်မှုတွေထဲကို ဒီတန်ဖိုးတွေထည့်ပေါင်းပြီး အဲ့ဒီပိုင်ဆိုင်မှုတွေ ကို လွတ်လွတ်လပ်လပ်ရင်းနှီးမြှုပ်နှံကြမှာပဲဖြစ်တယ်။ လူတစ်ယောက်အနေနဲ့ အိပ်ခန်းတစ်ခန်းကို ကျူးကျော်နေထိုင်တာမျိုးမဟုတ်ဘဲ၊ ကိုယ်ပိုင်အဖြစ်ပိုင်ဆိုင်ထားတာဆိုရင်



ဒီအခန်းကို ဆေးသုတ်ဖို့ ငွေတွေ၊ အချိန်တွေထပ်ပြီးသုံးစွဲကောင်းသုံးစွဲမှာပါပဲ။ ဒီအခင်းအကျင်းရဲ့ ဆန့်ကျင်ဘက်အခြေအနေက အများပိုင်ရဲ့အဖြစ်ဆိုးအခြေအနေ "tragedy of the commons" ပဲဖြစ်တယ်။ လူတွေဟာ သူတို့ ကိုယ်ပိုင်မဟုတ်တာကြောင့် အရင်းအမြစ်တွေကို အလွဲသုံးစားပြုကြတဲ့ အခြေအနေမျိုးပါပဲ (အခန်း ၁ ကို ကြည့်ပါ)။

အနောက်တိုင်းဘောဂဗေဒပညာရှင်တွေ ကွန်မြူနစ်ခေတ်မှာ ဆိုဗီယက်ယူနီယံကို လာရောက် လည်ပတ်ကြတဲ့အခါ နိုင်ငံဟာ အစာရေစာအကျပ်အတည်းဆိုက်ရောက်နေပေမယ့် လယ်သမားတွေကတော့ သူတို့ရဲ့မြေဆီမြေနှစ်ကောင်းတဲ့ လယ်မြေတွေကို ဒီအတိုင်းပစ်ထားတာ၊ ဂိုဒေါင်တွေ၊ လယ်ကွင်းတွေထဲမှာ သီးနှံတွေလေလွင့်နေတာတွေကို သူတို့မြင်တွေ့ခဲ့ကြတယ်။ ပြဿနာက ကွန်မြူနစ်စနစ်အောက်မှာ လယ်သမားတွေအနေနဲ့ သူတို့ရဲ့သီးနှံတွေအပေါ် တိုက်ရိုက်ပိုင်ဆိုင်မှုအခွင့်အရေးမရတာပဲ။ ဒီတော့ သူတို့အနေနဲ့ လယ်ကွင်းတွေထဲမှာ ပင်ပင်ပန်းပန်းကြိုးစားပြီး သီးနှံတွေ ပိုထွက်အောင်လုပ်ချင်စိတ်မက်လုံး မရှိတော့ဘူး။ အာဖရိကမြောက်ပိုင်းမှာ သဲကန္တာရကျယ်ပြန့်လာရတဲ့အကြောင်းက ရာသီဥတုကြောင့် သက်သက်မဟုတ်ဘူး၊ ကြိုးစားပမ်းစားလုပ်ကိုင်မယ်၊ ရင်းနှီးမြှုပ်နှံမှုတွေ လုပ်မယ်ဆိုရင် ဒီဧရိယာတွေကို မြက်ခင်းပြင်အဖြစ် ပြောင်းလဲနိုင်တဲ့အခြေအနေတွေရှိပါတယ်။ ဒါပေမဲ့ ဒီမြေတွေကို ခြေကြည်ရာမြက်နုရာလှည့်လည်ကျက်စားနေကြတဲ့လူမျိုးတွေကပဲ အသုံးပြုကြပြီး သူတို့အနေနဲ့ ဒီမြေတွေကို ပြုပြင်ထိန်းသိမ်းစောင့်ရှောက်ဖို့စိတ်မဝင်စားဘဲ၊ တစ်နေရာမကောင်း၊ တစ်နေရာပြောင်းနေကြတယ်။ ဒါကြောင့် ဒီမြေတွေဟာ မကြာခဏဆိုသလို စားကျက်မြေတွေအဖြစ် အလွန်အကျွံရောက်ရှိသွားရတယ်။

အစိုးရတွေဟာ လူတွေအနေနဲ့ ဥပဒေတွေ၊ စာချုပ်တွေကို လိုက်နာဖို့ ဆောင်ရွက်ပေးရုံတင်မကဘဲ၊ လူတွေ စီးပွားရေးထဲမှာ ဝင်ရောက်လည်ပတ်လုပ်ကိုင်စေဖို့ မှန်ကန်တဲ့ ဥပဒေတွေပြဋ္ဌာန်းပေးဖို့လည်း လိုသေးတယ်။ တစ်ချိန်တည်းမှာပဲ အစိုးရတွေအနေနဲ့ အလေး၊ တင်း၊ တောင်း၊ အချိန်အတွယ် အတိုင်းအတာတွေကိုလည်း ထာဝရရှိနိုင်မှာနေအောင်လုပ်ဆောင်ပေးရမှာဖြစ်တယ်။

### အနှစ်ချုပ်အတွေးအခေါ်

**လူ့အဖွဲ့အစည်းရဲ့ အတားထိုးဝရနိုင်တဲ့ အငြင်းအုတ်ဖြစ်များ**

# ၂၆ - စွမ်းအင်နှင့်ရေနံ

## Energy and oil

**တုန်ပစ္စည်းအမျိုးအစားအားလုံးဟာ ကမ္ဘာ့စီးပွားရေးအတွက် အရေးပါပါတယ်။ သံမဏိနဲ့ ကွန်ကရစ်တွေမရှိရင် ကမ္ဘာ့ဆောက်လုပ်ရေးလုပ်ငန်းတွေ ရပ်တန့်သွားမှာဖြစ်သလို လျှပ်စစ်စွမ်းအင်ထောက်ပံ့ပေးနေတဲ့ ကွန်ရက်ကြီးဟာလည်း ကြေးနီဝိုင်ယာကြိုးတွေကို မှီခိုနေရတာဖြစ်တယ်။ ဒါပေမဲ့ ပြီးခဲ့တဲ့ရာစုနှစ်တစ်ခုလုံး အဓိအားရှော့ဖ်ွှာ အခက်အခဲကြုံခဲ့ရတဲ့ ရေနံစိမ်းလောက်တော့ ဘယ်ကုန်ပစ္စည်းမှ အရေးမကြီးခဲ့ဖူးပါဘူး။**

ပြီးခဲ့တဲ့ နှစ်ငါးဆယ်အတွင်းမှာ ရေနံဈေးတွေ သုံးကြိမ်လောက်ခုန်တက်ခဲ့တယ်။ ဒီလိုရေနံဈေးတွေတက်တိုင်း ဖွံ့ဖြိုးပြီးနိုင်ငံတွေမှာ လူနေမှုစရိတ်စကတွေ သိသိသာသာမြင့်တက်သွားခဲ့တယ်။ ပထမနှစ်ကြိမ်ရေနံဈေးတွေတက်ခဲ့တာက နိုင်ငံရေးနဲ့ဆိုင်တယ်၊ တတိယတစ်ကြိမ်ကတော့ စီးပွားရေးအင်အားစုတွေကြောင့်ပါ၊ ဒါပေမဲ့ အကြိမ်တိုင်းမှာ ဈေးနှုန်းတက်မှုတွေက လူသားမျိုးနွယ်တွေနဲ့ စွမ်းအင်အရင်းအမြစ်ကြားက ရှုပ်ထွေးတဲ့ဆက်ဆံရေးနဲ့ ပတ်သက်ပြီး အမြော်အမြင်ရှိ နိုင်ငံရေးသမားတွေကို မေးခွန်းထုတ်ခဲ့ကြတယ်။

ဒီဆက်ဆံရေးက အသစ်တစ်ခုလို့တော့မဆိုနိုင်ပါဘူး။ သမိုင်းမတိုင်မီခေတ်ကတည်းက လူတွေဟာ သူတို့ရဲ့နေထိုင်မှုအခြေအနေတွေကို မြှင့်တင်ဖို့ သဘာဝအရင်းအမြစ်တွေကို အသုံးပြုခဲ့ကြတယ်။ ပထမအဆင့်မှာ သစ်သားနဲ့ လောင်စာတွေကို မီးရှို့ပြီး အသက်ရှင်သန်ရေးအတွက် အသုံးချခဲ့တယ်။ နောက်ပိုင်း စက်မှုတော်လှန်ရေးခေတ်မှာ

**အချိန်ပြဇယား**

**၁၉၀၀ နှစ်များ**
ကိုယ်ပိုင်ကားတွေကြောင့် ရေနံဝယ်လိုအား သိသိသာသာမြင့်တက်လာ

**၁၉၇၃ - ၁၉၇၄**
ပထမရေနံအကျပ်အတည်း



ရေနွေးငွေ့စွမ်းအင်ထုတ်လုပ်ဖို့ ကျောက်မီးသွေးကို လောင်ကျွမ်းစေခဲ့တယ်။ ၂၀ ရာစုမှာ ရေနံနဲ့သဘာဝဓာတ်ငွေ့လို ကာဗွန်အခြေခံတဲ့ ရုပ်ကြွင်းလောင်စာတွေဟာ စွမ်းအင်ရဲ့အဓိကအရင်းအမြစ်ဖြစ်လာခဲ့တယ်။ ရေနံအခြေခံထုတ်ကုန်တွေ အသုံးပြုမှုဟာ ခေတ်သစ်လူ့အဖွဲ့အစည်းမှာ အသားကျလာခဲ့တယ်။ ရေနံစွမ်းအင်မရှိရင် စီးသွားဖို့ကားတွေ၊ လေယာဉ်တွေမရှိတော့ဘဲ၊ ဆီဆိုင်ကြီးတွေလည်း ဒိတ်လိုက်ရမှာပဲဆိုတာကိုတောင် လွယ်လွယ်ကူကူပဲမေ့ထားလိုက်ကြတယ်။ စွမ်းအင်တစ်ခုတည်းအတွက်တင် ရေနံကိုအသုံးပြုတာမဟုတ်ဘဲ၊ ပလတ်စတစ်၊ ဆေးဝါး၊ ဓာတ်မြေဩဇာနဲ့ ပိုးသတ်ဆေးတွေ ထုတ်လုပ်ဖို့အတွက်လည်း အသုံးပြုမှုရဲ့ ၁၆ % လောက်ကို သုံးစွဲနေတာဖြစ်တယ်၊

### အိုပက်အဖွဲ့နှင့် ပထမရေနံအကျပ်အတည်းနှစ်ခု

ယူအက်စ်၊ ယူကေနဲ့ နော်ဝေတို့လို ဖွံ့ဖြိုးပြီး နိုင်ငံတွေမှာ အရန်အဖြစ် သိုမိုးထားတဲ့ ရေနံတွေအများအပြားရှိတယ်။ အရှေ့အလယ်ပိုင်းနဲ့ တခြားနိုင်ငံရေးမတည်ငြိမ်တဲ့ ဒေသတွေမှာ ကမ္ဘာ့ရေနံပမာဏရဲ့ အချိုးအစားကြီးကြီးမားမားကို တွေ့ရတယ်။ ကမ္ဘာ့ရေနံတွေရှိရမှုရဲ့ အများဆုံးတွေ့ရတာကတော့ ဆော်ဒီအာရေဗျနိုင်ငံမှာဖြစ်ပြီး ငါးပုံတစ်ပုံပမာဏက အဲဒီမှာ ရှိနေတာဖြစ်တယ်။ ၁၉၇၀ နှစ်တွေမှာ အရှေ့အလယ်ပိုင်းဒေသက နိုင်ငံရေးပြဿနာတွေကို တုံ့ပြန်ရာမှာ ရေနံအများအပြားထုတ်လုပ်တဲ့နိုင်ငံတွေဟာ ရေနံတင်ပို့ရောင်းချသောနိုင်ငံများအဖွဲ့ (အိုပက်)ကို ဖွဲ့စည်းဖို့စုစည်းခဲ့ကြတယ်။ အိုပက်အဖွဲ့ကို ဈေးနှုန်းတွေထိန်းချုပ်ဖို့ ရောင်းချသူတွေပူးပေါင်းဆောင်ရွက်ကြတဲ့ ကာတယ်လ် (cartel) အဖွဲ့အစည်းပုံစံဖွဲ့စည်းထားတယ်။ ၁၉၇၃ ခုနှစ်နဲ့ ၁၉၇၉ ခုနှစ်ကြားမှာ အိုပက်နိုင်ငံတွေဟာ သူတို့ရဲ့ထုတ်လုပ်မှုကို အများကြီးလျှော့ချခဲ့တာကြောင့် ကမ္ဘာ့ရေနံဈေးနှုန်းနှစ်ဆတက်သွားခဲ့တယ်။

အကျိုးဆက်အနေနဲ့ ယူအက်စ်ရဲ့ငွေကြေးဖေါင်းပွမှုကို ဂဏန်းနှစ်လုံးအထိခုန်တက်သွားစေခဲ့ပြီး

**၁၉၈၀ အစောပိုင်းနှစ်များ**
ဒုတိယရေနံအကျပ်အတည်း

**၂၀၀၇-၂၀၀၈**
ရေနံဈေးတွေ တစ်ဟုန်ထိုးမြင့်တက်ခဲ့ပြီး ကမ္ဘာ့စီးပွားရေး စတင်ကျဆင်းလာမှုကြောင့် မြန်မြန်လည်းထိုးကျသွားခဲ့

## စုံမှန်ဖထုတ်ထဲ့ကုန်စည်

ပြောင်းဆန်တို့၊ ရွှေတို့လိုပဲ၊ ရေနံ (သဘာဝဓာတ်ငွေ့နဲ့ဆက်စပ်ပစ္စည်းတွေ) ဟာလည်း ကြိုရောင်းကြိုဝယ်ဈေးကွက်မှာ ကုန်သွယ်နိုင်တဲ့ အက်ဆက်တစ်မျိုးဖြစ်တယ် (အခန်း ၃၀ ကိုကြည့်ပါ)။ ရောင်းလိုအား၊ ဝယ်လိုအားအတက်အကျမှာ ဈေးနှုန်း အတက်အကျရှိတယ်ဆိုပေမဲ့ ဒီစွမ်းအင်ကုန်ပစ္စည်းက တခြားပစ္စည်းတွေနဲ့ မတူတဲ့အကြောင်းနှစ်ချက်ရှိတယ်။

ပထမအကြောင်းက ရောင်းလိုအား၊ ဝယ်လိုအား၊ ဈေးနှုန်းတွေနဲ့ ပတ်သက်တဲ့ ထုံးစံအတိုင်း ယူဆချက်တွေကို မသုံးနိုင်တော့ဘဲ၊ တစ်စုံတစ်ရာရှုပ်ထွေးမှုလီမှုတွေရှိလာတဲ့အခါ နိုင်ငံရေးသမားတွေဟာ စွမ်းအင်လုံခြုံရေးကို အမျိုးသားလုံခြုံရေးလို့ ရှုမြင်ကြတာကြောင့် စွမ်းအင်ဟာ နိုင်ငံလည်ပတ်မှုအတွက် အရေးကြီးလာတာဖြစ်တယ်။

ဒုတိယအချက်က မကြာသေးခင်နှစ်တွေ အတွင်းမှာမှ ကြုံလာရတာဖြစ်တယ်။ စွမ်းအင်ဈေးတွေဟာ လူ့အဖွဲ့အစည်းအတွက် ညစ်ညမ်းမှုစရိတ်တွေကို ရေရှည်မှာ ပေါင်ထင်ဟပ်လာစေခဲ့တာဖြစ်တယ်။ ရုပ်ကြွင်း လောင်စာတွေ လောင်ကျွမ်းမှုက ဓာတ်ငွေ့နဲ့တို ထုတ်လွှတ်တာကြောင့် ဒါက ကမ္ဘာကြီးပူနွေးလာမှုနဲ့ တိုက်ရိုက်ဆက်နွယ်နေတယ်လို့ သိပ္ပံပညာရှင်တွေ က ယုံကြည်ကြတယ်။ ငွေကြေးလည်းမရ တာဝန်လည်းမရှိဘဲ၊ ဘာမှမဆိုင်တဲ့ သောလူရေ့ရဲ့ အန္တရာယ်ဖြစ်စေတယ်၊ တန်ဖိုးကြီးတဲ့ပျက်စီး ဆုံးရှုံးမှုတွေ ကြုံရစေတဲ့ အပြုအမူတစ်ခုရဲ့ ဒီလိုသွယ်ဝိုက်ဂယက်ရိုက်ခတ်မှုတွေကို စီးပွားရေးပညာရှင်တွေက "ပြင်ပသက်ရောက်မှု" လို့ ခေါ်ကြတယ် (အခန်း ၄၅ ကိုကြည့်ပါ)။

စီးပွားရေးတိုးတက်မှု ရပ်တန့်သွားခဲ့တယ်။ အနောက်နိုင်ငံတွေမှာလည်း စီးပွားရေး အီလည်ရပ်တန့်ပြီး ငွေကြေးဖေါင်းပွတဲ့ စတက်ဖလေးရှင်းအခြေအနေနဲ့ ရင်ဆိုင်ခဲ့ရတယ်၊ အဲ့ဒီကာလအတွင်းမှာ ယူအက်စ်ရဲ့အလုပ်လက်မဲ့နှုန်းဟာ ၄.၉ % ကနေ ၈.၅ % အထိ မြင့်တက်သွားခဲ့တယ်၊

၁၉၈၀ အစောပိုင်းနှစ်တွေမှာလည်း အလားတူဖြစ်ရပ်မျိုးထပ်ကြုံခဲ့ရသေးတယ်၊ ဝိုပြီးပြင်းထန်တဲ့အကျိုးဆက်နဲ့ ကြုံခဲ့ရတယ်လို့တောင် ဆိုရမယ်။ အဲ့ဒီကာလမှာ Paul Volcker ဥက္ကဋ္ဌအဖြစ်ဆောင်ရွက်နေတဲ့ ဖက်ဒရယ်ရီဇက်အဖွဲ့ကြီးက



အတိုးနှုန်းကိုမြင့်တင်ပြီး ငွေကြေးဖေါင်းပွမှုမြင့်မားတာကို တိုက်ဖျက်ဖို့ကြိုးပမ်းခဲ့တယ်၊ အလုပ်လက်မဲ့နှုန်းကို ၁၀ % ကျော်အထိမြင့်တက်စေခဲ့တယ်၊ ဆော်ဒီနဲ့နိုင်ငံရေး ရေစင်ဆွေးနွေးမှုတွေလုပ်ပြီးတဲ့နောက်ပိုင်းမှာ အကျပ်အတည်းဟာ တဖြည်းဖြည်းနဲ့ လျော့ကျလာခဲ့တယ်၊ တစ်ချိန်တည်းမှာပဲ ရေနံဝယ်ယူသူတွေလျှော့နည်းသွားလို့ ဝင်ငွေတွေလျော့ကျသွားတာကြောင့် အိုပက်နိုင်ငံတွေကိုလည်း ရိုက်ခတ်မှုတွေရှိခဲ့တယ်။ ဒါကြောင့် အဖွဲ့ဝင်နိုင်ငံတွေဟာ သူတို့ဝင်ငွေပြန်တက်လာဖို့ အတွက် ရေနံထုတ်လုပ်မှုတွေကို ပုံမှန်ထက်ပိုတိုးပြီး ဝတင်ထုတ်လုပ်ခဲ့ရတယ်။

### တတိယအကျပ်အတည်းလား

နှစ်ထောင်စုနှစ်ရဲ့အစောပိုင်းနှစ်တွေနဲ့ ၂၀၀၈ ခုနှစ်ကြားကာလတွေမှာ ရေနံဈေးတွေ ၃ ဆလောက်ခုန်တက်သွားခဲ့တယ်။ ငွေကြေးဖေါင်းပွမှုကိုပါ ထည့်စဉ်းစားရင် ဒီတစ်ခေါက်ဈေးတက်မှုဟာ ၁၉၇၀ နှစ်တွေမှာ အမြင့်ဆုံးရောက်ခဲ့တဲ့ဈေးကိုပါ ကျော်တက်သွားခဲ့တယ်၊ ဒါပေမဲ့ အရင်အကျပ်အတည်းက အိုပက်အဖွဲ့ရဲ့လုပ်ဆောင်ချက် တွေကြောင့်ဖြစ်ခဲ့ရတာဖြစ်ပြီး နိုင်ငံရေးနဲ့ ပိုသက်ဆိုင်တယ်။ ဒီတစ်ခေါက်အကျပ်အတည်းကတော့ ဈေးကစားမှုတွေကြောင့်ဖြစ်လာတဲ့အကျပ်အတည်းပဲဖြစ်တယ်။

hedge-fund မန်နေဂျာတွေလို ရင်းနှီးမြှုပ်နှံသူတွေဟာ ရေနံဈေးတွေဆက်ပြီး တက်လိမ့်ဦးမယ်လို့ သံသယရှိကြတာကြောင့် ရေနံစည်သန်းပေါင်းများစွာ ကိုးပြီးဝယ်ယူခဲ့ကြတယ်၊ သူတို့ရဲ့စဉ်းစားဆင်ခြင်မှုတွေထဲမှာ တရုတ်နဲ့တခြားသော စီးပွားရေးအလျင်အမြန်တိုးတက်နေတဲ့ နိုင်ငံတွေဟာ လာမယ့်နှစ်တွေမှာ ရေနံဝယ်လိုအားကို သိသိသာသာတိုးတက်စေ လိမ့်မယ်ဆိုတဲ့အချက်လည်း တစ်စိတ်တစ်ဒေသပါဝင်တယ်။ နောက်တစ်ချက်က ရေနံဆိုတာ အနာဂတ်ကာလ တစ်ချိန်ချိန်မှာ ကုန်ဆုံးသွားမယ့်အကန့်အသတ်ရှိတဲ့အရင်းအမြစ် ဖြစ်နေတာပဲဖြစ်တယ်။ တကယ်တော့ ရေနံထုတ်လုပ်မှုဟာ အမြင့်ဆုံးအနေအထားကို ကျော်လွန်လာနေပြီး နောက်လာမယ့်နှစ်တွေမှာ အရင်ကလောက်များများစားစား ဆက်မထုတ်နိုင်လောက်တော့ဘူးလို့ လူအများကယုံကြည်ကြတယ်၊ ဒီအယူအဆသာမှန်ခဲ့ရင် နိုင်ငံတွေဟာ စွမ်းအင်အရင်း အမြစ်အသစ်တွေကို ရှာဖွေရတော့မှာဖြစ်ပြီး သူတို့ရဲ့ဘဝနေထိုင်မှု အဆင့်အတန်းဟာလည်း သေချာပေါက်ကျဆင်းလာတော့မယ်ဆိုတာကို လက်ခံရတော့မှာဖြစ်တယ်၊

အီရတ်ကိုကျူးကျော်ဝင်ရောက်ပြီး ဆက်ဒမ်ဟူစိန်ကို ဖြုတ်ချပြီးတဲ့နောက်ပိုင်းမှာ အရှေ့အလယ်ပိုင်း၊ နိုင်ဂျီးရီးယားနဲ့ တခြားနေရာတွေက ရေနံတွင်းတူးစင်တွေနဲ့ သန့်စင်စက်ရုံတွေကို အကြမ်းဖက်သမားတွေက ပိုတိုးပြီးပြစ်မှတ်ထားလာနေတဲ့ အချက်ကလည်း ရေနံစိမ်း ဝယ်ယူမယ့်သူတွေကို ရောင်းလိုအားနဲ့ ပတ်သက်လို့ စိုးရိမ်ပူပန်စေတဲ့အကြောင်းတစ်ချက်ဖြစ်တယ်၊ ဒီအတောအတွင်းမှာ ရောင်းလိုအားဝယ်လိုအားညီမျှခြင်းရဲ့ အခြားတစ်ဖက်မှာကလည်း တရုတ်နဲ့ တခြားဖွံ့ဖြိုးဆဲနိုင်ငံတွေ အလျင်အမြန် တိုးတက်လာနေတာကြောင့် စွမ်းအင်ဝယ်လိုအားဟာ မကြုံစဖူးမြင့်တက်နေခဲ့တယ်၊ ဒီအချက်တွေစုပေါင်းလိုက်ခြင်းက ၂၀၀၈ နှစ်နှစ်လယ်ပိုင်းလောက်မှာ ရေနံစိမ်းတစ်စည်ကို ဒေါ်လာ ၁၅၀ နီးပါးလောက်အထိ ရောက်အောင် တွန်းတင်လိုက်တော့တာပါပဲ၊

❝ ကျွန်တော်တို့မှာ ပြင်းထန်တဲ့ပြဿနာတစ်ရပ်ရှိတယ်။ အဲဒါက အမေရိကန်တွေဟာ မတည်ငြိမ်တဲ့ ကမ္ဘာ့နိုင်ငံတွေဆီက တင်ပို့လိုက်တဲ့ရေနံတွေကိုအရူးအမူးစွဲလန်းနေတဲ့ပြဿနာပဲ။ ❞

သမ္မတဂျော့ချ်ဒဗလျူဘုရှ်

ရေနံဈေးတွေပိုမြင့်လာလေ ကမ္ဘာ့အနံ့ငွေကြေးဖေါင်းပွမှုတွေကလည်း တစ်ခါပြန်ပြီး မြင့်တက်လာလေပဲ။ ဒါပေမဲ့ ကမ္ဘာ့ဘဏ္ဍာရေးအကျပ်အတည်းက စီးပွားရေးကို အကျအဆက်ရောက်အောင် တွန်းပို့လိုက်တယ်။ ဒီအချက်ကြောင့်ပဲ အဲ့ဒီနှစ်အကုန်မှာ ရေနံဈေးဟာ တစ်စည်ကို ဒေါ်လာ ၄၀ အောက်ရောက်တဲ့အထိ ပြန်ပြီးကျဆင်းသွားခဲ့တယ်၊ ဖွံ့ဖြိုးပြီးနိုင်ငံတွေဟာ ရေနံပမာဏကို စံချိန်တင်ဆက်လက်သုံးစွဲနေပေမယ့် စီးပွားရေးတိုးတက်မှုမှာ ဒေါ်လာတစ်ဒေါ်လာ အပိုရဖို့ သုံးရတဲ့ရေနံပမာဏကတော့ ၁၉၇၀ နှစ်တွေကတည်းက ကျဆင်းလာနေခဲ့တယ်။ ယူအက်စ်စွမ်းအင်ဝန်ကြီးဌာနရဲ့ အဆိုအရ၊ ဂျီဒီပီတစ်ဒေါ်လာအပေါ်မှာ စွမ်းအင်သုံးစွဲမှုနှုန်းဟာ ပြီးခဲ့တဲ့ရာစုနှစ် လေးပုံတစ်ပုံကျော်ကာလက ရှိခဲ့တဲ့ တစ်နှစ်ပျမ်းမျှသုံးစွဲနှုန်းထက် ၁.၇ % ကျဆင်းခဲ့တယ်လို့ ဆိုတယ်။

## တခြားရွေးချယ်စရာစွမ်းအင်

၁၉၇၀ နှစ်တွေမှာ ဖြစ်ခဲ့တဲ့စွမ်းအင်ထိတ်လန့်မှုတွေက ကုမ္ပဏီတွေနဲ့ အစိုးရတွေကို ရေနံအပေါ်မှီခိုအားထားမှုလျှော့ချပြီး တခြားထိရောက်တဲ့စွမ်းအင်ရရှိမှုနည်းလမ်းသစ်တွေကို ရှာဖွေနိုင်စေဖော်ပေးခဲ့တယ်။ ကားထုတ်လုပ်သူတွေဟာ လောင်စာနည်းနည်းပဲသုံးရပြီး ဆီနိုင်ငံရောက်တဲ့ ကားအင်ဂျင်တွေကိုတီထွင်လာကြတယ်၊ အထူးသဖြင့် ဂျပန်နဲ့ ဥရောပမှာ စွမ်းအင်သုံးစွဲမှုအခွန်တွေတိုးမြှင့်လိုက်တာကလည်း လိုရာပန်းတိုင်ရောက်အောင် ပိုပြီးထိထိမိမိဖြစ်စေခဲ့တယ်။ ၁၉၈၆ ခုနှစ်မှာ ချာနိုဘိုင်းဓာတ်ငွေ့ပိုစိမ့်မှုဘေးဆိုးကြီး ဖြစ်ပြီးနောက်ပိုင်း နယူးကလီးယားစွမ်းအင်သုံးစွဲမှု ထိုးကျသွားပေမယ့် နိုင်ငံတော်တော်များများဟာ နယူးကလီးယားစွမ်းအင်ဘက်ကို ပိုပြီးတစ်ခါပြန်လှည့်လာကြတယ်။ ရုပ်ကြွင်းလောင်စာအပေါ် တိုက်ရိုက်မှီခိုအားထားရတာမျိုးမဟုတ်တဲ့ တခြားစွမ်းအင်အရင်းအမြစ်တွေကိုလည်း ရှာဖွေလာကြတယ်၊ အနောက်နိုင်ငံအများစုဟာ အခုအချိန်မှာ ဆိုလာ၊ လေ၊ လှိုင်းနဲ့ ဇီဝဆိုင်ရာပယ်စွမ်းအင် ထုတ်လုပ်ရေးစီမံကိန်းတွေကို သေးငယ်နေသေးပေမယ့် ပိုပြီးတိုးတက်ဖွံ့ဖြိုးလာစေခဲ့ပြီဖြစ်တယ်၊ မကြာသေးမီက စွမ်းအင်အကျပ် အတည်းနောက်ပိုင်းမှာ တခြားရွေးချယ်စရာ စွမ်းအင်တွေကို စူးစမ်းရှာဖွေဖို့ ပိုပြီးအရှိန်မြှင့်လာခဲ့တယ်၊ အထင်ကရကားထုတ်လုပ်တဲ့ ကုမ္ပဏီကြီးတွေဟာ တိုက်ဘရစ်ကားတွေ၊ အပြည့်အဝလျှပ်စစ်စွမ်းအင်သုံးကားတွေကို ထုတ်လုပ်လာကြပြီး ဒီကားတွေဟာလျှပ်စစ်စွမ်းအင်ကိုပြန်လည်ဖြည့်တင်းပြီး မောင်းနှင်လာနိုင်တာတွေ့ရတယ်၊

ဒီလိုနည်းပညာအများအပြားဟာ အခုအချိန်မှာတော့ ဖွံ့ဖြိုးဆဲအခြေအနေမှာပဲ ရှိနေသေးပေမယ့် အလျော့အတင်းမရှိတဲ့ ဈေးကွက်မှာတောင်မှ သူတို့ရဲ့ရွေးချယ်မှုတွေက တဖြည်းဖြည်းချင်း ဘယ်လောက်ပြောင်းလဲလာနေတယ်ဆိုတာ ပြသနေတယ်၊ (အလျော့အတင်းမရှိတဲ့ဈေးကွက်ဆိုတာ ဈေးနှုန်းတွေတက်သွားတာကို ဝယ်သူက တဖြည်းဖြည်းချင်းပဲ တုံ့ပြန်နိုင်တဲ့ဈေးကွက်ကိုဆိုလိုတာ။ တစ်နည်းအားဖြင့် ဝယ်ယူသူတွေ မဝယ်မဖြစ် ဝယ်ယူသုံးစွဲရမယ့်ပစ္စည်းမျိုးတွေရဲ့ဈေးကွက်ပဲ)၊ သေချာတာကတော့ ရောင်းလိုအားနဲ့ ဝယ်လိုအားကြားကမျှခြေရွေ့သွားတဲ့အခါ လူတွေဟာ သူတို့ရဲ့အပြုအမူတွေကို ပြောင်းလဲပြီးခံယူလာရတယ်ဆိုတာပါပဲ၊

### အနှစ်ချုပ်အတွေးအခေါ်

**ရေနံဈေးပါးဖြတ်လပ်မှုကို ဆန်းသစ်တီထွင်မှုတွေကတစ်ဆင့် တိုင်တွယ်ဖြေရှင်းပါ**

# ၂၇ – ငွေချေးစာချုပ်ဈေးကွက်များ

## Bond markets

**"တကယ်လို့များ သံသရာလည်ပြီး လူဝင်စားပြန်ဖြစ်တယ်ဆိုတာမျိုးရှိမယ်ဆိုရင် သမ္မတတစ်ယောက်၊ ဒါမှမဟုတ် ပုပ်ရဟန်းမင်းကြီးတစ်ယောက်၊ ဒါမှမဟုတ် ဘေ့စ်ဘော ကစားသမားကောင်းတစ်ယောက်အဖြစ်နဲ့ ပြန်လာချင်တယ်လို့ ကျွန်တော်တွေးလေ့ရှိခဲ့တယ်"လို့ အမေရိကန်သမ္မတဟောင်း ဘီလ်ကလင်တန်ရဲ့ မဲဆွယ်စည်းရုံးရေးမန်နေဂျာ James Carville က ဆိုတယ်။ သူကဆက်ပြီး "ဒါပေမဲ့ အခုတော့ ကျွန်တော်ငွေချေးစာချုပ်ဈေးကွက်တစ်ခုအနေနဲ့ ပြန်လာချင်နေပါပြီ။ သူက လူတိုင်းကို ခြိမ်းခြောက်နိုင်တယ်"လို့ ဆိုခဲ့တယ်။**

ကုမ္ပဏီတွေနဲ့ အစိုးရတွေက ငွေကြေးတွေမတည်ထားတဲ့ နိုင်ငံတကာငွေချေးစာချုပ်ဈေးကွက်တွေဟာ သုနဲ့အဆင့်အတန်းတူ စတော့ဈေးကွက်တွေလောက် မကျော်ကြား ပေမယ့် အရေးအပါအလက်ပေါင်းများစွာအရ သူတို့ဟာ ပိုပြီးအရေးကြီးသလို၊ ပိုပြီးလည်း သြဇာလွှမ်းမိုးနိုင်တယ်။ နိုင်ငံတစ်နိုင်ငံမှာ တန်ဖိုးကျလာတဲ့ငွေသားတွေ များပြား လာနိုင်သလား၊ မလာနိုင်ဘူးလားဆိုတာကို စီစစ်တွက်ချက်ခြင်းအားဖြင့် ငွေချေးစာချုပ် ဈေးကွက်တွေဟာ စစ်ပွဲတွေ၊ တော်လှန်ရေးတွေနဲ့ နိုင်ငံရေးအကျပ်အတည်းဆိုင်ရာ ဖြစ်စဉ်တွေကို အဆုံးအဖြတ်ပေးဖို့ရာ အထောက်အပံ့ဖြစ်စေတယ်။ ဒါ့အပြင် ငွေချေးစာချုပ်ဈေးကွက်တွေဟာ ရာစုနှစ်ပေါင်းများစွာကြာအောင် လူသားတွေရဲ့ ဘဝအခြေအနေမျိုးစုံကို သွယ်ဝိုက်ဂယက်ရိုက်ခတ်မှုတွေရှိခဲ့တယ်။ ငြိမ်းချမ်းနေတဲ့ ခေတ်တွေမှာတောင်မှ အစိုးရတစ်ရပ်ရဲ့ ငွေကြေးပမာဏတိုးမြင့်လာဖို့ စွမ်းဆောင်ရည်ဟာ နိုင်ငံသားတွေအပေါ် အင်မတန်ကိုအရေးပါတယ်။ ဆိုလိုတာက အစိုးရကပေးမယ့် အတိုးနှုန်းတွေ မြင့်တက်လာလေလေ၊ စီးပွားရေးစနစ်တစ်ရပ်လုံးနေရာအနှံ့မှာ

**အချိန်ပြဇယား:**

**၁၆၉၃** — ဗြိတိသျှအစိုးရက ပထမဆုံး ခေတ်သစ်ပုံစံအစိုးရငွေချေးစာချုပ် (tontine)ကို ထုတ်ရောင်းခဲ့

**၁၇၅၁** — ယူကေနိုင်ငံက တိုင်းပြည်ရဲ့ ကြွေးမြီပမာဏကို အံ့ဩလောက်အောင် လျှော့ကျစ်များတဲ့ ငွေချေးစာချုပ်တစ်မျိုး (consols) ရဲ့အကူအညီနဲ့ မြင့်တက်စေခဲ့

**၁၈၁၅** — ဝါတာလူးတိုက်ပွဲအပြီးမှာ ငွေချေးစာချုပ် ဈေးကွက်ရဲ့ ရှေးအလားအလာကို Nathan Rothschild က ကြိုတင်ဟောကိန်းထုတ်ခဲ့



ငွေချေးယူရတဲ့ စရိတ်တွေ မြင့်တက်လာလေလေပါပဲ။ ဒါကြောင့် ဘေးအန္တရာယ်ဖြစ်စေမယ့် နိုင်ငံရေးအသေးမှာ ငွေချေးစာချုပ်ကို လျစ်လျူရှုလိုက်ပါလို့ ပြောရမှာပါပဲ။

အစိုးရငွေချေးစာချုပ်တွေရဲ့ ဈေးနှုန်းက အစိုးရတစ်ရပ်ဟာ ချေးငွေကိုပြန်ဆပ်ဖို့ စိတ်ချရတဲ့ အနေအထား ဘယ်လောက်ရှိတယ်ဆိုတာ၊ ငွေပမာဏတိုးပွားလာဖို့ အစိုးရအနေနဲ့ ငွေချေးစာချုပ်ကာခေ ဘယ်လိုလွယ်လွယ်ကူကူနည်းလမ်းရှာတွေ့နိုင်မလဲဆိုတာနဲ့ အစိုးရရဲ့ပေါ်လစီတွေအပေါ် ဘယ်လိုလေးစားအသိအမှတ်ပြုခံရတယ်ဆိုတာတွေကို ဖော်ပြပေးတယ်။ အစိုးရတစ်ရပ်အနေနဲ့ ငွေချေးစာချုပ်ဈေးကွက်ကို မဖော်ထုတ်နိုင်တော့ဘူးဆိုရင်တော့ ဒီဘေးအန္တရာယ်ကို ကျော်ဖြတ်ဖို့ အသည်းအသည်ရှုန်းကန်ရတော့မှာပါပဲ။

> "တော့ရှယ်ယာတွေ၊ ငွေချေးစာချုပ်တွေနဲ့ ပတ်သက်တဲ့ ပြင်းပြင်းထန်ထန်ဝေဖန်မှုတွေကို ကျွန်တော်ဂရုမစိုက်ပါဘူး။ ဒါပေမဲ့ ကျွန်တော့်ပထမဆုံးသမ္မတဖြစ်တဲ့နေ့မှာတော့ ဒါတွေ ဈေးကျသွားမှာကို ကျွန်တော်မမြင်ချင်ပါဘူး။"
>
> သီရိဒွိ ရုဇဗဲ့

ငွေချေးစာချုပ်တစ်ရပ်မှာ အခြေခံကျကျလိုအပ်တာက မူလပိုင်ရှင်ကို သတ်မှတ်ထားတဲ့ အနာဂတ်ကာလတစ်ခုမှာ တစ်လုံးတစ်ခဲတည်းပြန်လည်ပေးဆပ်ဖို့ ကတိကဝတ် ပြုထားတဲ့ ကြွေးမြီဝန်ခံချက် (IOU) ပါပဲ။ အလားတူပဲ ငွေချေးစာချုပ်သက်တမ်းတစ်လျှောက်မှာ နှစ်စဉ် ပေးအပ်သွားမယ့် အတိုးအစီအစဉ်ကလည်း အခြေခံကျပါတယ်။

အစိုးရငွေချေးစာချုပ်တွေဟာ နှစ်နှစ်ကနေ နှစ်ငါးဆယ်အထိသက်တမ်းရှိကြပြီး ပြန်လည်ပေးဆပ်ဖို့ မူလသတ်မှတ်ထားတဲ့တန်ဖိုး (norminal value/ face value) ကိုအတိုးနှုန်း ၄% ၊၅% လောက်နဲ့ အသေရိုက်ဆက်ထားတယ်။ ငွေချေးစာချုပ်တွေကို ထုတ်ရောင်းထားတဲ့အခါ ဒီစာချုပ်တွေကို နယူးယောက်၊ လန်ဒန်နဲ့ တိုကျိုတို့လို ဘဏ္ဍာရေးပဟိုဌာနကြီးတွေမှာ တွေ့ရှိ၊ ရောမနိုင်ငံတကာ ငွေချေးစာချုပ်ဈေးကွက်ကြီးတွေမှာ အရောင်းအဝယ်ပြုလုပ်နိုင်တယ်။

### အတိုးနှုန်းကိစ္စ

ငွေချေးစာချုပ်ဈေးကွက်တွေရဲ့ တကယ့်ပါဝါက အတိုးနှုန်းပေါ်မှုတည်နေတာပါပဲ။ အတိုးနှုန်းက ငွေချေးစာချုပ်ပေါ်မှာ ဖော်ပြထားတဲ့ မူလတန်ဖိုးနဲ့ ဈေးကွက်ပေါက်ဈေးကိုကွဲပြားသွားစေတယ်။

**၁၉၁၄** — ပထမကမ္ဘာစစ်ရဲ့အစကို ကြိုတင်ဟောကိန်း မထုတ်နိုင်ခဲ့တဲ့နောက်ပိုင်းမှာ ငွေချေးစာချုပ် ဈေးကွက်ဟာ ဝရုန်းသုန်းကားအခြေအနေတွေနဲ့ကြုံခဲ့ရ

**၁၉၉၈** — hedge-fund ရေရှည်အရင်းစီမံခန့်ခွဲမှု ပြိုကျသွားပြီးနောက်မှာ ငွေချေးစာချုပ် ဈေးနှုန်းတွေ တက်လာခဲ့

## ငွေသုံးလုံးဖြင့် စီအဆင့်အထိ

ကုမ္ပဏီတွေကထုတ်ဝေတာဖြစ်စေ၊ အစိုးရကထုတ်ဝေတာဖြစ်စေ ငွေချေးစာချုပ်တွေကို အသင့်ရနိုင်တဲ့ လုံခြုံစိတ်ချရမှု အရှိဆုံး ရင်းနှီးမြှုပ်နှံမှုတွေလို့ သဘောထားကြတယ်။ ကုမ္ပဏီတစ်ခုပြိုလဲကျသွားတဲ့အခါ ငွေချေးစာချုပ်လက်ဝယ်ကိုင်ထားသူတွေဟာ သူတို့ရဲ့ရင်းနှီးမြှုပ်နှံမှုတွေ ပြန်ရဖို့ တန်းစီနေတဲ့ လူအုပ်ကြီးရဲ့ရှေ့ဆုံးကနေ စုဝေးကြတယ်၊ အစုရှယ်ယာရှင်တွေကတော့ ငွေသားအများအပြားထုတ်ပေးဖို့ အဆင့်သင့်ဖြစ်တဲ့ အချိန်နောက်ပိုင်းအထိ စောင့်ကြရတယ်။ ဒါပေမဲ့ ကြွေးပြန်ဆပ်ဖို့ ပျက်ကွက်နိုင်ခြေဟာ ရင်းနှီးမြှုပ်နှံသူတွေ အဓိကထားစဉ်းစားရတဲ့ အရာပါပဲ၊ အကျိုးဆက်က ဘယ်ငွေချေးစာချုပ်မဆို လုံခြုံစိတ်ချရဖို့ ရှုပ်ထွေးတဲ့ ယန္တရားတွေကို ရေးဆွဲတည်ဆောက်ပြီး လပ်းညွှန်ထားတာကြောင့်ပဲ၊ Standard & Poors နဲ့ Moodys and Fitch တို့လို အေဂျင်စီတွေဟာ ကြွေးပြန်ဆပ်ဖို့ ပျက်ကွက်နိုင်ခြေအပေါ် အခြေခံပြီး အစိုးရနဲ့ ကော်ပိုရိတ်ငွေချေးစာချုပ်တွေရဲ့ အဆင့်သတ်မှတ်ချက်တွေကို ထုတ်ပြန်ပေးဖို့ တည်ရှိနေတာဖြစ်တယ်၊ ဒီအဆင့်သတ်မှတ်ချက်တွေက AAA အဆင့်ကနေ C အဆင့်အထိရှိတယ်။ BAA နဲ့ အထက်အဆင့်ရှိတဲ့ ငွေချေးစာချုပ်တွေကို ရင်းနှီးမြှုပ်နှံနိုင်တဲ့အဆင့် (investment grade) လို့ အသိအမှတ်ပြုထားကြပြီး အဲ့ဒီအောက်အဆင့်တွေကိုတော့ စိတ်မချရသော စာချုပ်များ (junk bonds) တွေလို့ ခေါ်ကြတယ်၊ ကြွေးပြန်ဆပ်မှုက စိတ်မချရတာကြောင့် စွန့်စားရမှုမြင့်လွန်းတဲ့အပေါ် နစ်နာကြေးအနေနဲ့ junk bonds တွေရဲ့အတိုးနှုန်းဟာ အမြဲတမ်းမြင့်မားလေ့ရှိတယ်။

ရင်းနှီးမြှုပ်နှံသူ (ဝါ) စာချုပ်ဝယ်သူတွေက အစိုးရတစ်ရပ်ဟာ (က) ကြွေးဆပ်ဖို့ ပျက်ကွက်မယ့် အခြေအနေရောက်နေတယ်၊ ဒါမှမဟုတ် (ခ) ငွေကြေးဖောင်းပွမှုကို မြှင့်တင်လိုတဲ့ဆန္ဒရှိနေတယ် (ငွေကြေးဖောင်းပွမှုက ငွေတန်ဖိုးကိုကျစေတာကြောင့် ဒါကလည်း ကြွေးဆပ်ဖို့ပျက်ကွက်လိုတဲ့သဘောပဲလို့ ဆိုကြတယ်) လို့ ယုံကြည်တဲ့အခါ အစိုးရရဲ့ ဒီငွေချေးစာချုပ်တွေကို ထုတ်ရောင်းပစ်လေ့ရှိတယ်။ ဒီဖြစ်ရပ်မှာ ငွေချေးစာချုပ်ကို ဈေးကျသွားစေပြီး၊ အမှန်ပေးရမယ့်အတိုးနှုန်းက တက်လာတာကြောင့် အကျိုးသက်ရောက်မှု နှစ်ခုရှိတယ်လို့ ဆိုတယ်၊ ဒီဖြစ်ရပ်က စီးပွားရေးပညာဆိုင်ရာဆင်ခြင်မှုကို ဖော်ပြနေတယ်။



အက်ဆက်ကဗိုပြီးသေးတွေနိုင်လာလေ၊ ရင်းနှီးမြှုပ်နှံသူတွေက ဒီအတွက် ပွေ့ချေးရှာပေးလေ၊ ဒီအက်ဆက်ကို ဆုပ်ကိုင်ထားရခြင်းအတွက် ထေမိမယ့်လျော်ကြေးငွေ (အတိုးနှုန်း) ပိုရလေဖြစ်သင့်တယ်ဆိုတဲ့ ဆင်ခြင်ပုံပါပဲ။

အတိုးနှုန်း(တိုးပွားမှု) ၄.၅ ရာခိုင်နှုန်းရှိတဲ့ ဒေါ်လာ ၁၀၀၀၀ တန်ယူအက်စ်အာမခံ ငွေချေးစာချုပ်တစ်ခုကို စဉ်းစားကြည့်ရအောင်ပါ။ (၁၀နှစ်၊ ၁၅နှစ်၊ စတဲ့) သူ့သက်တမ်း အတွင်းမှာ ဒီစာချုပ်က တစ်နှစ်ကို ဒေါ်လာ ၄၅၀ နှစ်စဉ်ရနေမှာဖြစ်တယ်။ ဒီစာချုပ်ကို ဝယ်ထားတဲ့ ဘယ်သူ့အတွက်မဆို ကမ်းလှမ်းနိုင်တဲ့ဈေးနှုန်းက အတိုးနှုန်း ၄.၅ ရာခိုင်နှုန်းပဲ။ ဒါပေမဲ့ ဒီစာချုပ်ကို ဝယ်ယူပြီးရင်းနှီးမြှုပ်နှံထားသူဟာ ယူအက်စ်အစိုးရက နိုးချေးငွေကို ပြန်ဆပ်မယ့်အပေါ် စိုးရိမ်ပူပန်မှုရှိလာရင် ထောင်ရောင်းချပါလိမ့်မယ်၊ တချုပ်ရဲ့ဈေးကွက်ပေါက်ဈေးကလည်း ဒေါ်လာ ၉၀၀၀ ဖြစ်ပြီး ဈေးကျသွားခဲ့တယ် ဆိုပါတော့။ ဒီဈေးနှုန်းအရဆိုရင် ဒေါ်လာ ၄၅၀ နှစ်စဉ်တိုးပွားနေမှုက စာချုပ်ကို ဝယ်ယူလိုက်တဲ့ရင်းနှီးမြှုပ်နှံသူအသစ်တွေအတွက် အတိုး ၅ ရာခိုင်နှုန်းတန်ကြေးဖြစ်သွားပြီလို့ ဆိုရမှာဖြစ်ပါတယ်။

ငွေချေးစာချုပ်တွေရဲ့ဈေးကွက်ပေါက်ဈေးက အစိုးရတစ်ရပ်အနေနဲ့ အနာဂတ်ငွေချေး စာချုပ်တွေကို ထုတ်ရောင်းရာမှာ သတ်မှတ်မယ့် အတိုးနှုန်းတွေအပေါ် လွှမ်းမိုးမှုရှိပြီး ငွေချေးစာချုပ်တွေရဲ့ဈေးကွက် ဝယ်ယူသူတွေရှိဖို့လည်း မျှော်လင့်ရမှာဖြစ်တာကြောင့် ငွေချေးစာချုပ်တွေရဲ့ဈေးကွက် ပေါက်ဈေးဟာ အလွန်အရေးကြီးပါတယ်။ အပတ်စဉ်ထုတ်ရောင်းနေတဲ့ ဆောင်ပေါင်းများစွာသော စာချုပ်တွေကို ဝယ်ယူသူတွေရှာဖွေဖို့ ဈေးကွက်ထဲက ရှိပြီးသားငွေချေးစာချုပ်တွေရဲ့အတိုးနှုန်းနဲ့ စာချုပ်သစ်ရဲ့ကနဦးအတိုးနှုန်း (coupon rate) ကို လိုက်လျောညီထွေဖြစ်အောင် စီပံရပါတယ်။ ပေးရမယ့် နှုန်းတွေက ပိုမြင့်လေ၊ ငွေချေးရခက်လေဖြစ်လာပြီး ဈေးလျှော့ရောင်းဖို့ ပိုပြီးဖိအားပေးခံရလေပါပဲ။ ဒါကြောင့် ဈေးကွက်ဟာ အလွန်ခြိမ်းခြောက်နိုင်စွမ်းရှိတယ်လို့ James Carville နားလည်ခဲ့တာဟာ အံ့ဩစရာမဟုတ်ပါဘူး။

ကမ္ဘာတစ်လွှားကအစိုးရတွေဟာ သူတို့ရဲ့ဘတ်ဂျက်တွေကို ထိန်းညှိဖို့အတွက် ငွေချေးရတာကြောင့် ငွေချေးစာချုပ်အသစ်တွေကို (အခန်း ၃၈ ကို ကြည့်ပါ) ထုံးစံအတိုင်း ပုံမှန်ထုတ်ရောင်းရတယ်။ ယူအက်စ်မှာ အများဆုံးထုတ်ရောင်းတဲ့ အစိုးရငွေချေးစာချုပ်

အမျိုးအစားတွေကို Treasury bills၊ Treasury notes နဲ့ Treasury bonds တွေလို့ သိကြတယ်။ ယူကေမှာတော့ အစိုးရကို အလွန်စိတ်ချယုံကြည်ရတဲ့ ငွေချေးငှားသူအဖြစ် အသိအမှတ်ပြုကြတာကြောင့် အရှုံးမရှိနိုင်တဲ့ gilt-edged securities ဒါမှမဟုတ် gilts တွေလို့ လူသိများကြတယ်။

## ငွေချေးစာချုပ်တွေရဲ့ မူလအစ

ငွေချေးစာချုပ်တွေဟာ အလယ်ခေတ်အီတလီမြို့ပြနိုင်ငံတွေမှာ စတင်ပေါ်ထွက်လာခဲ့တာဖြစ်တယ်။ အဲဒီမြို့ပြနိုင်ငံတွေဟာ မကြာခဏတစ်နိုင်ငံနဲ့တစ်နိုင်ငံ စစ်မက်ဖြစ်ပွားနေကြပြီး ချမ်းသာကြွယ်ဝတဲ့ သူတို့ရဲ့ နိုင်ငံသားတွေကို ပုံမှန်အတိုးနှုန်းတစ်ရပ်နဲ့ ငွေထုတ်ချေးပေးဖို့ ဖိအားပေးခဲ့ကြတယ်။ ခေတ်သစ်ရင်းနှီးမြှုပ်နှံသူတွေကတော့ ငွေချေးစာချုပ်တွေကို ဝယ်ယူဖို့ ဖိအားပေးမခံရပေမယ့် ယူအက်စ်နဲ့ ယူကေနိုင်ငံတွေမှာ အစိုးရရဲ့ ကြွေးမြီပမာဏကို ပင်စင်ရန်ပုံငွေတွေကတစ်ဆင့် နိုင်ငံသားတွေက ကြီးကြီးမားမား ပိုင်ဆိုင်ထားကြတာဖြစ်တယ်။ ပင်စင်ရန်ပုံငွေတွေကို စွန့်စားမှုနည်းဆုံးအသင့်ရနိုင်တဲ့ ရင်းနှီးမြှုပ်နှံမှုလို့ သဘောထားကြတာကြောင့် အစိုးရရဲ့ ကြွေးမြီတွေထဲ ဒီငွေသားတွေကို အဓိကထည့်ဝင်ဖို့ မဖြစ်မနေလုပ်ဆောင်ကြတယ်။

အစောဆုံးအာမခံငွေချေးစာချုပ်အမျိုးအစား (tontine)နဲ့ ရေပန်းအစားဆုံးဖြစ်ပြီး ဒီနေ့ခေတ်အထိရှိနေသေးတဲ့ ငွေချေးစာချုပ်အမျိုးအစား (consol)တွေအပါအဝင် ငွေချေးစာချုပ်အမျိုးမျိုးကို ဗြိတိသျှအစိုးရရဲ့ ထုတ်ဝေခဲ့မှုအဆင့်ဆင့်မှာ ဈေးကွက်က တကယ့်ကို လွှမ်းမိုးမှုရှိလာတာက နပိုလီယံခေတ်မတိုင်ခင်ကအထိတော့ မဖြစ်သေးပါဘူး၊ ၁၉ ရာစုရဲ့ပထမနှစ်ဝက်အတွင်းမှာ Nathan Rothschild ဟာ ကမ္ဘာ့အချမ်းသာဆုံး သူဌေးတစ်ယောက်ဖြစ်လာခဲ့တယ်။ သမိုင်းမှာ ဩဇာအကြီးဆုံး ဘဏ်လုပ်ငန်းရှင်တစ်ယောက်ဖြစ်လာခဲ့ပြီး ဥရောပတစ်လွှားက ငွေချေးစာချုပ်ဈေးကွက်တွေကို ထိထိရောက်ရောက် လက်ဝါးကြီးအုပ်ထားခဲ့တယ်။ သူ့ရဲ့ဆုံးဖြတ်ချက်ကြောင့်ပဲဖြစ်ဖြစ်၊ တခြားအကြောင်းကြောင့်ပဲဖြစ်ဖြစ် နိုင်ငံတစ်နိုင်ငံရဲ့ ကြွေးမြီတွေဟာ ကျယ်ပြန့်စေတဲ့အကျိုးဆက်တွေ ဖြစ်ခဲ့တယ်။ နပိုလီယံစစ်ပွဲမှာ ပြင်သစ်တွေရဲ့ ရှုံးနိမ့်ခဲ့မှုဟာ သူတို့ရဲ့ မဟာဗျူဟာမြောက်စစ်ရေးဆုံးဖြတ်ချက်တွေကြောင့်ထက်



ကြွေးမြီတွေပြန်ဆပ်ဖို့ပျက်ကွက်တာကြောင့်၊ အကျိုးဆက်အနေနဲ့ စစ်ပွဲအတွက် လိုအပ်တဲ့ ငွေကြေးကို ရှာဖွေဖို့ အခက်အခဲဖြစ်ခဲ့ရတာနဲ့ ပိုပြီးသက်ဆိုင်တယ်လို့ အခုအချိန်မှာ သမိုင်းပညာရှင်တွေက သုံးသပ်ဆင်ခြင်ကြတယ်။

## တိုးပွားမှုမျဉ်းကွေး

ငွေချေးစာချုပ်ဈေးကွက်ရဲ့ အရေးပါမှုအပေါ် လူပြောအများဆုံးအချက်က ငွေချေးစာချုပ်တွေရဲ့ ပြန်ရပုံတွေက စီးပွားရေးစနစ်တစ်ရပ်ရဲ့အနာဂတ်နဲ့ပတ်သက်တဲ့ ထူးခြားပြောင်မြောက်တဲ့ သဲလွန်စတွေကို ပေးနိုင်တယ်လို့ ဆိုတဲ့အချက်ပဲ။ တိုးပွားမှုမျဉ်းကွေးက အစိုးရရဲ့ ငွေချေးစာချုပ် အမျိုးမျိုးရဲ့ အတိုးနှုန်းကို အချိန်နဲ့အမျှ တိုင်းတာပေးနေတယ်။ တခြားအရာတွေအားလုံး အတူတူပဲဆိုပေမယ့် ငွေချေးစာချုပ်တွေရဲ့ အတိုးနှုန်းနဲ့ပတ်သက်ရင် နှစ်တွေအများကြီးမခံဘဲ ကြာခင်မှာပဲ သက်တမ်းကုန်တာကြောင့် ပိုပြီးနိမ့်ကျလေ့ရှိတယ်။ ဒီသဘောက စီးပွားရေးစနစ်တစ်ရပ်ဟာအနာဂတ်မှာ တိုးတက်လာလေ့ရှိပြီး ငွေကြေးဖေါင်းပွမှုကလည်း မြင့်တက်လာတတ်တာကြောင့်ပဲဖြစ်တယ်။ အခါအားလျော်စွာပဲ တိုးပွားမှုမျဉ်းကွေးက ပြောင်းပြန်ဖြစ်လာတယ်။ ဆိုလိုတာက အချိန်အတိုဆုံး သက်တမ်းကုန်တဲ့ ငွေချေးစာချုပ်အတိုးနှုန်းတွေက အနာဂတ်မှာ သက်တမ်းကုန်မယ့်ငွေချေးစာချုပ်တွေထက် ပိုပြီးအတိုးနှုန်းမြင့်မားကြတယ်။

ဒီလက္ခဏာက စီးပွားရေးဟာ အကျဘက်ကို ဦးတည်နေတယ်ဆိုတာကို ပြသပေးတဲ့ မှုတာပြီးယုံကြည်စိတ်ချရတဲ့ လက္ခဏာရပ်ပါပဲ။ အတိုးနှုန်းတွေနဲ့ ငွေကြေးဖေါင်းပွမှု နှစ်မျိုးစလုံးကျဆင်းနေခြင်းဟာ စီးပွားရေးကျဆင်းမှုနဲ့အတူ တွဲလျက်ပါလာတဲ့ အရာတွေပဲဖြစ်တယ်၊ ဒါဟာ လူတိုင်းရဲ့ စီးပွားရေးကံကြမ္မာကို ငွေချေးစာချုပ်ဈေးကွက်ရဲ့ အခြေအနေနဲ့ ခွဲခြားလို့ မရနိုင်အောင် တွယ်ဆက်ထားတယ်ဆိုတာကို ပြသတဲ့နောက်ထပ်ဥပမာတစ်ခုပါပဲ။

**အနှစ်ချုပ်အတွေးအခေါ်**

**ငွေချေးစာချုပ်တွေဟာ အစိုးရဘဏ္ဍာငွေ အရင်းအမြစ်ရဲ့ အငြွံ**

# ၂၈ – ဘဏ်များ

## Banks

**လူတွေလိုမဟုတ်ဘဲ၊ စီးပွားရေးလုပ်ငန်းတွေကို ထပ်တူဆင်တူ မဖန်တီးထားဘူးလို့ ဆိုတယ်။ တချို့ကုမ္ပဏီတွေက လုပ်ငန်းတွေရပ်စဲလိုက်လို့ ပျောက်ကွယ်သွားကြပေမယ့် ဘဝတွေကတော့ ဆက်လက်ရှင်သန်နေတာပါပဲ။ တချို့လုပ်ငန်းတွေ ပြိုလဲကျသွားတာကတော့ စီးပွားရေးနဲ့ လူ့အဖွဲ့အစည်းတွေရဲ့ ကြီးမားတဲ့ကဏ္ဍတွေကို ကျုံ့ကျပြိုဆင်းသွားစေပါလိမ့်မယ်။ ဘဏ်တွေဟာ ဒုတိယလုပ်ငန်းအမျိုးအစားတွေထဲမှာပါဝင်တယ်။**

ဘဏ်လုပ်ငန်းနဲ့ ငွေကြေးကဏ္ဍမှာ ပါဝင်တဲ့ ကုမ္ပဏီတွေဟာ ကျွန်တော်တို့ရဲ့ စုဆောင်းငွေတွေကို သိုလှောင်ပေးတာနဲ့ ကျွန်တော်တို့ လိုအပ်တဲ့အခါမှာ ငွေထုတ်ချေးကြတာတင်မကဘဲ၊ စီးပွားရေးတစ်ရပ်အတွင်းမှာ ငွေကြေးတွေကို ဟိုဟိုဒီဒီသယ်ဆောင်ပေးဖို့ ဖွဲ့စည်းထားတဲ့လမ်းကြောင်းစနစ်တစ်ရပ်လိုလည်း လုပ်ဆောင်ပေးပါတယ်။ ဒါကြောင့်ဒီလုပ်ငန်းတွေကို ငွေရေးကြေးရေးဆိုင်ရာ ကြားခံတွေလို့ ခေါ်ကြတာဖြစ်တယ်။ သူတို့ရဲ့အဓိကလုပ်ဆောင်ချက်က ငွေထုတ်ချေးချင်သူတွေဆီကနေ ငွေချေးယူချင်သူတွေဆီကို ငွေတွေ အစုလိုက်အပြုံလိုက် လွှဲပေးဖို့ပါပဲ။

ဘဏ်တွေဟာ လူ့အဖွဲ့အစည်းတွေရဲ့ လူမှုအဆောက်အအုံအစိတ်အပိုင်းတွေဖြစ်ခဲ့တာ ရာစုနှစ်ပေါင်းများစွာကြာခဲ့ပါပြီ။ တကယ်တော့ ဘဏ် (bank)ဆိုတဲ့ ဝေါဟာရက လက်တင်စကားလုံး banca ကနေ ဆင်းသက်လာခဲ့တာဖြစ်တယ်။ banca ဆိုတာ ရှေးခေတ်ရောမမြို့က ငွေကြေးလဲလှယ်သူတွေအနေနဲ့ နိုင်ငံခြားငွေကြေးအရောင်းအဝယ်လုပ်ဖို့ ရှုထားတဲ့ကောင်တာတစ်ခုပွဲရှည်ကြီးတွေကို ရည်ညွှန်းခေါ်ဆိုတာဖြစ်တယ်။

ချမ်းသာသည်ဖြစ်စေ၊ ဆင်းရဲသည်ဖြစ်စေ၊ စီးပွားရေးစနစ်တစ်ရပ် ကောင်းကောင်းလည်ပတ်အလုပ်လုပ်ဖို့ရာ ဖွံ့ဖြိုးပြီး အခြေအနေကောင်းမွန်တဲ့ ငွေရေးကြေးရေးကဏ္ဍတစ်ရပ်ရှိရမှာဖြစ်တယ်။ ဘာကြောင့်ဒီလိုရှိဖို့လိုအပ်တာပါလဲ။ အကြောင်းကတော့ စီးပွားရေးလုပ်ငန်းတွေပဲဖြစ်ဖြစ်၊ လူပုဂ္ဂိုလ်တစ်ဦးချင်းစီပဲဖြစ်ဖြစ် လုပ်ငန်းတောင်ဖို့နဲ့ နောက်ပိုင်းမှာ အောင်အောင်ကောင်းမွန်ပြီး လည်ပတ်နိုင်စွမ်းရှိတဲ့၊ ဆန်းသစ်တဲ့လုပ်ငန်းတွေကို တည်ထောင်ဖို့အတွက် ငွေချေးငှားဖို့ ပလွှဲမသွေလိုအပ်လို့ပါပဲ၊ လူများစုအနေနဲ့ အိမ်ဝယ်ဖို့အတွက် အပေါင်စာချုပ်တွေ တရားဝင်ချုပ်ဆိုဖို့ရာလိုအပ်တာကြောင့် ဘဏ်တွေမှ မရှိရင် ဘယ်သူမှ အိမ်ဝယ်နိုင်ကြမှာမဟုတ်ပါဘူး။

> ဘဏ်တစ်ဘဏ်ကို ဓားပြတိုက်ခြင်းနဲ့ ဘဏ်တစ်ဘဏ်ကိုတည်ထောင်ခြင်းကို နှိုင်းယှဉ်လို့ရမလား။
>
> **Bertolt Brecht**

အလားတူပါပဲ၊ ဘဏ်တွေဟာ ဖလှယ်ရေးကြားခံ တစ်ရပ်အနေနဲ့ အရေးကြီးတဲ့အခန်းကဏ္ဍတစ်ရပ်က ပါဝင်တယ်။ ဘဏ်မရှိတဲ့ တစ်နေ့တာဘဝမှာ ရှင်သန်နေထိုင်ဖို့ကြိုးစားစိတ်ကူးကြည့်ရအောင်ပါ၊ ကျွန်တော်တို့ဟာ ရေးဝယ်ယူမှုအများစုအတွက် ငွေပေးချေဖို့ရာ ဘဏ်ကတ်တွေ၊ ကြေးဝယ်ကတ်တွေနဲ့ ချက်လက်မှတ်တွေကို သုံးစွဲကြတာကြောင့် ကျွန်တော်တို့ လုပ်ဆောင်တဲ့ အရောင်းအဝယ်အားလုံးနီးပါးမှာ ဘဏ်တွေဟာ သွယ်ဝိုက်ပတ်သက်နေရတာဖြစ်ပါတယ်၊

တင်ခါတစ်ရံ၊ ဘဏ်တွေဟာ ရောမအရာကြီးတွေအဖြစ်ကြီးထွားလာပြီး လုပ်တွေရဲ့ ရင်းနှီးမြှုပ်နှံမှုတွေကို စီမံခန့်ခွဲပေးခြင်းကနေ စီးပွားရေးကော်ပိုရေးရှင်းကြီးတွေ ပိုင်ဆိုင်မှုနဲ့ ဟိုတယ်တွေကိုလည်ပတ်ဖို့အထိ အရာရာတိုင်းကိုလုပ်ကိုင်နေတာ တွေ့လာရတယ်၊ လူတွေအနေနဲ့ ဘဏ်တွေဟာ သူများရဲ့ ဥစ္စာနေတွေကို စားသုံးရင်းသူတို့ရဲ့နေကို တိုးပွားစေဖို့ လုပ်ဆောင်နေတဲ့ကပ်ပါးကောင်တွေလို့ သဘောထားတတ်ကြတယ်၊ ဒါကြောင့်

### အချိန်ပြဇယား:

| ဘီစီ ၅ | ၁၃၉၇ | ၁၈၀၀ နှစ်များ | ၁၉၃၃ | ၂၀၀၇ |
|---|---|---|---|---|
| ဘဏ်လုပ်ငန်းဆိုင်ရာ အစောဆုံးနမူနာတွေကို ရှေးခေတ်ဟောင်းဂရိမှာ တွေ့ရ | ကမ္ဘာ့အစောဆုံးဘဏ်အဖြစ် အသိအမှတ်ပြုခံရတဲ့ Medici ဘဏ်ကိုတည်ထောင် | Rothschild မိသားစုက ဥရောပဘဏ်လုပ်ငန်းကို လွှမ်းမိုးခြယ်လှယ်လာ | မူလအစမှာ ဒေါ်လာ ၅၀၀၀ အကန့်အသတ်နဲ့ ငွေအပ်နှံသူတွေရဲ့ငွေသားတွေကို အာမခံပေးဖို့ Federal Deposit Insurance Corporation ကိုတည်ထောင် | ယူအက်စ်မှာ Indymac ပြိုကျပြီး နောက်နှစ်မှာ ယူကေက Northern Rock bank မှာ လူတွေတိုးပြီး ငွေထုတ်ယူကြ |

မကြာမကြာဘဏ်တွေရဲ့ ဒီပါဝါအဆင့်အတန်းက မကျေမချမ်းဖြစ်မှုတွေကို ဖြစ်ပေါ်စေတာ တွေ့ရတယ်။ ဒီဝေဖန်မှုတွေက ထိထိမိမိထောက်ပြတဲ့ အချက်တစ်ချက်တော့ရှိတယ်။ ၂၀၀၀ နှစ်နှောင်းပိုင်း ဘဏ်တွေ ပြိုလဲပြီးနောက်မှာ ဘဏ်တွေရဲ့တိုးချဲ့လာမှုအများအပြားဟာ အခြေခံကျတဲ့ တိုးတက်မှုမှာ အခြေတည်ပြီးဖြစ်လာတာမဟုတ်ကြောင်း ထင်ရှားပေါ်လွင်လာခဲ့တယ်၊ ဒါပေမဲ့သင်ရှားတဲ့ အမှန်တရားကတော့ ဘဏ်တွေမရှိဘဲ၊ လူတွေဟာ ငွေချေးယူတာ၊ ရင်းနှီးမြှုပ်နှံတာတွေ လုပ်နိုင်ကြမှာ မဟုတ်ပါဘူး။ တကယ်လို့ လူတွေအနေနဲ့ အကျိုးကျေးဇူးဖြစ်ထွန်းတဲ့ဘဝတွေမှာ ရှင်သန်နေထိုင်ဖို့ ဆိုရင်တော့ ဒီလုပ်ဆောင်ချက်တွေက မလွှဲမသွေလိုအပ်နေမှာပါပဲ။

## ဘဏ်တွေ ငွေဘယ်လိုရှာကြလဲ

ဘဏ်တွေရဲ့အခြေခံတည်ဆောက်ပုံနဲ့ လုပ်ငန်းမိုဒယ်တွေက ကမ္ဘာ့နေရာတိုင်းမှာ အခြေခံအားဖြင့်တော့ အတူတူပါပဲ။

ပထမတစ်ချက်က ဘဏ်တွေဟာ သူတို့ဆီကိုအပ်နှံထားတဲ့ ဘဏ်အပ်ငွေထက် သူတို့က ထုတ်ချေးပေးတဲ့ချေးငွေအပေါ် အတိုးပိုယူပြီး အမြတ်ရှာကြတယ်။ ဒီအတိုးနှုန်းနှစ်ခုကြား ကွာဟမှုအတိုင်းအတာက သူတို့ရဲ့ဝန်ဆောင်မှုပေးတာအတွက် အမြတ်တစ်စုံတစ်ရာ ပြန်လည်ရရှိစေတာဖြစ်တယ်။ ဘဏ်ချေးငွေအဆင့်သတ်မှတ်ချက် ပိုပြီးနိမ့်ကျနေလေလေ၊ အတိုးနှုန်းကွာဟချက်က ပိုပြီးမြင့်မားလေလေပါပဲ။ ဒါကြောင့် အိမ်ပေါင်စာချုပ်တစ်ခုကို အိမ်ရဲ့တကယ့်ရနိုင်မယ့်တန်ဖိုးရဲ့ ၈၀ ရာခိုင်နှုန်းအောက်လောက်နဲ့ပဲ တရားဝင်စာချုပ်ချုပ်ဆိုပြီး တခြားအရာတွေထက် အတိုးနှုန်းပိုကောက်ခံတာဖြစ်တယ်။ နောက်ဆုံးမှာတော့ သိသာတဲ့ ငွေသား ပမာဏတစ်ရပ်ကို ကြွေးဆုံးသတ်မှတ်ပေးဖို့ ဘဏ်တွေကို ဖိအားပေးတာတွေလည်း ရှိတတ်တယ်။

ဒုတိယအချက်က ဘဏ်တွေဟာ သူတို့ရဲ့ဖောက်သည်တွေကို တခြားသောဘဏ္ဍာရေးဆိုင်ရာ အကြံဉာဏ်တွေနဲ့ ဝန်ဆောင်မှုတွေကို ငွေကြေးတစ်စုံတစ်ရာရယူပြီး ကမ်းလှမ်းတာမျိုးတွေလည်း ရှိတယ်။ လူပုဂ္ဂိုလ်တစ်ဦးချင်းအတွက် ဘဏ်တွေက အာမခံလုပ်ပေးတာတွေ၊ ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အကြံဉာဏ်ပေးတာမျိုးတွေ လုပ်ဆောင်ပေးတယ်။ စီးပွားရေးလုပ်ငန်းတွေအတွက်တော့ စတော့ရှယ်ယာတွေ၊ ငွေချေးစာချုပ်တွေထုတ်ရောင်းဖို့ (တစ်နည်းပြောရရင်တော့ ငွေထုတ်ချေးလိုသူတွေနဲ့ ငွေချေးယူလိုသူတွေကို ချိတ်ဆက်ပေးပြီး မတည်ငွေရယူတဲ့အပေါ်)



### ဘဏ်များ၏ သီးသန့်ရန်ပုံငွေများ

ခေတ်သစ်ဘဏ္ဍာရေးရဲ့အဓိကသော့ချက်က သီးသန့်ရန်ပုံငွေတစ်ရပ်ထားရှိတဲ့ ဘဏ်စနစ်ပဲ။ ဘဏ်အကောင့်ထဲမှာ ငွေပေါင် ၁၀၀၀ ချန်ထားတယ်ဆိုပါစို့။ ဒီငွေအားလုံးကို တစ်ခါတည်း ထုတ်ယူလိုက်ဖို့ဆိုတာတော့ ဖြစ်နိုင်ခြေမရှိပါဘူး။ နောက်ဆုံးမှာ စုဆောင်းငွေကို လိုအပ်လာရင်တောင်မှ လက်တွေ့မှာ အော်တိုအမ်စက်ကာပဲဖြစ်ဖြစ်၊ ဘဏ်ကို ကိုယ်တိုင်သွားပြီးပဲဖြစ်ဖြစ် ထုတ်ယူရာမှာ စုဆောင်းငွေရဲ့ တစ်စိတ်တစ်ပိုင်းကိုပဲ ထုတ်ယူနိုင်မှာဖြစ်တယ်။

တကယ်တော့ ဘဏ်တွေအနေနဲ့ သူတို့ရဲ့ မြေအောက်ခန်းတွေထဲမှာ ဒီငွေတွေကိုထည့်ထားတာ မဟုတ်ဘဲ၊ သီးသန့်ရန်ပုံငွေအနေနဲ့ တစ်စိတ်တစ်ပိုင်းကိုသာ ထိန်းသိမ်းထားလေ့ရှိတာဖြစ်တယ်။ ထိန်းသိမ်းထားတဲ့ ငွေပမာဏကတော့ ငွေဘယ်လောက်များများ ထုတ်ယူမယ်လို့ သူတို့ ယုံကြည်ထားတဲ့အပေါ်မှာ မူတည်ပြီး အပြောင်းအလဲနေတတ်တယ်။ ဗဟိုဘဏ်တွေကတော့ ထုံးစံအတိုင်း ဘဏ်တွေအနေနဲ့ မဖြစ်မနေကိုင်ထားရမယ့် အရန်ငွေပမာဏကို ထိန်းချုပ်ထားတယ်၊ အမေရိကန်မှာတော့ သီးသန့်ရန်ပုံငွေ လိုအပ်ချက်ကို ၁၀% သတ်မှတ်ထားတယ်၊ ဘဏ်မှာငွေ ၁၀၀ ရှိရင် ၉၀ ထုတ်ချေးနိုင်တဲ့သဘောပေါ့။

ဒီလိုလုပ်တာဟာ စီးပွားရေးဆိုင်ရာ ကြောင်းကျိုးယုတ္တိဆီလျော်မှုရှိတယ်၊ အပ်နှံထားတဲ့ငွေတွေကို ဒီတိုင်း အလဟဿထားတာထက်စာရင် အခွင့်အလမ်းစရိတ်အမြင့်ဆုံးရစေဖို့ အဲဒီငွေတွေကို အသုံးချပစ်တာက ဘဏ်တွေအတွက်ပိုပြီးအကျိုးများစေတယ်။ ဒါပေမဲ့ ပိုပြီးကျယ်ပြန့်လာတဲ့ စီးပွားရေးအတွက်တော့ အရေးကြီးတဲ့သဘောထွက်ဆိုးကျိုးတွေရှိတယ်။ ဒီငွေပိုတွေကို ထုတ်ချေးလိုက်ခြင်းက ဘဏ်တွေအနေနဲ့ လည်ပတ်နေတဲ့ စုပေါင်းငွေပမာဏထဲကို ပေါင်းထည့်ပေးလိုက်တာဖြစ်ပြီး ငွေကြေးဖောင်းပွမှုကို ဖြစ်ပေါ်စေလိမ့်မယ်။

အကူအညီပေးတာမျိုးတွေနဲ့ တခြားကုမ္ပဏီလုပ်ငန်းတွေကို လွှဲယူဖို့ အကြံပေးတာမျိုးတွေ လုပ်ဆောင်ပေးတယ်၊ ဒါမျိုးက ရင်းနှီးမြှုပ်နှံမှုဘဏ်တွေရဲ့ အဓိကအခန်းကဏ္ဍပဲ။ ဒီဘဏ်တွေဟာ သူတို့ရဲ့ငွေသားအရင်းအနှီးတွေကို ပိုပြီးတိုးပွားလာဖို့ မျှော်လင့်ချက်နဲ့ သူတို့ကိုယ်တိုင်ရင်းနှီးမြှုပ်နှံမှုတွေ လုပ်ဆောင်ကြတယ်။

"ဘဏ်လုပ်ငန်းရှင်ဆိုတာ နေသာနေချိန်မှာ ထီးများကို ထီးငှားပေးထားပြီး မိုးစရွာတာနဲ့ အဲ့ဒီထီးကိုပြန်လိုချင်တဲ့ငနဲပဲ။"

မက်ခ် တွမ်

## အစုလိုက် အပြုံလိုက် ငွေထုတ်ယူကြခြင်း

ဘဏ်လုပ်ငန်းဆိုင်ရာ ခေတ်ပေါ်စနစ်က ငွေကြေးအပ်နှံထားသူတွေက သူတို့ငွေတွေဟာ လုံခြုံစိတ်ချရတဲ့လို့ ယုံကြည်နေတဲ့အချိန်တွေမှာ သူတို့ရဲ့ဖေါက်သည်တွေကို တရားဝင်ပေးဆပ်ဖို့ရှိတာထက်လျော့ပြီး မြေတိုက်ခန်းထဲမှာ ငွေသားနည်းနည်းပဲထားတယ်။ ဒါပေမဲ့ အကျပ်အတည်းဖြစ်တဲ့အချိန်တွေမှာ ဒါက သိသိသာသာဆုံးရှုံးရနိုင်ပါတယ်။ ဒီလိုဖြစ်ရတဲ့အကြောင်းတွေကတော့ အများကြီးပါပဲ။ ဘဏ်တစ်ခု ပြိုကျခါနီးပြီဆိုတဲ့ ကောလာဟလတွေ၊ ဒါမှမဟုတ် ကြီးကြီးမားမားတားပြတိုက်ခံရတာ၊ ဒါမှမဟုတ် သဘာဝဘေးအန္တရာယ်ကျရောက်မှုခံရတာတွေဖြစ်ပြီးတဲ့နောက်မှာ ငွေအပ်နှံထားသူတွေဟာ သူတို့အပ်နှံထားတဲ့ ငွေတွေကိုပြန်ထုတ်ဖို့ကြိုးစားကြတယ်။ ဒီဖြစ်စဉ်ကို ဘဏ်မှာ အစုအပြုံလိုက်ငွေထုတ်ယူကြခြင်းလို့ ခေါ်တယ်။ ၂၀၀၇ ခုနှစ်မှာ ယူကေက Northern Rock ဘဏ်မှာ အဲ့ဒီလိုအစုလိုက်အပြုံလိုက်ငွေပြန်လည်ထုတ်ယူမှုဖြစ်ပွားခဲ့တယ်။ အဲ့ဒီဘဏ်ဟာ (နောက်ဆုံးအားထားရာဗဟိုဘဏ်ဖြစ်တဲ့) အင်္ဂလန်ဗဟိုဘဏ်ကနေ အရေးပေါ် အကူညီအထောက်အပံ့တွေ လက်ခံရတော့မယ်ဆိုတာ ငွေစုထားသူတွေ သိသွားတဲ့အခါမှာ ထောင်နဲ့ချီတဲ့ လူအုပ်ကြီးဟာ ငွေပြန်ထုတ်ဖို့ တန်းစီစောင့် ဆိုင်းခဲ့ကြတာပဲဖြစ်တယ်။

သီးသန့်ရန်ပုံငွေတစ်စိတ်တစ်ပိုင်းသာထားတဲ့ ဘဏ်စနစ်ကြောင့် ငွေအပ်နှံထားသူအားလုံးကို တစ်ပြိုင်တည်းနဲ့ ပြန်ထုတ်ပေးဖို့ ခေတ်သစ်ဘဏ်တွေမှာ ငွေအလုံအလောက်မရှိပါဘူး။ တခြားစီးပွားရေးလုပ်ငန်းတွေလိုပါပဲ၊ ဘဏ်တွေဟာလည်း (အပေါင်စာချုပ်တွေနဲ့ ကာလရှည်ချေးငွေတွေအတွက်) အပ်နှံငွေတွေအပေါ်မှာ မှီခိုကြရတာဖြစ်တယ်။ အပေါင်စာချုပ်လိုအရာတွေက ငွေသားအဖြစ်ပြောင်းလဲဖို့ ခက်ခဲတာကြောင့် ဖေါက်သည်တွေအားလုံးက သူတို့ရဲ့အပ်နှံငွေတွေကိုပြန်ထုတ်တဲ့အခါ ဘဏ်တွေပြိုလဲမယ့် အလားအလာနဲ့ကြုံတွေ့ကြရတယ်။



ဘဏ်လုပ်ငန်းတွေနဲ့ ပတ်သက်လို့ အစောပိုင်းကာလတွေမှာ ဘဏ်တွေပြိုလဲရင် ငွေစုထားသူတွေဟာ သူတို့ရဲ့ငွေကြေးတွေကို ဆုံးရှုံးကြရတယ်၊ မဟာစီးပွားပျက်ကပ်ကာလမှာ ဒီလိုအဖြစ်မျိုးတွေအများအပြားကြုံတွေ့ခဲ့ရတယ်။ ဒါပေမဲ့ အများပြည်သူတွေအထိတ်တလန့်ဖြစ်ပြီး ဘဏ်အပ်ငွေတွေကို အစုလိုက်အပြုံလိုက်ပြန်ထုတ်ယူကြလို့ ဘဏ်တွေဒုက္ခသုက္ခရောက်ရတာကို နားလည်တာကြောင့် အစိုးရတွေက ဘဏ်အပ်ငွေအပေါ်အာမခံအစီအစဉ်တွေ ထူထောင်ပေးခဲ့တယ်၊ ဒီအစီအစဉ်မျိုးကို အမေရိကန်ပြည်ထောင်စုမှာ Federal Deposit Insurance Corporation လို့ခေါ်ပြီး ယူနိုက်တက်ကင်းဒမ်းမှာတော့ Financial Services Compensation Scheme လို့ခေါ်တယ်။ ဒီနှစ်ခုလုံးက ဘဏ်တွေမှာအပ်ထားတဲ့ အပ်ငွေတွေကို အတိုင်းအတာတစ်ရပ်အထိ အကာအကွယ်ပေးထားတယ်။

၂၀၀၈ ခုနှစ်မှာ တောင်ခဲ့တဲ့ ဘဏ္ဍာရေးအကျပ်အတည်းအတွေ့အကြုံက အစိုးရတွေဟာ ဘဏ်တွေမပြိုလဲရလေအောင် ဘာကိုမှ မတားဆီးခဲ့ဘူးဆိုတာ သက်သေပြခဲ့တယ်။ အဲ့ဒီအခါ စီးပွားရေးကို ပိုပြီးကြီးမားပြင်းထန်တဲ့ အကျိုးဆက်တွေ ဖြစ်လာစေနိုင်ပါတယ်၊ ဒါက ဖေါက်သည်တွေရဲ့ယုံကြည်မှုနဲ့ ဥစ္စာဓနတွေကို ဆုံးရှုံးရရုံသာမကဘဲ ဘဏ်တွေက သူတို့ရဲ့ သီးသန့်ငွေသားရန်ပုံငွေထဲကိုပဲ ငွေသားတွေထည့်ပြီး ငွေထုတ်ချေးမှုတွေကို ရပ်ပစ်လိုက်တာကြောင့် စီးပွားရေးထဲမှာ လည်ပတ်နေတဲ့ ငွေပမာဏကိုလည်း ရုတ်ချည်းထိုးကျသွားစေနိုင်တယ်၊ ဒီအခြေအနေကနေ ဒီဖလေးရှင်းဖြစ်စဉ်ဆီကို ဦးတည်သွားစေနိုင်ပါတယ်။

ဘဏ်တွေမှာ ငွေကြေးထုတ်ပေးဖြန့်ချိနိုင်တဲ့၊ လူတွေရဲ့ဘဝတွေကို ကြည့်ရှုစောင့်ရှောက်နိုင်တဲ့၊ ရင်းနှီးမြှုပ်နှံမှုတွေကို ချောမွေ့စေနိုင်တဲ့၊ ငွေကြေးသုံးစွဲမှုရဲ့ပင်မလမ်းကြောင်းကြီးကို စီစဉ်ပေးနိုင်တဲ့ ပါဝါရှိတာကြောင့် တခြားလုပ်ငန်းအမျိုးအစားတွေထက် ဘဏ်တွေကိုစည်းမျဉ်းစည်းကမ်းတွေနဲ့ ပိုပြီးထိန်းသိမ်းရတာဟာ အံ့သြစရာမဟုတ်ပါဘူး၊ ဘဏ်တွေရဲ့အခြေအနေနဲ့ စီးပွားရေးအခြေအနေဟာ ခွဲခြားမရအောင်ချိတ်ဆက်နေတာဖြစ်ပါတယ်၊

### အနှစ်ချုပ်အတွေးအခေါ်

**ဘဏ်တွေဟာ ငွေချေးယူလိုသူတွေနဲ့ ငွေထုတ်ချေးလိုသူတွေကို ချိတ်ဆက်ပေးတယ်**

# ၂၉ – စတော့နှင့် ရှယ်ယာများ

## Stocks and shares

**ငွေကြေးကိုရင်းနှီးမြှုပ်နှံချင်သူတွေရှိခဲ့တာဟာ ကမ္ဘာပေါ်မှာ ငွေကြေးရှိခဲ့တဲ့သက်တမ်းနဲ့ အတူတူပါပဲ။ အီတလီနိုင်ငံ ရီနေးဆန့်ခေတ်ကနေ ၁၇ ရာစုအထိ ငွေကြေးရင်းနှီးမြှုပ်နှံမှု အတေပိုင်းကာလမှာ အဓိကထွက်ပေါက်က အစိုးရငွေချေးစာချုပ်တွေဖြစ်ခဲ့တယ်။ ဒါပေမဲ့ ကမ္ဘာ့ပထမဆုံး ကော်ပိုရေးရှင်းကြီးတွေပေါ်ပေါက်လာချိန်မှာတော့ အရာရာဟာ ပြောင်းလဲသွားခဲ့တယ်။ ဒီကော်ပိုရေးရှင်းကြီးတွေဟာ ရှယ်ယာတွေကို လက်ခံခဲ့ပြီး ဈေးကစားမှုတွေလုပ်ခဲ့လို့ မီလီယံချီအမြတ်အစွန်းရခဲ့ကြသလို မီလီယံချီဆုံးရှုံးမှုတွေနဲ့လည်း ရင်ဆိုင်ခဲ့ရတယ်။ ဒါကြောင့် အစောဆုံးစတော့ဈေးကွက်ဟာ ပြိုကျပျက်စီးခဲ့ရတယ်။**

လန်ဒန်နဲ့ ပဲရစ်ကနေ နယူးယောက်နဲ့ တိုကျိုအထိ စတော့ဈေးကွက်တွေမှာ ဒေါ်လာဘီလီယံချီတန်တဲ့ ရှယ်ယာတွေကို နေ့စဉ်နဲ့ အမျှရင်းနှီးမြှုပ်နှံသူတွေဟာ အရောင်းအဝယ်လုပ်ကြတယ်။ ကုမ္ပဏီတစ်ခုရဲ့ရှယ်ယာဈေးနှုန်းက အဲ့ဒီကုမ္ပဏီဟာ လွတ်လွတ်လပ်လပ်ရပ်တည်နေနိုင်သလား၊ သိမ်းပိုက်ခံရတော့မှာလား၊ ဒါမှမဟုတ် အဆိုးဆုံးအခြေအနေနဲ့ ရင်ဆိုင်နေရပြီး ပြိုလဲပျက်စီးတော့မှာလားဆိုတာ ဆုံးဖြတ်ပေးနိုင်တယ်။ ရှယ်ယာဈေးနှုန်းတွေက လူတွေရဲ့ကံကြမ္မာကို ဖန်တီးပေးနိုင်ပြီး ပြိုလဲပျက်စီးသွားအောင်လည်း အလွယ်တကူ လုပ်ပစ်လိုက်နိုင်တယ်၊ ဒါပေမဲ့ စတော့ဈေးကွက်ဆိုတာ ကာစီနိုလောင်းကစားရုံတော့လည်း မဟုတ်ပါဘူး။ လူတွေရင်းနှီးမြှုပ်နှံလိုက်တဲ့ငွေကြေးက ကုမ္ပဏီရဲ့တိုးတက်မှုကို တိုက်ရိုက်ထည့်ဝင် ဖြည့်ဆည်းပေးတာဖြစ်တယ်၊ ပြောရရင် စီးပွားရေးကို ပိုပြီးကျယ်ပြန့်လာစေတာဖြစ်တယ်၊ အရောင်းအဝယ်ကောင်းနေတဲ့ စတော့ဈေးကွက်ဟာ စီးပွားရေးအလျင်အမြန်

**အချိန်ပြဇယား:**

| ၁၆၀၀ | ၁၇၉၂ |
|---|---|
| ဗြိတိသျှအရှေ့အိန္ဒိယ ကုမ္ပဏီကို တည်ထောင် | နယူးယောက်စတော့အိတ်ချိန်းတည်ထောင်မှုအတွက် အခြေခံဖြစ်တွေကို Buttonwood သဘော တူညီချက်က ချမှတ်ပေး |



တိုးတက်ရင်ဆန့်နေတာကို သက်သေပြနေတာပါပဲ၊ ဒါကြောင့် ဥရောပကိုလိုနီအင်ပါယာကို လျင်လျင်မြန်မြန်ချဲ့ထွင်နိုင်တဲ့အခါ အမြတ်ထုတ်ဖို့ ပထမဦးဆုံး ကုမ္ပဏီတွေကို ဖန်တီးခဲ့ကြတယ်။

### ကော်ပိုရေးရှင်းကြီးများ

ပထမဆုံးကုမ္ပဏီကို တရိုးနီးယားကုမ္ပဏီလို့ အသိအမှတ်ပြုကြတယ်၊ ဒီကုမ္ပဏီက အမေရိကမှာ ကိုလိုနီအဖြစ် သွားရောက် အခြေချနေထိုင်သူတွေနဲ့ ကုန်သွယ်ဖို့တည်ထောင်ခဲ့တာဖြစ်တယ်။ ဒါပေမဲ့ ပထမဆုံးအထင်ကရကော်ပိုရေးရှင်းကတော့ ဗြိတိသျှအရှေ့အိန္ဒိယကုမ္ပဏီဖြစ်တယ်။ ဒီကုမ္ပဏီက အာရှတိုက်မှာရှိတဲ့ ဗြိတိသျှနယ်မြေတွေနဲ့ ကုန်သွယ်မှုကိုတစ်ဦးတည်း ဒီကုမ္ပဏီက အုပ်ချုပ်ခဲ့တယ်။ ဒီနောက် လက်ဝါးကြီးအုပ်ဖို့ အစိုးရကထောက်ပံ့ထားတဲ့ကော်ပိုရေးရှင်းကြီးဖြစ်တယ်၊ ဒီနောက် မကြာခင်မှာပဲ ဒတ်ချ်အရှေ့အိန္ဒိယကုမ္ပဏီကို အမ်စတာဒမ်မြို့မှာတည်ထောင်ခဲ့တယ်။

ဒီကုမ္ပဏီကြီးတွေဟာ သူ့ခေတ်မှာရှိခဲ့တဲ့လုပ်ငန်းတွေနဲ့ ဖွဲ့စည်းမှု၊ အစုစပ်ပုံစံ၊ နိုင်ငံတော်ရဲ့ စီမံခန့်ခွဲမှုလုပ်ငန်းပုံစံစတဲ့အခြေအနေတွေမှာ ကွဲပြားသွားတယ်။ ကွဲပြားပုံနည်းလမ်းတွေကို အောက်ပါအတိုင်းတွေ့နိုင်တယ်။

၁။ သူတို့ဟာငယ်လို့ငွေကြေးမတည်ရင်းနှီးသလဲ၊ ကုမ္ပဏီသစ်တွေက ရှယ်ယာတွေကို ထုတ်ရောင်းတယ်၊ ဒီနေ့ခေတ်မှာတော့ ဒီရှယ်ယာတန်ဖိုးတွေကို အီကွီတီလို့လည်း သိကြတယ်။ ဘွန်းလို့ခေါ်တဲ့ ငွေချေးစာချုပ် တွေနဲ့မတူတာက၊ ရှယ်ယာကို ဝယ်ယူထားသူတွေကို ကုမ္ပဏီမှာရှိတဲ့ ရှယ်ယာကိုတရားဝင် ပိုင်ဆိုင်တဲ့ အစုရှင်အဖြစ် အသိအမှတ်ပြုပြီး ကုမ္ပဏီရဲ့ကံကြမ္မာကိုလည်း အများကြီး လွှမ်းမိုးနိုင်တယ်။ အစုရှင်တွေဟာ ကုမ္ပဏီအနေနဲ့ ပြိုင်ဘက် ကုမ္ပဏီကရှယ်ယာတွေကို ဝယ်ယူမလား၊ ဒါမှမဟုတ် ပြိုင်ဘက်ကုမ္ပဏီတွေနဲ့ ပူးပေါင်းလုပ်ဆောင်မလား၊ ရှယ်ယာတွေကို ထုတ်ရောင်းမလားစတာတွေကို အဆုံးအဖြတ်

> လူများစုရဲ့ ဈေးကစားအမြတ်ထုတ်လို့ ဒါမှမဟုတ် လောင်းကစားဆို အရိုးစွဲနေတဲ့ တိမ်းညွှတ်မှုရဲ့ အကျိုးဆက်ကြောင့် သာမန်တော့တွေဟာ ယုတ္တိကင်းမဲ့တဲ့ လွန်လွန်ကဲကဲရေနွေးအပေါက်အတ ဖြစ်တာတွေကိုခံစားရတယ်။
>
> ဘင်ဂျမင် ဂရေဟမ်၊
> အမေရိကန်စီးပွားရေးပညာရှင်

| ၁၈၀၁ | ၁၉၂၉ | ၁၉၈၇ |
|---|---|---|
| လန်ဒန်စတော့အိတ်ချိန်းကို တည်ထောင် | ဝေါလ်စထရိ ငွေကြေးဈေးကွက် ပြိုကျ | Black Monday (အောက်တိုဘာလ ၁၉ ရက်)၊ ယူအက်စ်စတော့ဈေးကွက် ၂၂% ကျဆင်း |

## ရှယ်ယာဈေးနှုန်း

ရင်းနှီးမြှုပ်နှံသူတွေအနေနဲ့ သူတို့ရဲ့ အိကွီတီတွေကို ရောင်းနိုင်၊ ဝယ်နိုင်တဲ့ နေရာဖြစ်တဲ့ စတော့ ဈေးကွက်တွေ ဖန်တီးခြင်းဟာ အရင်းရှင်စနစ်သမိုင်းမှာ အဓိကအလှည့်အပြောင်းတစ်ခုလို့ဆိုရမယ်။ ဒီနောက်မှာ ရှယ်ယာတွေရဲ့အရေးပါမှုက ပိုပိုပြီးကြီးထွားလာခဲ့တယ်။ ၂၀၀၈ ခုနှစ် နှောင်းပိုင်းမှာတော့ ကမ္ဘာ့စတော့ ဈေးကွက်ရဲ့ စုစုပေါင်းရှယ်ယာတန်ဖိုးက ဒေါ်လာ ၃၇ ထရီလီယံလောက်ဖြစ်နေပြီ၊ စီးပွားရေးအင်အားကြီးနိုင်ငံတိုင်းမှာ ဒေသတွင်း စတော့ဈေးကွက်ရှိတယ်။ အထူးသဖြင့် သက်ဆိုင်ရာနိုင်ငံရဲ့ မြို့တော်တွေမှာရှိကြပြီး အဲ့ဒီမှာ တိုင်းပြည်ရဲ့ရှယ်ယာတွေကို အရောင်းအဝယ်လုပ်ကြတယ်။

ဒီဈေးကွက်တွေရဲ့ စွမ်းဆောင်ရည်ကို ယေဘုယျအားဖြင့် သူတို့ရဲ့အကြီးဆုံး ကုမ္ပဏီကြီးတွေရဲ့ရှယ်ယာဈေးနှုန်းအညွှန်းကိန်းနဲ့ တိုင်းတာကြတယ်။ နယူးယောက်မှာ Dow Jones Industrials Average နဲ့ S&P 500၊ လန်ဒန်မှာ FTSE 100၊ တိုကျိုမှာ Nikkei၊ ဖရန့်ဖတ်မှာ DAX၊ ပဲရစ်မှာ CAC 40 နဲ့ ရှန်ဟိုင်းမှာ SSE Composite index တို့ဟာ ထင်ရှားတဲ့ အညွှန်းကိန်းတွေဖြစ်တယ်။

ပေးနိုင်တယ်။ ဒီ့အပြင်အစုရှယ်ယာရှင်တွေဟာ ဒါရိုက်တာလတာကိုစံစားနိုင်သလို အရေးကြီးတဲ့ကိစ္စတွေမှာ မဲပေးဆုံးဖြတ်နိုင်တယ်။

၂။ **အစုရှင်တွေကိုဘခြားရင်းနှီးမြှုပ်နှံသူတွေသံ သူတို့ရဲ့ အိကွီတီတွေကို ရောင်းရချွင့်အခွင့်အရေးပေးထားခြင်း။** ဒါက မူလပထမဈေးကွက်နဲ့မတူတဲ့ ဒုတိယဈေးကွက်လို့ခေါ်တဲ့ စတော့ဈေးကွက်ကို ဖန်တီးပေးတယ်။ မူလပထမ ဈေးကွက်မှာတ အစိုးရနဲ့ ကုမ္ပဏီတွေဟာ သူတို့ရဲ့ငွေချေးစာချုပ်တွေ၊ ရှယ်ယာတွေကို ရင်းနှီးမြှုပ်နှံသူတွေဆီကို တိုက်ရိုက်ရောင်းချကြတယ်။

၃။ **တန့်သဝ်သားတဲ့အခလျော်ပေးရန်တာဝန်။** ကုမ္ပဏီတစ်ခုပြိုကျသွားတဲ့ အခါ အစုရှင်တွေဟာ မိမိသဘောအရ လုပ်ငန်းထဲမှာထည့်ဝင်ထားတဲ့အရာတွေကိုပဲ ဆုံးရှုံးခံရဖို့ ဥပဒေအရတာဝန်ရှိတယ်။ တခြားသောကိုယ်ပိုင်အိမ်တွေ၊ ကားတွေနဲ့ တခြားအရာတွေကို ဆုံးရှုံးခံစရာမလိုဘူး။ ကုမ္ပဏီတွေမှာလည်း



လူတစ်ယောက်လို အသွင်နဲ့ တရားဥပဒေကြောင်းအရ ရပိုင်ခွင့်အခွင့်အရေးတွေရှိတယ်။ ဒီအခွင့်အရေးအရ အစုရှယ်ယာရှင်တွေနဲ့မဆိုင်ဘဲ၊ ပူးပေါင်းဆောင်ရွက်ဖို့ သဘောတူ စာချုပ်တွေကို လက်မှတ်ရေးထိုးခွင့်၊ ပစ္စည်းဥစ္စာတွေပိုင်ဆိုင်ခွင့်နဲ့ သူတို့ဘာသာ အခွန်ပေးဆောင်ခွင့် အခွင့်အရေးတွေ ရရှိထားတယ်။

ကုမ္ပဏီကိုပိုင်ဆိုင်သူတွေအနေနဲ့ အစုရှင်တွေဟာကုမ္ပဏီရဲ့အမြတ်အစွန်းတွေကို ခွေပုံကျခံစားခွင့်ရှိတယ်။ ကုမ္ပဏီရဲ့လည်ပတ်မှု ကုန်ကျစရိတ်တွေနဲ့ ရင်းနှီးမြှုပ်နှံမှု အစီအစဉ်တွေကို ထည့်တွက်ပြီးနောက်မှာ ငွေသားတွေပိုနေမှသာလျှင် အစုရှင်တွေအနေနဲ့ နှစ်စဉ်အမြတ်ဝေစုပေးငွေကို ရရှိမှာဖြစ်တယ်။ ရှယ်ယာတန်ဖိုးတွေတက်လာတဲ့အခါမှာလည်း သူတို့တွေဟာ အကျိုးအမြတ်ခံစားရနိုင်သလို ရှယ်ယာတန်ဖိုးတွေကျသွားရင်လည်း ရင်းနှီးမြှုပ်နှံမှုတွေ ဆုံးရှုံးရမယ့်အန္တရာယ်ရှိပါတယ်။ အကယ်၍ကုမ္ပဏီပြိုလဲသွားရင်လည်း ငွေတွေပြန်ရဖို့ သူတို့ဟာ ငွေချေးစာချုပ်ဝယ်ယူထားသူတွေနောက်တနေ တန်းစီရမှာဖြစ်တယ်။ ဒါကြောင့် အစုရှယ်ယာတွေကို ယေဘုယျအနေနဲ့ အကြွေးပေးတာထက် ပိုပြီးစွန့်စားရတဲ့ ရင်းနှီးမြှုပ်နှံမှုတွေလို့ သတ်မှတ်ကြတယ်။

ကုမ္ပဏီတွေကို အမျိုးအစားနှစ်မျိုးခွဲနိုင်တယ်။ ပထမတစ်မျိုးက ဈေးကွက်မှာစာရင်းမရှိ ရှယ်ယာတွေမရောင်းချတဲ့၊ ကိုယ်ပိုင်ကုမ္ပဏီတွေဖြစ်တယ်။ အဲ့ဒီကုမ္ပဏီမျိုးတွေက ကုမ္ပဏီငယ်လေးတွေဖြစ်ပြီး အစုရှယ်ယာတွေကို သူ့ရဲ့ဒါရိုက်တာတွေကသာ ပိုင်ဆိုင်ကြတယ်။ ဒါရိုက်တာတွေဟာလည်း တည်ထောင်သူမိသားစုတွေ၊ ဘက်တွေနဲ့ကနဦးရင်းနှီးမြှုပ်နှံသူတွေသာ ဖြစ်တာများတယ်။ နောက်တစ်မျိုးကတော့ စတော့ဈေးကွက်မှာစာရင်းရှိတဲ့၊ ရှယ်ယာရောင်းချတဲ့ ကုမ္ပဏီမျိုးဖြစ်တယ်။

### စတော့ဈေးကွက်

စတော့ဈေးကွက်တစ်ခုရဲ့ ရှေးရိုးအဝင်အလာပုံရိပ်က ရောင်းမယ်၊ ဝယ်မယ်လို့ ဟန်ပါပါနဲ့ စတော့ဈေးကွက်တစ်ခုရဲ့ ရှေးရိုးအဝင်အလာပုံရိပ်က ရောင်းမယ်၊ ဝယ်မယ်လို့ ဟန်ပါပါနဲ့ အသံကုန်အော်ဟစ်နေတဲ့ အရောင်းအဝယ်သမားတွေရှိတဲ့ ဆူဆူညံညံနဲ့ ပျားပန်းခပ်လှုပ်ရှားနေတဲ့ နေရာတစ်ခုပဲ၊ ဒီလိုအုတ်အော်သောင်းနင်း ဆူညံနေတဲ့ဈေးကွက်မျိုးက ကမ္ဘာကြီးမှာ မရှိသလောက်ရှားသွားပြီ၊ London Metals Exchange နဲ့ Chicago Mercantile Exchange တို့လောက်ပဲ ကျန်ပါတော့တယ်၊ ဒီလိုရှယ်ယာတွေ ဆူညံညံ

ရောင်းကြဝယ်ကြတဲ့နေရာကို ကွန်ပြူတာစနစ်တွေက အစားထိုးနေရာယူလာတယ်၊ ဒီလိုကွန်ပြူတာစနစ်တွေကြောင့် ရင်းနှီးမြှုပ်နှံသူတွေဟာ ကမ္ဘာ့ဘယ်နေရာကနေမဆို အရောင်းအဝယ်လုပ်နိုင်လာကြတယ်။

ရှယ်ယာဈေးတွေကျဆင်းနေပြီး ဆက်ကျမယ့်အလားလာရှိနေတဲ့ ဈေးကွက်ကို ဝက်ဝံဈေးကွက် (bear market) လို့ခေါ်ပြီး ဈေးတက်နေရင်တော့ နွားသိုးဈေးကွက် (bull market)လို့ ခေါ်ကြတယ်။ ကုမ္ပဏီတစ်ခုရဲ့ အလားအလာကြောင့် ရင်းနှီးမြှုပ်နှံသူတွေ စိတ်အားထက်သန်လာတဲ့အခါ အဲ့ဒီရှယ်ယာတွေကို ဝယ်ဖို့အုပ်လိုက်သင်းလိုက် ရောက်လာကြတာကြောင့် ရှယ်ယာဈေးတွေကို တက်သွားစေတယ်၊ အလားတူပါပဲ၊ ကုမ္ပဏီတစ်ခု ရှုန်းကန်နေရရင်လည်း ရှယ်ယာတွေကို ပြန်လည်ရောင်းထုတ်ကြတာကြောင့် ရှယ်ယာဈေးတွေကို ကျဆင်းသွားစေတယ်။

ရင်းနှီးမြှုပ်နှံသူလူအုပ်ကြီးကို ကြောက်ရွံ့မှုနဲ့ လောဘက ပေါင်းဝင်မောင်းနှင်နေတယ်။ အခါအားလျော်စွာ လောဘက ကြောက်ရွံ့မှုကို အနိုင်ယူထားနိုင်တော့ ဈေးတွေထိုးတက်ပြီး စတော့ဈေးကွက်က ပူဖောင်းလိုဖောင်းကားလာတယ်၊ တစ်ခါ ကြောက်ရွံ့မှုက လောဘကို နိုင်သွားပြန်တော့ ရှယ်ယာဈေးတွေထိုးကျသွားပြီး မြေကြီးနဲ့ပြန်ဆောင့်မိလို့ ပူဖောင်းပေါက်သွားပြန်တယ်၊ နယူးယောက်၊ လန်ဒန်နဲ့ တခြားနေရာကစတော့ဈေးကွက်တွေဟာ ပူဖောင်းအကြီးကြီးတွေဖြစ်ပြီး ပေါက်သွားတဲ့ ဒဏ်တွေကို ကုန်ခဲ့တဲ့နှစ်တစ်ရာအတွင်းမှာ အများကြီးခံစားခဲ့ရတယ်။ နာမည်ဆိုးနဲ့အကျော်ကြားဆုံးက ၁၉၂၉ ဝေါလ်စထရိ ငွေကြေးဈေးကွက်ပြိုလဲမှုဖြစ်ပေမယ့် ၁၉၈၇ Black Monday မှာတော့ ရှယ်ယာဈေးတွေက ပိုပြီးတောင် ထိုးကျခဲ့သေးတယ်၊ အဲ့ဒီတုန်းက Dow Jones အညွှန်းကိန်းဟာ တစ်ရက်ထဲမှာ ၂၂.၆ % ထိုးဆင်းသွားခဲ့တယ်၊ ကမ္ဘာ့အနှံ့က ဈေးကွက်တွေဟာလည်း ၂၀၀၀ နဲ့ ၂၀၀၂ ကြား ဒေါ့ကွန်ပြိုလဲမှုနဲ့ ၂၀၀၈ ဘဏ္ဍာရေးအကျပ်အတည်းတွေနောက်မှာ ရှယ်ယာဈေးထိုးကျမှုတွေကို ခံစားခဲ့ရတာပါပဲ။

## ရင်းနှီးမြှုပ်နှံသူကြီးများ

စတော့ဈေးကွက်မှာ ဝင်ကစားသူတွေမှာ တစ်ဦးချင်းရင်းနှီးမြှုပ်နှံသူတွေရှိသလို၊ အာမခံအုပ်စုတွေ၊ ဘဏ်တွေနဲ့ ပင်စင်ရန်ပုံငွေအဖွဲ့တွေလိုမျိုး အဖွဲ့အစည်းလိုက်



ရင်းနှီးမြှုပ်နှံသူတွေလည်း ရှိတယ်။ ပင်စင်နဲ့ အာမခံရန်ပုံငွေအဖွဲ့တွေဟာ စတော့ဈေးကွက်မှာ ရင်းနှီးမြှုပ်နှံထည့်ဝင်ငွေအများအပြားပါဝင်တာကြောင့် ရှယ်ယာဈေးနှုန်းအပြောင်းအလဲဟာ သာမန်နိုင်ငံသားတစ်ဦးချင်းစီကိုလည်း သွယ်ဝိုက်ရိုက်ခတ်မှုတွေရှိတယ်လို့ ဆိုရမယ်။

တခြားရင်းနှီးမြှုပ်နှံသူတွေရဲ့အပုပ်ချတာကို အခံရဆုံးကတော့ hedge fundတွေပဲ။ သူတို့ဟာရှယ်ယာကို ဝယ်ရုံတင်မကဘူး၊ အချိန်တိုအတွင်းပြန်ရောင်းပစ်ကြတယ်။ တကယ်တော့ သူတို့က တန်ဖိုးဈေးအကျအပေါ်မှာ အလောင်းအစားလုပ်သူတွေပဲဖြစ်တယ်။ (သူတို့လုပ်ပုံက တခြားရင်းနှီးမြှုပ်နှံသူတွေဆီကနေ ဒေါ်လာ ၁၀၀ တန်ရှယ်ယာကို ချေးယူလိုက်တယ်။ ပြီးတော့ အဲ့ဒီဈေးနဲ့ပဲ ပြန်ရောင်းထုတ်တယ်၊ တစ်ဖက်မှာ ရှယ်ယာဈေး ၈၀ အထိကျသွားတာကို စောင့်ပြီး ပြန်ဝယ်လိုက်တယ်။ ပြီးတော့ မူလရင်းနှီးမြှုပ်နှံသူဆီပြန်ပေးလိုက်တဲ့အခါ သူတို့အိတ်ထဲကို ဒေါ်လာ ၂၀ အလိုလို ရောက်လာတာပါပဲ။) နောက်ထပ်ရင်းနှီးမြှုပ်နှံသူတစ်မျိုးကတော့ ပရိုက်ဗိတ်အီကွိတီ ကုမ္ပဏီမျိုးပဲ။ သူညောင်ရှယ်ချက်က ရုန်းကန်နေရတဲ့ (ဝါ) ဈေးနှိမ်ခံနေရတဲ့ လုပ်ငန်းတွေကို ဝယ်ယူပြီး ရင်းနှီးမြှုပ်နှံတာမျိုးဖြစ်တယ်။

ပရိုက်ဗိတ်အီကွိတီနဲ့ hedge fund လိုကုမ္ပဏီတွေဟာ အလွန်သိုသိပ်လျှို့ဝှက်ပြီး ငွေကြေးအမြတ်ရလိုမှုကြောင့် ရင်းနှီးမြှုပ်နှံသူအသစ်တွေဟာ ဈေးကွက်ကို ခြိမ်းခြောက်နေတယ်လို့ မြင်လာရတယ်။ ရင်းနှီးမြှုပ်နှံသူအသစ်တွေဟာ ဈေးကွက်ကို ခြိမ်းခြောက်နေတယ်လို့ မြင်လာရတယ်။ ဒါပေမဲ့ သူတို့ကတော့ ဈေးနှိမ်ခံနေရတဲ့၊ စွမ်းဆောင်ရည်ညံ့ဖျင်းတဲ့ ကုမ္ပဏီတွေကို ဝယ်ယူပြီး အလုံးစုံပြုပြင်စစ်ဆေးတာမျိုးလုပ်တာတွေဟာ ဈေးကွက်ရဲ့တန်ဖိုးမြှင့်တင်နိုင်တဲ့ လုပ်ဆောင်ချက်တွေပဲလို့ ငြင်းဆိုကြတယ်။ နောက်ဆုံးမှာတော့ ကုမ္ပဏီတွေကို ပြည်သူတွေက ဝယ်ယူနိုင်တဲ့ စတော့ဈေးကွက်တွေဟာ ပင်ကိုအားဖြင့်တော့ ဒီမိုကရက်တစ်အင်စတီကျူးရှင်းတွေပါပဲ။

အနှစ်ချုပ်အတွေးအခေါ်

**စတော့ဈေးကွက်တွေဟာ အရင်းရှင်စနစ်ရဲ့ နှလုံးသည်းပွတ်ပါပဲ**

# ၃၀ – စွန့်စားမှုများတဲ့ စီးပွားရေးလုပ်ငန်း

## Risky business

**"ဒီအဆောက်အအုံထဲမှာ နေဖို့နဲ့ သေဖို့ တစ်ခုခုတော့ ရွေးရမယ်"လို့ ၁၉၈၃ ခုနှစ်ထုတ် Trading Places ရုပ်ရှင်ထဲမှာ သရုပ်ဆောင် Dan Ackroyd က Eddie Murphy ကို ပြောခဲ့ပါတယ်။ အောင်မြင်ရလုနီးအခြေအနေမှာ နယူးယောက်မြို့က ကြိုရောင်းကြိုဝယ်နဲ့ သွင်းကုန်ပို့ကုန်ဈေးကွက်ထဲကို သူတို့နှစ်ဦးသား ခြေလှမ်းတျဲတျဲနဲ့ လျှောက်လာနေတာဖြစ်တယ်၊ သူတို့နှစ်ဦးဟာ ကြိုရောင်းကြိုဝယ်ဈေးကွက်မှာ သန်းနဲ့ချီအမြတ်အစွန်းရလိုက်ပြီး သူတို့ရဲ့ အငြိုးကြီးတဲ့အလုပ်ရှင်ဟောင်းကို ဒေဝါလီခံလိုက်ရအောင်လုပ်ဆောင်နိုင်ခဲ့တယ်။**

လန်ဒန်ရဲ့ရှေးအကျဆုံးကုန်သည်ဘဏ်၊ Barings ကတော့ သေဖို့ဖြစ်ခဲ့တယ်။ သူ့ရဲ့ကုန်သည် Nick Leeson ဟာ စင်ကာပူက ကြိုရောင်းကြိုဝယ်ဈေးကွက်မှာ တစ်ဦးတည်းပေါင်သန်းနဲ့ချီဆုံးရှုံးခဲ့ရပြီးနောက် ၁၉၉၅ ခုနှစ်မှာ ဒီဘဏ်လဲပြိုကျခဲ့ရတာဖြစ်တယ်၊

### စွန့်စားမှုအန္တရာယ်ကို ပြန်လည်ခွဲဝေဖြန့်ဖြူးခြင်း

ဆင့်ပွားဈေးကွက်တွေ (derivatives markets) လို့ လူသိများတဲ့ ကြိုရောင်းကြိုဝယ်ဈေးကွက်တွေနဲ့ လက်မလွှဲဘဲ ပြန်ဝယ်ပြန်ရောင်းဖို့ သဘောတူညီချက်နဲ့ အရောင်းအဝယ်ပြုကြတဲ့ ဈေးကွက်တွေဟာ အန္တရာယ်အရှိဆုံးနဲ့ အကျိုးအမြတ်အများဆုံး ဈေးကွက်တွေလို့ ဆိုနိုင်ပါတယ်၊ ကုန်စည်တွေနဲ့ ငွေရေးကြေးရေးဆိုင်ရာဆင့်ပွားမှုတွေအတွက် ဈေးကွက်မှာ အရောင်းအဝယ်ပြုကြတဲ့အရာတွေဟာ ထုံးစံအတိုင်းစွန့်စားကြရပါတယ်၊



ကုမ္ပဏီတွေနဲ့ ကုန်သည်တွေဟာ စတော့တွေ၊ ရုယ်ယာတွေ၊ ဘွန်းစာချုပ်တွေ၊ ငွေကြေးတွေကနေ သံသတ္တုနဲ့ ကုန်ပစ္စည်းတွေအထိ အရာတိုင်းရဲ့ဈေးနှုန်းတွေ ဘာဖြစ်လာမလဲဆိုတဲ့အပေါ်အမြတ်ထုတ်ဈေးကစားဖို့လုပ်ကြတဲ့နေရာလို့ ဆိုရမယ်၊ ပြောရရင် မိုးလေဝသနဲ့ အိမ်ခြံမြေဈေးတွေကိုတောင် ဒီလိုလုပ်တတ်ကြပါတယ်။

ကုမ္ပဏီတွေနဲ့ လူပုဂ္ဂိုလ်တွေဟာ လောင်းကစားရုံသက်သက် ဈေးကစားအမြတ်ထုတ်တာမျိုးမဟုတ်ပါဘူး၊ အခြေခံကျတဲ့ စီးပွားရေးရည်ရွယ်ချက်ဖြစ်တဲ့ စွန့်စားမှုအန္တရာယ်ကို ပြန်လည်ခွဲဝေဖို့အတွက်လည်း အခုလိုလုပ်ဆောင်ကြတာဖြစ်တယ်၊ မျှော်မှန်းရခက်ခဲလွန်းတဲ့ လောကကြီးထဲမှာ ရှေ့ဆက်ရမယ့် အစီအစဉ်တွေ သူတို့အတွက် လိုအပ်ပါတယ်။ နှစ်တစ်နှစ်ရဲ့အစပိုင်းမှာ အထွက်ကောင်းမယ့် သီးနှံအမျိုးအစားကို မသိနိုင်သလို၊ လိမ္မော်သီးစိုက်တဲ့လယ်သမားတွေက ဘယ်လောက်ထုတ်လုပ်ကြမှာလဲ ဆိုတာကိုလည်း မသိနိုင်ပါဘူး။ သီးနှံအထွက်က စိတ်ပျက်စရာကောင်းရင် လိမ္မော်သီးဈေးတွေ ထိုးတက်သွားလိမ့်မယ်။ အထွက်နှုန်းက သိပ်ပြီးအားရစရာကောင်းနေရင်တော့ ဈောင်းလိုအားတွေတက်လာမှာဖြစ်လို့ ဈေးတွေကျကုန်မှာပါပဲ၊ နွေရာသီမှာ လိမ္မော်အရည်တွေကို ဘယ်နေ့မှာ၊ ဘယ်ဈေးနဲ့ ယူမယ်ဆိုတာ ကြိုတင်သတ်မှတ်စာချုပ်ချုပ်ပြီး ဝယ်ယူတာဟာ အလောင်းအစားတစ်ခုလုပ်လိုက်ရတာပါ၊ ရင်းနှီးမြှုပ်နှံမှုလုပ်ပြီး အခွင့်အလမ်းတစ်ခုပေးလိုက်ရတာပါပဲ၊ တကယ်လို့ အထွက်ကောင်းရင်တော့ ကြိုပေးထားရတဲ့ ငွေတွေကို ပမာဏတစ်ခုတိုးလာစေမှာပေါ့၊ လယ်သမားအတွက်လည်း ဒီလိုလုပ်ရတာဟာ စွန့်စားမှုကို လျော့ကျစေပါတယ်။ သူအဖို့ အနည်းဆုံးတော့ အဲဒီနှစ်အတွက် ငွေတချို့တစ်ဝက်တော့ အာမခံရထားပြီးပါပြီ၊

ကြိုရောင်းကြိုဝယ်ဈေးကွက်တွေနဲ့ လက်မလွှဲဘဲ ပြန်ဝယ်ပြန်ရောင်းဖို့သဘောတူညီချက်နဲ့ အရောင်းအဝယ်ပြုကြတဲ့ ဈေးကွက်တွေဟာ ကမ္ဘာကြီးမှာ အရေးကြီးဆုံးနဲ့ အလုပ်အများဆုံးဖြစ်လာခဲ့ပြီဖြစ်တယ်။ အကြောင်းက ဒေါ်လာဈေးတွေကျသွားရင် သူတို့ငွေတွေပဆုံးရှုံးရအောင် ပြောင်းပိုက်လယ်သမားက ဈေးနှုန်းတစ်ခုကို

**အချိန်ပြဇယား:**

| ၁၇၃၀ နှစ်များ | ၁၈၀၀ နှစ်များ | ၁၉၇၂ | ၁၉၈၂ | ၂၀၀၈ |
|---|---|---|---|---|
| ဂျပန်က Dōjima Rice Exchange မှာ ဆန်စပါးအပေါ် ကြိုရောင်းကြိုဝယ်စာချုပ် ချုပ်ဆိုကြတဲ့ ပထမဆုံး မှတ်တမ်းမှတ်ရာတွေရှိ | လူအက်စ်က လယ်ယာစိုက်ပျိုးရေးဆိုင်ရာ တချုပ်ချုပ်ဆိုမှုတွေမှာ ထူးထူးခြားခြားတိုးတက်မှုရလာ | ငွေကြေးဈေးကွက်တွေ မတည်မငြိမ်ဖြစ်လာတာကြောင့် ချီကာဂိုမှာ ငွေကြေးပလှယ်မှုနှုန်းတွေအပေါ် ကြိုရောင်းကြိုဝယ်ကုန်သွယ်ရေးတွေ စတင်လုပ်ဆောင်လာ | အီကွိုတီကြိုရောင်း၊ ကြိုဝယ်မှုကို စတင်မိတ်ဆက် | ကြွေးဆုံးမှုနဲ့ တခြားဆင့်ပွားဈေးကွက်ရဲ့ ဆုံးရှုံးမှု ရုပ်ပေါင်းဟာ ဒေါ်လာ ၀၀၄၄ ထရီလီယံ လောက်အထိနာခဲ့ပြီး ဒါဟာ ကမ္ဘာ့ဂျီဒီပီရဲ့ ၂၂ ဆလောက်ရှိတယ်

အသေသတ်မှတ်နေသလား။ Ford တို့၊ Microsoft တို့လို ပို့ကုန်တင်ပို့တဲ့ ကုမ္ပဏီကြီးတွေက ငွေစုတ္တူတွေရဲ့အဆင့်ကို သတ်မှတ်နေသလားဆိုတာကို ကုမ္ပဏီတွေက အမြဲတမ်း ဆင်ခြင်ဆုံးဖြတ်ကြပါတယ်။

## ဈေးနှုန်းအတက်အကျအပေါ် စွန့်စားအမြတ်ထုတ်ခြင်းနှင့် ရင်းနှီးမြှုပ်နှံခြင်း

ဈေးကွက်ကို လည်ပတ်လုပ်လုပ်ဖေဖို့ လူတွေမှာ စွန့်စားလိုတဲ့စိတ်ဆန္ဒရှိရပါမယ်။ ဒါဟာ ဈေးနှုန်းအတက်အကျအပေါ် စွန့်စားရင်းနှီးမြှုပ်နှံသူတွေဘက်ပေါင်းတုံက ဆင်ခြင်ရမယ့် နေရာပါပဲ၊ ကြိုရောင်းကြိုဝယ်ဈေးကွက်တွေမှာ ဝင်ရောက်လုပ်ကိုင်တဲ့သူတစ်ဝက်လောက်က ငွေလည်ကြောင်ပတ်လုပ်နေချိန်မှာ ကျန်တဲ့တစ်ဝက်လောက်က ဈေးနှုန်းအပြောင်းအလဲအပေါ်မှာ အလောင်းအစားလုပ်ရင်း ငွေရဖို့အတွက် ကြိုးပမ်းနေကြတယ်၊ ဈေးနှုန်းအတက်အကျမှာ စွန့်စားရင်းနှီးမြှုပ်နှံသူတွေဟာ စီးပွားရေးတစ်ရပ်မှာ အဓိကကျတဲ့ အစိတ်အပိုင်းတစ်ရပ်အဖြစ် ပါဝင်နေတယ်၊ သူတို့ဟာ အမြတ်အစွန်းလေးအနည်းအကျဉ်းလောက်ပဲရဖို့ အားကိုးမျှော်လင့်ကြတတ်ကြပြီး တစ်ခါတစ်ရံမှာ တစ်ဦးချင်းဖြစ်နိုင်သလို တစ်ခါတစ်ရံမှာ hedge fund တွေနဲ့ ပင်စင်ရန်ပုံငွေအဖွဲ့တွေလည်းဖြစ်နိုင်ပါတယ်။

ဘာလိုပဲဖြစ်ဖြစ် သူတို့တွေဟာ ရေရှည်အမြော်အမြင်နဲ့ ရင်းနှီးမြှုပ်နှံသူတွေနဲ့တော့ ကွာခြားမှုရှိတယ်။ ရင်းနှီးမြှုပ်နှံသူတွေအားလုံးအတွက် The Intelligent Investor စာအုပ်ကို ရေးသားခဲ့တဲ့ ဘင်ဂျမင် ဂရေဟမ်က –

> ရင်းနှီးမြှုပ်နှံသူတွေနဲ့ ဈေးနှုန်းအတက်အကျအပေါ်မှာ စွန့်စားသူတွေကြားက အစစ်မှန်ဆုံးကွာခြားချက်ကို သူတို့ရဲ့စတော့ဈေးကွက်အရွေ့အပြောင်းတွေအပေါ်မှာ ထားတဲ့ သဘောထားမှာတွေ့ရပါတယ်၊ ဈေးနှုန်းအတက်အကျအပေါ်မှာ စွန့်စားသူတွေရဲ့ အခြေခံစိတ်ဝင်စားမှုက ဈေးကွက်မတည်မငြိမ်ဖြစ်တဲ့အပေါ်ကနေ လက်ဦးမှုရယူပြီး အမြတ်ထုတ်ဖို့ဖြစ်တယ်၊ ရင်းနှီးမြှုပ်နှံသူတွေရဲ့အခြေခံစိတ်ဝင်စားမှုကတော့ သင့်တော်တဲ့ဈေးနှုန်းတွေမှာ ထိုက်သင့်တဲ့ လုံခြုံစိတ်ချရမှုတွေကို ရှာဖွေစုဆောင်းထားဖို့ဖြစ်တယ်လို့ ဆိုတယ်။

လမ်းကြောင်းနှစ်ခုလုံးကနေ ချမ်းသာကြွယ်ဝနိုင်ပါတယ်။ ဝါရင်းဘတ်ဖက်ဟာ ကမ္ဘာ့အကျော်ကြားဆုံး ရင်းနှီးမြှုပ်နှံသူတစ်ယောက်ဖြစ်ပြီး သူက သူ့ရဲ့ရင်းနှီးမြှုပ်နှံမှု



### Commodities ၊ options နဲ့ futures ဆိုတာဘာတွေလဲ

Commodities (ကော်မော်ဒီတီ) မှာ တန်ဖိုးရှိတဲ့ ရွှေနဲ့ရေနံလိုပစ္စည်းမျိုးတွေကနေ ကိုကိုးနဲ့ ကော်ဖီစေ့တွေအထိ အလုံးအခဲလိုက်ရောင်းနိုင်၊ ဝယ်နိုင်တဲ့ ဘယ်လိုအခြေခံပစ္စည်း မဆို ပါဝင်ပါတယ်။ ချက်ချင်းလိုချင်ရင် လက်ငင်းဈေးကွက်မှာ ပေါက်ဈေးနဲ့ ဝယ်ယူနိုင်တဲ့ ပစ္စည်းမျိုးတွေဖြစ်ပါတယ်၊

futures (ဖြူချာစ်ဇယ်) ကတော့ အနာဂတ်တစ်ချိန်ချိန်မှာ (ဖြန့်ဝေရမယ့်ရက်စွဲနဲ့) တိကျတဲ့ ဈေးနှုန်းသတ်မှတ်မှုတစ်ခုမှာ ကုန်ပစ္စည်း၊ ဒါမှမဟုတ် ရင်းနှီးမြှုပ်နှံမှုကို ဝယ်ယူဖို့ ချုပ်ဆိုထားတဲ့စာချုပ်တွေဖြစ်တယ်။

options ကတော့ သတ်မှတ်ထားတဲ့ နေ့မှာ ဈေးနှုန်းတစ်ခုနဲ့ ရင်းနှီးမြှုပ်နှံမှုတစ်ခုကို ဝယ်ယူဖို့၊ ရောင်းချဖို့ အခွင့်အရေးရှိတဲ့ သဘောတူညီမှုဖြစ်တယ်။ လက်ရှိတဲ့ဖြန့်ဝေမြန်ရောင်းဖို့ ဈေးနှုန်းနဲ့ ရက်စွဲတွေပါဝင်တဲ့ သဘောတူညီချက် ပါ။

ကုမ္ပဏီ Berkshire Hathaway ကတစ်ဆင့် ကုမ္ပဏီတွေရဲ့ ရေရှည်အနေအထားကို လေ့လာပြီး နှစ်နဲ့ချီ ဆုပ်ကိုင်ထားလေ့ရှိတယ်၊ ငွေကြေးအကျပ်အတည်းကြောင့် သူ့ရဲ့ဥစ္စာနေတွေ သိသိသာသာလျော့ပါးသွားပေမယ့် ၂၀၀၈ ခုနှစ်မှာ Forbes မဂ္ဂဇင်းက သူ့ကို ဒေါ်လာ ၆၂ ဘီလီယံကြွယ်ဝတဲ့ ကမ္ဘာ့အချမ်းသာဆုံးသူဌေးအဖြစ် တန်ဖိုးဖြတ်ဖော်ပြခဲ့တယ်။ အကျော်ကြားဆုံး hedge-fund ဘီလီယံနာကတော့ ဂျော့ချ်ဆိုးရောစ့်ဖြစ်ပြီး သူက ရှယ်ယာဈေးတွေ၊ ကုန်ပစ္စည်းတွေကနေ ငွေစုတ္တူတွေအထိ အရာတိုင်းအပေါ် ဈေးကစားအမြတ်ထုတ်ခြင်းကနေ ဒေါ်လာ ၉ ဘီလီယံလောက်ရခဲ့သူပါ။

## ကြိုတင်ဝယ်ဈေးကွက်သမိုင်းအကျဉ်း

ကြိုတင်ဝယ်ဈေးကွက်ပုံစံက ရာစုနှစ်နဲ့ချီပြီး ရှိခဲ့တာဖြစ်တယ်။ ပစ္စည်းမှာရှိန်နဲ့ရတဲ့အချိန် ကူးသန်းမှုကနေ ဆင်းသက်ပေါ် ပေါက်လာတာဖြစ်တယ်၊ ၁၃ နဲ့ ၁၄ ရာစုတွေမှာ လယ်သမားတွေဟာ သိုးမွှေးလုံးတွေကို တစ်နှစ်၊ နှစ်နှစ်လောက်ကြိုတင်မှာတဲ့ အမှာတွေအပေါ် ရောင်းချပေးခဲ့ကြတယ်။ ၁၈ ရာစု ဂျပန်မှာ ကုန်သည်တွေဟာ ကြိုရောင်းကြိုဝယ်ပုံစံနဲ့ ဆန်စပါးကို ဝယ်ယူ၊ ရောင်းချခဲ့ကြတယ်။

ဆာမူရိုင်းတွေကို အမြတ်မ်း ဝယ်ပေးပေး ခဲ့ပေမယ့် ဝယ်းအတွက်က ဆက်တိုက်ဆိုသလို ညှိချင်းလာတာကြောင့် လာမယ့်နှစ်မှာရမယ့် ဝင်ငွေပမာဏတစ်ရပ်ကို သူတို့အနေနဲ့ အာမခံရချင်လာကြတာဖြစ်တယ်။ ဒါကြောင့် ပထမဆုံးစာချုပ်တွေကို ဆာမူရိုင်းတွေဆီကို ရောင်းချခဲ့တာဖြစ်တယ်၊

> တခြားသူတွေ လောဘကြီးနေတဲ့အခါ စိုးရိမ်ကြောက်ရွံ့ပါ။
> တခြားသူတွေ စိုးရိမ်ကြောက်ရွံ့နေတဲ့အခါမှာ လောဘကြီးပါ။
>
> ဝါရင်းဘတ်ဖတ်

ဒါပေမဲ့ ၁၉ ရာစုမှာတော့ ဒီဈေးကွက်က တကယ့်ကိုပဲ အလုပ်ဖြစ်လာခဲ့တယ်။ သူ့ရဲ့မွေးဖွားရာ အရပ်က အရင်ကရော၊ အခုပါ ရှီကာဂိုမှာ ရှိနေတာဖြစ်ပြီး အဲ့ဒီကြိုရောင်းကြိုဝယ်ဈေးကွက်ကို Mercantile Exchange လို့ ခေါ်ကြတယ်၊ ဥပမာ ၁၈၈၀ မှာ Heinz အစားအသောက် ကုမ္ပဏီဟာ ကြိုတင်စီစဉ်ထားတဲ့ ဈေးနှုန်းတွေနဲ့ လာမယ့်နှစ်တွေအတွက် သခွားသီးတွေကို ဝယ်ယူဖို့ လယ်သမားတွေနဲ့ စာချုပ်ချုပ်ဆိုခဲ့ကြတယ်။ ကြိုရောင်းကြိုဝယ်စာချုပ်တွေရဲ့ သဘာဝက ရောင်းသူနဲ့ ဝယ်သူကြား တိုက်ရိုက်စာချုပ်ချုပ်ဆိုစရာမလိုဘဲ ကြားခံလူတစ်ယောက်အဖြစ် လုပ်ပေးတဲ့ ကြိုရောင်းကြိုဝယ်အိတ်ချိန်းတွေကနေတစ်ဆင့် ဝယ်ယူကြတာဖြစ်တယ်။ အရာရာတိုင်းကို တခြားတုန်စည်နဲ့ ဖလှယ်ဖို့ မျှော်မှန်းထားတဲ့ ဈေးနှုန်းတွေရှိတာကြောင့် ကြိုတင်ဝယ်ဈေးတွေက သူ့ကုန်ပစ္စည်းနဲ့သူ တွဲလျက်ရှိနေတာဖြစ်တယ်။

## အကြွင်းသုညဂိမ်း

ဒီလိုအမြတ်မ်းဈေးနှုန်းအတက်အကျဖြစ်နေတာက ဆင့်ပွားဈေးကွက်တွေကို ရင်းနှီးမြှုပ်နှံဖို့ရာ အန္တရာယ်များတဲ့နေရာတစ်ခုဖြစ်လာစေတယ်၊ အကြီးမားဆုံးကုန်ပစ္စည်းတွေထဲကတစ်ခုဖြစ်ပြီး ကြိုရောင်းကြိုဝယ်ဈေးကွက်နမူနာတစ်ခုဖြစ်တဲ့ ရေနံစိမ်းဈေးကွက်ကိုကြည့်ရင်ပဲ ဒီအကြောင်း တရားကို နားလည်သွားပါလိမ့်မယ်။ ရေနံစိမ်းဈေးနှုန်းတွေရဲ့အတက်အကျက စီးပွားရေးအခြေခံ အကြောင်းတရားတွေကနေ ပထဝီနိုင်ငံရေးအခြေခံအကြောင်းတရားတွေအထိ ကျယ်ကျယ်ပြန့်ပြန့် မှီခိုမှုရှိနေတယ်။ စီးပွားရေးအခြေခံအကြောင်းတရားတွေထဲမှာ နိုင်ငံတွေရဲ့ စီးပွားရေးအခြေ အနေတွေ ကျယ်ပြန့်တိုးတက်လာလို့ လောင်စာလိုအပ်ချက်မြင့်တက်လာတာမျိုးတွေပါဝင်သလို၊ ပထဝီနိုင်ငံရေးအခြေအနေတွေထဲမှာတော့ ရေနံတွင်းတူးစင်တွေကို အကြမ်းဖက်သမားတွေရဲ့ တိုက်ခိုက်ခံရနိုင်တဲ့အလားအလာနဲ့ အရှေ့အလယ်ပိုင်းနဲ့ ကျန်ကမ္ဘာ့နိုင်ငံတွေရဲ့ ဆက်ဆံရေး



အခြေအနေပေါ်မူတည်နေတာတွေရှိမှာဖြစ်တယ်၊

၁၉၉၉ ခုနှစ်မှာ The Economist မဂ္ဂဇင်းက ရေနံစိမ်းတစ်စည်ကို ၁၀ ဒေါ်လာအထိ ထိုးကျနေတာကို ၅ ဒေါ်လာအထိ နိမ့်ကျသွားလိမ့်မယ်လို့ ဟောကိန်းထုတ်ခဲ့တယ်။ နှစ်နှစ်အကုန်မှာတော့ ထက်ဝယ့်ရေနံစိမ်းဈေးက တစ်စည်ကို ၂၅ ဒေါ်လာအထိ တက်သွားခဲ့တယ်။ ၂၀၀၀ နဲ့ ၂၀၀၅ ခုနှစ်ကြားကာလမှာ ရေနံစိမ်းတစ်စည်ကို ၂၀ နဲ့ ၄၀ ဒေါ်လာကြားမှာ ရှိနေတုန်းပဲ။ ဒီနောက်မှာတော့ အီရတ်နိုင်ငံကို ကျူးကျော်တာ၊ ကမ္ဘာ့စီးပွားရေးတိုးတက်မှုကလည်း အရှိန်ကောင်းနေတာ၊ မြေကြီးထဲမှာ ရေနံတွေကျန်ပါဦးမလားဆိုတဲ့အပေါ် စိုးရိမ်ပူပန်တာစတဲ့အကြောင်းတရား ပေါင်းစုံကြောင့် ရေနံစိမ်းဈေးဟာ အဝပိုင်းမှာ တစ်စည်ကို ဒေါ်လာ ၆၀ လောက်ဖြစ်လာတယ်။ နောက်တော့ ၈၀ ကနေ၊ ၂၀၀၈ ခုနှစ်လည်းရောက်ရော ဒေါ်လာ ၁၄၀ အထိမြင့်တက်သွားခဲ့တယ်၊ အဲဒီလောက်ဈေးလည်းရောက်ရော စပြီး ဈေးပြန်ကျစပြုလာတယ်၊ ဒီလိုအနည်းနဲ့အများဆိုသလို ဈေးကျလာရတဲ့အကြောင်းကလည်း ကမ္ဘာ့စီးပွားရေးကျဆင်းမှုကိုကြုံလာရတာကြောင့်ပဲ။

ဈေးနှုန်းအတက်အကျအပေါ် အလောင်းအစားလုပ်ခြင်းက တချို့ရင်းနှီးမြှုပ်နှံသူတွေကို ဒေါ်လာသန်းရှိအမြတ်အစွန်းရစေခဲ့ပေမယ့် တချို့သူတွေကိုတော့ အများကြီး ဆုံးရှုံးမှုဖြစ်စေခဲ့တယ်၊ စတော့ဈေးကွက်နဲ့ မတူတာက စတော့ရှယ်ယာတွေဟာ ကုမ္ပဏီတွေကြီးထွားဖွံ့ဖြိုးလာတဲ့အခါ ဈေးတက်လာနိုင်ပြီး ကြိုရောင်းကြိုဝယ် စာချုပ်တွေကတော့ တစ်ဖက်က နိုင်သူတိုင်းရတဲ့ပမာဏက တစ်ဖက်တရှုံးသူတွေ ဆုံးရှုံးရတဲ့ပမာဏနဲ့ ထပ်တူဖြစ်နေတာကြောင့် အကြွင်းသုညပဲလို့ ဆိုကြတယ်။ ဒါဟာ ဆင့်ပွားဈေးကွက်တွေကို ကာစီနိုတွေနဲ့ မကြာခဏနှိုင်းယှဉ်ပြောပြကြတဲ့ အကြောင်းတရားပဲ၊ ပမာဏတစ်ခု လောင်းကစားလုပ်တဲ့အခါ အလဟဿဖြစ်သွားတဲ့ အလုပ်တော့မဟုတ်ပါဘူး။ ခေတ်သစ်စီးပွားရေးစက်ယန္တရားမှာ ဒီဈေးကွက်တွေဟာလည်း မရှိမဖြစ်အရေးပါတဲ့ခွေးသွားစိပ်တွေပါပဲ။

> အနှစ်ချုပ်အတွေးအခေါ်
>
> ရယူဖို့ ပိုပြီးသင့်ရှိနေတဲ့အရာတွေကို စွန့်စားဖြတ်ကျော်ပါ

# ၃၁ – စီးပွားရေးအတက်အကျ

## Boom and bust

**ဂေါ်ဒွန်ဘရောင်း ဘဏ္ဍာရေးဝန်ကြီးဖြစ်ပြီးနောက်ပိုင်း ပြောခဲ့တဲ့မိန့်ခွန်းတွေထဲမှာ သူ့အနေနဲ့ ဗြိတိန်နိုင်ငံကို စီးပွားရေးအတက်အကျသံသရာဟောင်းကြီးထဲက လွတ်မြောက်စေဖို့ ရည်ရွယ်ချက်ထားကြောင်းပြောခဲ့တယ်။ ဒါဟာ လူတိုင်းအတွက် နားဝင်ချိုစရာကောင်းတဲ့သတင်းစကားပါပဲ။ ဗြိတိန်နိုင်ငံဟာ စီးပွားရေးအတက်ကြမ်းလွန်းခြင်းကနေ သယ်ဆောင်လာတဲ့ နေစဉ်ဖြို့ခွဲယိုယွင်း စီးပွားရေးထိုးကျဆင်းမှုကို ဆက်တိုက်ကြုံကြုံခံရင်ဆိုင်ခဲ့ရတယ်။ စီးပွားရေးအကျကို ရင်ဆိုင်ရတာ စိတ်ရှည်သည်းခံနိုင်မှုမရှိတော့ဘူးဆိုတာက နိုင်ငံသားတွေဟာ စီးပွားရေးအတက်ကြမ်းလွန်းတာကို ခွန့်လွှတ်ဖို့လည်း အဆင်သင့်ဖြစ်နေပြီဆိုတာပြနေတာပါပဲ။**

နောက်ပိုင်းဆယ်စုနှစ်တစ်ခုကျော်ကြာပြီး ဝန်ကြီးချုပ်ဖြစ်လာတဲ့အခါမှာတော့ ဘရောင်းဟာ ဒီမဏ္ဍန်ကို ထပ်မရွတ်တော့ဘူး။ စီးပွားရေးက အကျဘက်ကို ဦးတည်နေပြီး အိမ်ခြံမြေဈေးကွက်ကျဆင်းမှုကလည်း မကြုံဖူးလောက်အောင် အဆိုးရွားဆုံးဖြစ်နေပြီး အားလုံးထဲမှာ ရှက်စရာအကောင်းဆုံးက ဒီစီးပွားရေးအကျဘက်အလှည့်အပြောင်းဟာ သူ့ရဲ့နိုင်ငံရေးပြိုင်ဘက်၊ ကွန်ဆာဗေးတစ်တွေ အာဏာရစဉ်တုန်းကဖြစ်ခဲ့တာထက် ပိုပြီးဆိုးရွားနေတာပဲ။ ဘရောင်းအရှက်ရမှုကို ခဏအသာ ထားလိုက်ပါဦး။ စီးပွားရေးသံသရာရဲ့ အကျဘက်ရောက်ချိန်က သိပ်ပြီးတောလွန်းနေတယ်ဆိုတာကတော့ ရှင်းနေတာပါပဲ။

နိုင်ငံတွေရဲ့စီးပွားရေးသဘာဝကိုက အတက်အကျသံသရာလည်တတ်တဲ့သဘော ရှိပါတယ်။ ယုံကြည်မှုရှိခြင်းနဲ့ တွေးကြောက်တတ်ခြင်းကြားမှာ ဈေးကွက်တွေက ယိမ်းထိုးနေသလို၊ စားသုံးသူတွေကလည်း လောဘနဲ့ အကြောက်တရားကြားမှာ လွန်းထိုးနေတာပါပဲ။ ဒီအပြောင်းအလဲတွေကို ထိန်းချုပ်တဲ့အရာတွေကို အလုံးစုံနားလည်ဖို့ဆိုတာ မလွယ်ပါဘူး။ ဒီအကြောင်းတရားတွေကိုက လူသားသဘာဝအရ စိတ်ကူး ပေါက်ရာဖြစ်နေတတ်လို့ပါပဲ။ ဘရောင်းရဲ့အတွေ့အကြုံတွေက ပြခဲ့သလိုပါပဲ၊ ဒီသံသရာလည်မှုကို ထိန်းချုပ်ဖို့ကြိုးစားခဲ့မှုတွေက မျှော်လင့်ထားသလို ဖြစ်ချင်မှဖြစ်လာခဲ့တာကိုး။

> ❝ စီးပွားရေးသံသရာဖျက်ဆီးနိုင်ပြီဆိုတာဟာ အဓိကတော့ အချိန်ရဲ့ စောဦးသွားတော့ပြောဆိုခဲ့ပါပဲ။ ❞
>
> ပေါလ် ဆင်မြူရယ်လ်ဆင်၊ အမေရိကန်စီးပွားရေးပညာရှင်

သီအိုရီအရတော့ တိုင်းပြည်တစ်ပြည်မှာ အကန့်အသတ်မဲ့ရှိနေတဲ့ စီးပွားရေးလုပ်ဆောင်ချက်တွေရဲ့ အသင့်တော်ဆုံး အဆင့်အတန်းတစ်ခုရှိသင့်တယ်လို့ဆိုတယ်။ စီးပွားရေးတစ်ရပ်မှာရှိတဲ့ ကုန်ထုတ်အင်အားစုတွေအားလုံးကို အကောင်းဆုံးစွမ်းဆောင်ရည်ရအောင် အသုံးချရပါလိမ့်မယ်။ ဆိုလိုတာကတော့ အလုပ်အကိုင်အပြည့်အဝ ရရှိရေးလိုမျိုးပါ။ အဲဒီလိုပဲ၊ ငွေကြေးဖောင်းပွမှုတွေ တက်မလာဘဲ၊ စီးပွားရေးဟာ တစ်သမတ်တည်းသောနှုန်းနဲ့ တိုးတက်နေရပါမယ်။ ဒါပေမဲ့ လက်တွေ့မှာတော့ ဒီလိုအကောင်းဆုံးအနေအထားကို ဘယ်တော့မှ ရောက်မလာခဲ့ဖူးပါဘူး။ သမိုင်းတစ်လျှောက် စီးပွားရေးအတက်အကျသံသရာမျိုးစုံကြုံတွေ့ခဲ့ရတယ်။ ဥပမာ – ခရစ်ယာန်သမ္မာကျမ်းစာက ဒုဗ္ဘိက္ခ နှစ်ရှည်ဆိုးကြီးတွေကို ဆက်တိုက်ကြုံရမယ်ဆိုတာ ရည်ညွှန်းဖော်ပြထားပါတယ်။ ၂၁ ရာစု ခေတ်မီဆန်းပြားတဲ့ အဆင့်မြင့်နည်းပညာ စီးပွားရေးခေတ်ကြီးမှာလည်း ဒီအတိုင်းဖြစ်နေတုန်းပါပဲ။

အမေရိကန်ပြည်ထောင်စုအပါအဝင် အဓိက စီးပွားရေးနိုင်ငံကြီးတွေဟာ စီးပွားရေးလုပ်ဆောင်ချက်တွေမှာ အဓိကတက်ကျပြောင်းလဲနေတဲ့ဒဏ်ကို အခံစားရဆုံးပါပဲ။ ၁၉၄၆ ခုနှစ်မှာ Arthur Burns နဲ့ Wesley Mitchell တို့က ဒါကို ပထမဆုံး အသေးစိတ်အထားနဲ့ ပြခဲ့ကြတယ်။

**အချိန်ဇယား:**

- **၁၉၂၉** – ဝေါလ်စထရိဈေးကွက် ပြိုကျ
- **၁၉၄၆** – Measuring Business Cycles စာအုပ်ကို Burns နဲ့ Mitchell က ရေးသားထုတ်ဝေ
- **၂၀၀၇** – စီးပွားရေးသုတေသနဆိုင်ရာအမျိုးသားဗျူရိုရဲ့ ခန့်မှန်းချက်အရ အမေရိကန်စီးပွားရေးကျဆင်းမှုဟာ ၂၀၀၀ နှစ်တွေမှာ စတင်ခဲ့
- **၂၀၀၈** – လေမန်းဘရားသား ငွေကြေးဝန်ဆောင်မှုလုပ်ငန်းပြိုကျ

## စီးပွားရေးအတက်အကျသံသရာ Business cycles

စီးပွားရေးအတက်အကျသံသရာစက်ဝန်းတွေက သူ့ခေတ်နဲ့သူ မတူကြဘူး။ ဒီဖြစ်ရပ်တွေကနေ စီးပွားရေးပညာရှင်တွေက စီးပွားရေးအတက်အကျသံသရာတွေကို အခုလို အမျိုးအစားခွဲခြားခဲ့တယ်။

**Kitchin cycle** (၃ နှစ် မှ ၅ နှစ်)။ စီးပွားရေးလုပ်ငန်းတွေအနေနဲ့ သူတို့ကုန်ပစ္စည်းတွေကို သိုလှောင်မှုနှုန်းအရ တိုင်းပြည်ရဲ့စီးပွားရေးကို အတက်အကျဖြစ်စေတဲ့ သံသရာလည်မှုကို ရည်ညွှန်းတယ်။

**Juglar cycle** (၇ နှစ်မှ ၁၁ နှစ်)။ စီးပွားရေးလုပ်ငန်းတွေက သူတို့ရဲ့လုပ်ငန်းအပေါ် ရင်းနှီးမြှုပ်နှံဖို့ သုံးစွဲတဲ့ပမာဏ အနည်းအများနဲ့ဆိုင်တယ်။ ဒီအတက်အကျသံသရာက အများအားဖြင့် Kitchin cycle ထက် နှစ်ဆလောက်ပိုကြာတတ်တယ်။ Juglar cycle ဟာ စီးပွားရေးအတက်အကျသံသရာတွေအကြောင်း စီးပွားရေးပညာရှင်တွေ ပြောဆိုတဲ့အခါ အများဆုံး ရည်ညွှန်းကြတဲ့အရာပဲ။

**Kuznets cycle** (၁၅ နှစ် မှ ၂၅ နှစ်)။ ဒါက ကုမ္ပဏီလုပ်ငန်းတွေတိုးတက်စန်းပွင့်ရှိန်၊ ဒါမှမဟုတ် လမ်းမကြီးတွေ၊ မီးရထားလမ်းတွေလို အခြေခံအဆောက်အအုံတွေအပေါ် အစိုးရရဲ့ ရင်းနှီးမြှုပ်နှံသုံးစွဲမှု ကာလအတိုင်းအတာနဲ့ဆိုင်တယ်။

**Kondratiev wave or cycle** (၄၅ နှစ် မှ ၆၀ နှစ်)။ ဒါက အရင်းရှင်ဝနစ်ရဲ့ ပြောင်းလဲပုံ အဆင့်ဆင့်ကို ပိုပြီးညွှန်းဆိုရာကျတယ်။ ၄၅ နှစ်ကနေ နှစ် ၆၀ လောက်ကြာလာတိုင်းမှာ အရင်းရှင်စနစ်မှာ အကျပ်အတည်းကြုံလာရတာကို ဆိုလိုတယ်။ လူတွေက စီးပွားရေးကို တည်ဆောက်ထားပုံနဲ့ လည်ပတ်အလုပ်လုပ်ပုံတွေအပေါ် မေးခွန်းထုတ်လာကြတာဖြစ်တယ်။

### တိုးတက်မှု လမ်းကြောင်း

စီးပွားရေးတိုင်းက တိုးတက်မှုနှုန်းတစ်ခုဆီဦးတည်နေကြတာပါပဲ။ မကြာသေးမီက ကုန်လွန်ခဲ့တဲ့ ဆယ်စုနှစ်တွေမှာ စီးပွားရေးတိုးတက်ခဲ့တဲ့ နှုန်းလိုမျိုးနဲ့ပေါ့။ မကြာသေးမီနှစ်တွေက



ယူအက်စ်နိုင်ငံက ဦးတည်ချက်ထားခဲ့တဲ့ တိုးတက်မှုနှုန်းက ၃ ရာခိုင်နှုန်းလောက်ရှိပြီး ယူရိုဇုန်နဲ့ဥရောပနိုင်ငံအများစုက ၂.၅ ရာခိုင်နှုန်းအောက်နည်းနည်းလေးလျော့တယ်။ ဆိုလိုတာက အဲ့ဒီနိုင်ငံတွေဟာ စီးပွားရေးကို ခြေမြဲမှန်မှန်နှုန်းမျိုးနဲ့ တိုးခဲ့တာဖြစ်တယ်။ စီးပွားရေးသံသရာဆိုတာ စီးပွားရေးလှုပ်ရှားမှုတွေရဲ့ အတက်အကျသဘောပါပဲ။ တိုးတက်မှုနှုန်းတွေတက်သွားတာလား။ ကျသွားတာလားဆိုတာပါပဲ။ ဒီအတက်အကျနှစ်ခုရဲ့ ခြားနားချက်တို့ကို ကုန်ထွက်ကွာဟချက်လို့ နားလည်ကြတယ်။ စီးပွားရေးသံသရာဆိုတာ စီးပွားရေးတစ်ရပ် ဝန်းပွင့်နေချိန်ကနေ ထိုးဆိုက်ကျဆင်းသွားချိန်၊ နောက်အဲ့ဒီကနေ တစ်ခါပြန်ပြီး နာလန်ထူလာတဲ့အထိ ကြာချိန်ကိုမူပြီး ခေါ်ဝေါ်ထားတာပါ။

ထိပ်ဆုံးရောက်နေချိန်မှာ စီးပွားရေးဟာ တကယ့်ကို လျင်လျင်မြန်မြန်နဲ့ တိုးတက်လာနိုင်ပါတယ်။ ဒါပေမဲ့ ဒီလိုတိုးတက်လာမှုက မကြာခဏဆိုသလို အချိန်တိုလေးပဲရှင်သန်နိုင်ပြီး အကျဘက်ကို ပြန်ရောက်သွားတော့တာပါပဲ။ စီးပွားရေးကျဆင်းကျဉ်းကျုံ့သွားတာဟာ ၃ လပတ်နှစ်ကြိမ် (၆လ) လောက် ဆက်တိုက်ကြာသွားပြီဆိုရင်တော့ ဒါဟာ ပညာရပ်အရ စီးပွားရေးကျဆင်းမှု (recession) ဖြစ်ပြီလို့ ဆိုတယ်။ စီးပွားရေးကျဆင်းမှုနဲ့အတူ ကုမ္ပဏီတွေလည်း အမြတ်အစွန်းတွေ ကျဆင်းသွားပြီး အလုပ်လက်မဲ့နှုန်းလည်း ပိုပြီးမြင့်တက်လာတော့တာပါပဲ။

### ဘာ့ကြောင့်သံသရာလည်ရသလဲ

စီးပွားရေးသံသရာလည်ရတဲ့အကြောင်းတွေကို ရှင်းပြတဲ့အကြောင်းပြချက်တွေကတော့ မနည်းမနေပါပဲ။ တကယ်တော့ လူသားတွေဟာ စိတ်လှုပ်ရှားခံစားတတ်တဲ့ သတ္တဝါတွေဖြစ်ပြီး အကောင်းမြင်နေရာကနေ ချက်ချင်းဆိုသလို အဆိုးမြင်၊ အဆိုးမြင်ရာကနေ ချက်ချင်းဆိုသလို အကောင်းမြင်နိုင်တယ်ဆိုတဲ့ အခြေခံအချက်လောက် ယုံကြည်ရလောက်တဲ့ အချက်တစ်ချက်မှမရှိပါဘူး။ အကြောင်းပြချက်တစ်ခုက ငွေကြေးပေါ်လစီနဲ့ဆိုင်ပါတယ်။ ပုဂ္ဂလိကဘဏ်တွေကြောင့်ပဲ ဖြစ်ဖြစ်၊ ဗဟိုဘဏ်ကြောင့်ပဲဖြစ်ဖြစ် အတိုးနှုန်းအပြောင်းအလဲတွေက စီးပွားရေးတိုးတက်မှုကို အရှိန်မြှင့်ပေးနိုင်သလို၊ အရှိန်လည်းလျော့ချပေးနိုင်ပါတယ်။ ငွေကြေးဖေါင်းပွမှုနဲ့ အလုပ်လက်မဲ့နှုန်းကိုလည်း အလားတူကွင်းဆက်သက်ရောက်မှုတွေ ဖြစ်စေနိုင်တယ်။ တခြားပညာရပ်ဆိုင်ရာ ဖြေရှင်းချက်တစ်ခုက ကုမ္ပဏီတွေအနေနဲ့ ကုန်စည်တွေကို သိုလှောင်ထားပုံနဲ့ ဆိုင်တယ်လို့ ဆိုတယ်။ သူတို့ဟာ စီးပွားရေးတိုးတက်မှု ခိုင်မာအားကောင်းနေတဲ့အချိန်မှာ ဒီစန်းပွင့်မှုက ဆက်လက်တည်ရှိနေမှာပဲလို့ မျှော်လင့်ပြီး

ကုန်စည်တွေကို အလွန်အမင်းဖိုသိုလှောင်တတ်ကြသလို၊ စီးပွားရေးကျဆင်းနေချိန်မှာလည်း ကုန်စည်တွေကို လျှော့ပြီး သိုလှောင်ထားတတ်ကြတယ်။ ဒီလုပ်ရပ်နှစ်ခုစလုံးက စီးပွားရေး ထက်တျယိမ်းထိုးမှုကို ဖြစ်သင့်တာထက်ပိုပြီး ပြင်းထန်စေတယ်။

လူသားရဲ့အတွေးအကြံကလည်း အရေးကြီးတဲ့အကြောင်းတရားတစ်ခုပါပဲ။ တချို့က အရင်အကျပ်အတည်းမှာ ရှင်သန်ကျန်ရစ်ခဲ့တဲ့ နောက်ဆုံးပိတ် ဘဏ်လုပ်ငန်းရှင် အနားယူသွားတဲ့နှစ်ဟာ ဘဏ္ဍာရေးအကျပ်အတည်းကို မျိုးစေ့ချလိုက်တဲ့ နှစ်ပဲလို့ ဆိုကြတယ်၊ တစ်နည်းပြောရရင်တော့ စီးပွားရေးကျဆင်းမှုရဲ့ ပြင်းထန် ဆိုးဝါးတဲ့ အကျိုးဆက်တွေကို လူတွေပိုပြီး မေ့လာလေလေ၊ နောက်ထပ်အလားတူအမှားမျိုး ထပ်လုပ်ဖို့ ပိုပြီးဖြစ်နိုင်ခြေ များလာလေလေလို့ ဆိုရမယ်။ ဒီလိုနဲ့ နောက်ထပ် ပူဖေါင်း (bubble) တစ်လုံးထပ်ဖြစ်လာစေတာပဲ၊

ဒါ့အပြင် မမျှော်လင့်ထားတဲ့ဖြစ်ရပ်တွေကလည်း စီးပွားရေးသံသရာစက်ဝန်းတွေကို တစ်ပတ်ပြီး တစ်ပတ်လည်သွားစေတယ်။ ရှင်းရှင်းပြောရရင် လူတွေက ၂၀၀၇ ခုနှစ်မှာ ကြွေးမြီအကျပ် အတည်းတောင်မယ်လို့ မမျှော်လင့်ထားသလို၊ နောက်နှစ်မှာ ရေနံဈေးတွေ ထိုးကျသွားမယ်လို့လည်း မမျှော်လင့်ထားကြပါဘူး။ ဒီဖြစ်ရပ်နှစ်ခုက အကျဘက်အလှည့်ကို ကမ္ဘာ့စီးပွားရေးကျဆင်းမှုအထိ လှည့်ပြောင်းသွားစေခဲ့တယ်။ စီးပွားရေးတစ်ရပ်ဟာ ဒီလိုသွေးလန့်စရာအဖြစ်မျိုးတွေမရှိဘဲ၊ ပိုပြီး ကြံ့ကြံ့ခံ ရပ်တည်နိုင်အောင် တည်ငြိမ်မှုရှိဖို့ လိုပါလိမ့်မယ်။

တချို့ကတော့ နိုင်ငံရေးသမားတွေမှာလည်း တစ်စိတ်တစ်ပိုင်းအားဖြင့် တာဝန်ရှိတယ်လို့ ဆိုတယ်။ အပြတ်အဖွန်းတွေများများရ၊ အိမ်ခြံမြေဈေးတွေတက်ပြီး၊ အလုပ်အကိုင်ရရှိမှုတွေ မြင့်တက်လာမှုကြောင့် ကျေနပ်ပျော်ရွှင်ရမှုပေါ်အမြတ်ထုတ်ဖို့ရာ နိုင်ငံရေးသမားတွေက တစ်ခါတစ်ရံမှာ စီးပွားရေးအလွန်အမင်းဝန်းပွင့်လာမှုကို လွှတ်ထားပေးတယ်လို့ သံသယ ဖြစ်ကြတယ်။ သူတို့က ဝန်းပွင့်မှုပူဖေါင်းတွေမပေါက်ကွဲခင် သိမ်သိမ်မွေ့မွေ့နဲ့ လေလျှော့ ပေးမယ့် ပေါ်လစီမျိုးတွေထက် ပူဖေါင်းထဲလေတွေမှုတ်သွင်းပြီး အတက်အကျလည်စေမယ့် ပေါ်လစီမျိုးတွေနောက်လိုက်ကြတယ်လို့ ဆိုတယ်။

## လမ်းကြောင်းကို ကြိုတင်ခန့်မှန်းခြင်း

စီးပွားရေးအတက်အကျသံသရာက အရေးကြီးတယ်ဆိုတာ ရှင်းရှင်းလင်းလင်းပဲ သိနိုင်ပါတယ်၊ စီးပွားရေးအိလည်ရပ်တန့်နေတာဟာ အရေးကြီးတယ်လို့ ထင်လာတဲ့အခါ အစိုးရတွေဟာ



...တို့ကုစားဖို့အတွက် စီးပွားရေးပညာရှင်အဖွဲ့တွေကို အလုပ်ခန့်ကြတယ်။ ...ကိန်ပြည်ထောင်စုမှာ အရေးပါတဲ့ကျွမ်းကျင်သူတွေဟာ စီးပွားရေးသုတေသနဆိုင်ရာ ...ချုံသားချုပ်မှာ ပါဝင်ကြတယ်။ ဗြိတိန်မှာတော့ သူတို့ကို ငွေတိုက်မှာ တွေ့ရမှာဖြစ်တယ်။ ...နှစ်ခွဲစလုံးက အတိတ်ကာလမှာ ဖြစ်ရပ်တစ်ခုပြီးတိုင်း စီးပွားရေးအတက်အကျသံသရာစမယ့်နှစ်နဲ့ ...ဆုံးမယ့်နှစ်ခန့်မှန်းချက်တွေကို ပြန်လည်ပြင်ဆင်သတ်မှတ်ရင်း ရှန်းကန်ကြိုးစားခဲ့ကြတယ်၊

...ပြဿနာက အတက်အကျသံသရာလည်မှုတွေက အချိန်အတိုင်းအတာအားဖြင့် သိသိသာသာ ပြောင်းလဲမှုရှိကြတာပဲဖြစ်တယ် (အထက်ကဇယားကွက်ထဲကို ကြည့်ပါ)။ စတင်ချိန်ကို ထိထိကျကျ ခန့်မှန်းနိုင်ရင်တောင်မှ အဆုံးသတ်ချိန်ကိုခန့်မှန်းဖို့က ခက်နေနိုင်တယ်။

ဆယ်စုနှစ်တွေနဲ့ချီပြီး ကြာလာချိန်မှာ လူတွေမှာ တဖြည်းဖြည်းနဲ့ ကြွေးမြီတွေ ပိုပိုပြီး များလာတာကြောင့် "super-cycle" ရဲ့အဆုံးသတ်က ၂၀၀၀နှစ်တွေရဲ့ ဆောပိုင်းအကျပ်အတည်းတွေကို အဝပျိုးပေးလိုက်တယ်လို့ နာမည်ကြီးငွေကြေးကစားသူ ရော့ရှ်ဆိုးရောစ့်အပါအဝင် လူအများက ဆိုခဲ့တယ်။ တကယ်တော့ ဒီကြွေးမြီတွေအားလုံးကို ပြန်ပေးဖို့ လူတွေကို ဖိအားဖြစ်လာစေတာကြောင့် ဖြစ်လာမယ့် စီးပွားရေးအကျဟာ ဒီလောက်ကာလနီးပါးပဲကြာလိမ့်မယ်လို့ သူကထပ်ပြောခဲ့တယ်၊

စီးပွားရေးပညာရှင်တွေအဖို့ အကြီးမားဆုံးစိတ်ပျက်ရတာက စီးပွားရေးအတက်အကျ သံသရာတွေဟာ စီးပွားရေးလမ်းကြောင်းကို ခန့်မှန်းဖို့ သူတို့သုံးတဲ့ ရှုပ်ရှုပ်ထွေးထွေး မိုဒယ်တွေကို ကသောင်းကနင်းဖြစ်စေတာကြောင့်ပဲ။ အလုပ်အကိုင်၊ ဈေးနှုန်း တိုးတက်မှုစတဲ့ သူတို့တွေ့သမျှ အချက်အလက်တွေကို ထည့်သွင်းထားတဲ့ ဒီကွန်ပြူတာမိုဒယ်တွေဟာ စီးပွားရေးဟာ အနည်းနဲ့အများဆိုသလို ဖျင်းဖြောင့်အတိုင်းပဲ ဆက်လက်ရှိနေမယ့်ပုံစံအပြတမ်းယူဆနေတယ်၊ ဒါပေမဲ့ အတွေ့အကြုံကတော့ ဒီကိစ္စဟာ ဒီလောက်တော့ မရိုးရှင်းဘူးဆိုတာ ပြနေတာပါပဲ။

# ၃၂ - ပင်စင်များနှင့် ပြည်တော်သာနိုင်ငံ

## Pensions and the welfare state

**၁၈၆၁ ခုနှစ်မှာ ပြည်တွင်းစစ်က အမေရိကန်နိုင်ငံကို တစ်စစီဖြိုကွဲအောင်လုပ်နေခဲ့တယ်။ ပေါင်းစည်းရေးပါဒီတွေရော၊ ခွဲထွက်ရေးဝါဒီတွေကပါ သူတို့ရဲ့စစ်တပ်တွေအတွက် စစ်သားသစ်တွေစုဆောင်းဖို့ ရုန်းကန်နေကြရတာကြောင့် ဆန်းသစ်တဲ့အစီအစဉ်တွေကို စိတ်ကူးကြံစည်နေကြရတယ်။ ဒီအစီအစဉ်တွေထဲမှာ စစ်သားတွေနဲ့ တိုက်ပွဲကျစစ်သားမိန်းမမုဆိုးမတွေကို ပင်စင်လစာပေါပေါများများပေးဖို့ ကမ်းလှမ်းတာတွေလည်းပါလာတယ်၊ ဒီအစီအစဉ်ကြောင့် ရာထောင်ချီတဲ့သူတွေဟာ တိုက်ပွဲဝင်ဖို့ အလျှင်အမြန်ဖူးပေါင်းပါဝင်လာကြတာတွေ့ရတယ်။**

> ပြည်တွင်းစစ်ပင်စင်အစီအစဉ်ကနေ နောက်ဆုံးပေးခဲ့တဲ့ လစာဟာ ဘယ်တုန်းကအထိဖြစ်မလဲ။ ၁၉၃၀ နှစ်တွေ၊ ဒါမှမဟုတ် ၁၉၇၀ နှစ်တွေမှာ သက်တမ်းအရင့်ဆုံး စစ်ပြန်စစ်မှုထမ်းဟောင်းကြီးတွေဟာ သက်တမ်းကုန်ဆုံးချိန်ကို ရောက်လာနေကြပြီလား။ တကယ့်လက်တွေ့မှာတော့ ၂၀၀၄ ခုနှစ်အထိ ဒီအစီအစဉ်အရ နောက်ဆုံးထုတ်လစာကိုပေးလို့ မဆုံးသေးပါဘူး၊ ၁၉၂၀ နှစ်တွေမှာ အသက် ၈၁ အရွယ်ရှိတဲ့ စစ်ပြန်စစ်မှုထမ်းဟောင်းကြီးကို ကြံရည်ဖန်ရည်ရှိတဲ့ ၂၀ နှစ်အရွယ် မိန်းမပျိုလေးက လက်ထပ်ယူခဲ့တယ်။ ဒါကြောင့် အသက် ၉၇ နှစ်အရွယ် သူမ , သေဆုံးချိန်အထိ အုံညြလောက်စရာ သက်တမ်းရှည်ကြာလွန်းတဲ့ လစာငွေကို ထုတ်ပေးခဲ့ရတယ်။

### ဘီဗာရေချ် အစီရင်ခံစာ Beveridge Report

ပြည်တော်သာနိုင်ငံတွေကို တည်ဆောက်ရာမှာ အထောက်အကူဖြစ်စေတဲ့အရာကတော့ ဝီလီယံဘီဗာရေချ်ရဲ့ Social Insurance and Allied Services တော်မတီကို ၁၉၄၂ ခုနှစ်မှာ တင်သွင်းခဲ့တဲ့ အစီရင်ခံစာပါပဲ။ "လိုအင်ဆန္ဒ၊ ရောဂါဘယ၊ မသိနားမလည်မှု၊ ဆင်းရဲနွမ်းပါးမှုနဲ့ အလုပ်မလုပ်တဲ့ ပျင်းရိမှု" ဆိုတဲ့ အရက်ငါးချက်ကို လူ့အဖွဲ့အစည်းရဲ့ မကောင်းဆိုးဝါးတွေအဖြစ် အစီရင်ခံစာမှာ ဖော်ပြထားတယ်။ စစ်ပြီးခေတ်ကမ္ဘာကြီးဆီကို မပြည့်မစုံနဲ့ ချီတက်လိုက်ရတာကြောင့် အနာဂတ်ကာလမှာ အစိုးရတွေဟာ ပြည်သူတွေကို သင့်တော်တဲ့ ထောက်ပံ့မှုတွေလုပ်ဖို့ လိုအပ်လာပြီဆိုတာ ထင်ရှားလာခဲ့ပြီး ဘီဗာရေချ်အစီရင်ခံစာက စံထားစရာနမူနာပုံစံကို ဖော်ပြပေးခဲ့တယ်။ မဟာမိတ်တွေဟာ ကြီးမားတဲ့ ဘီဗာရေချ်အစီရင်ခံစာက စံထားစရာနမူနာပုံစံကို ဖော်ပြပေးခဲ့တယ်။ မဟာဗျူဟာပျက်ကပ်ကြီးနဲ့ ဝစ်တေးစပ်အက်စ်ခွဲရမှုပေါင်းထားတဲ့ တုန်လှုပ်ခြောက်ခြားဖွယ်ရာအတွေ့အကြုံက ဆိုးဝါးပြင်းထန်တဲ့ အခြေအနေတစ်ခုမှာ ပုဂ္ဂလိကကဏ္ဍဟာ လူတွေကို ဆင်းရဲဒုက္ခမခံစားရအောင်အကာအကွယ်မပေးနိုင်ဘူးဆိုတဲ့အချက်ကို ပီးမောင်းထိုးပြခဲ့တယ်။ အစီရင်ခံစာက တိုင်းပြည်ရဲ့အရွယ်အစားနဲ့ ညှိနိုင်းနိုင်တဲ့ စွမ်းရည်ကို ထည့်စဉ်းစားရင် နိုင်ငံသားတွေအတွက် ပိုကောင်း၊ ပိုဈေးသက်သာတဲ့ ကျန်းမာရေးစောင့်ရှောက်မှုနဲ့ ပင်စင်လစာတွေက ပိုပြီးလုံခြုံစိတ်ချရမှုကို ဖြစ်စေနိုင်တယ်လို့ ဆိုတယ်။

ဘီဗာရေချ်ရဲ့ စိတ်ကူးကို ဂျပန်နိုင်ငံက စိတ်ဝင်တစားအသုံးချမှုရှိဆုံးပါပဲ။ စစ်ကြီးအပြီးမှာ ဆေးရုံတွေ၊ ကျောင်းတွေနဲ့ ထင်ရှားတဲ့လူမှုလုံခြုံရေးစနစ်ကို တည်ထောင်ခဲ့တာကြောင့် ဂျပန်နိုင်ငံသားတွေရဲ့ ပျမ်းမျှသက်တမ်းနဲ့ပညာရေးအဆင့်အတန်းဟာ ညီသီသာသာတိုးတက်လာခဲ့တယ်။ ဒီလိုပြည်တော်သာစနစ်ရဲ့ နိုင်မာအားကောင်းမှုကြောင့် နောက်ပိုင်းနှစ်တွေမှာ ဂျပန်နိုင်ငံဟာ ပြန်ပြီးခိုင်မာတောင့်တင်းလာခဲ့တယ်လို့ အသိအမှတ်ပြုကြတယ်၊

**အချိန်ပြဇယား**

| ၁၈၈၉ | ၁၉၀၈ | ၁၉၄၂ |
| --- | --- | --- |
| ဘစ်စမတ်က ပထမဆုံးပင်စင်လစာပေးခြင်းနဲ့ ဆေးဝါးအာမခံအစီအစဉ်ကို တည်ထောင် | ဒေးဗစ် လွိုက်ဂျော့ခ်ျက ယူကေမှာ ပင်စင်လစာအစီအစဉ်ကို စတင်မိတ်ဆက် | ဘီဗာရေချ်အစီရင်ခံစာကို ပုံနှိပ်ထုတ်ဝေ |

ရင်းနှီးမြှုပ်နှံမှုအတိုးဥက်နဲ့ အလိုအလျောက်စာရင်းသွင်းမှုတွေလို ပင်စင်ဆိုင်ရာ ပြုပြင်ပြောင်းလဲမှုတွေက အမေရိကန်နိုင်ငံသားတွေရဲ့ အငြိမ်းစားဘဝအတွက် ရင်းနှီးမြှုပ်နှံမှုနဲ့ စုဆောင်းမှုလုပ်နိုင်စွမ်းကို ခိုင်မာအားကောင်းလာစေပါလိမ့်မယ်။

**Steve Bartlett,**
**အမေရိကန်အထက်လွှတ်တော်အမတ်ဟောင်း**

အလားတူပြဿနာကို ချဲ့ပြီးဝင်စားကြည့်ရင် ဒါက နိုင်ငံတစ်နိုင်ငံထဲမှာတင်ဖြစ်နေတာမဟုတ်ဘဲ အစိုးရတွေဟာ သူတို့ရဲ့ သက်ကြီးရွယ်အိုနိုင်ငံသားတွေကို ငွေကြေးတွေ ရက်ရက်ရောရောထောက်ပံ့ ကတိပေးခဲ့တာကြောင့် ဖွံ့ဖြိုးပြီး ကမ္ဘာတစ်ရပ်လုံးမှာ ကြုံတွေ့နေရတာဖြစ်တယ်။ နောက်ထပ်ဆယ်စုနှစ်များစွာကြာအောင် အဲ့ဒီသူတွေက အသက်ဆက်ရှင်နေပြီး ငွေသားတွေ ထုတ်ယူနေတဲ့အချိန်ရောက်မှသာ ပင်စင်လစာတွေနဲ့ လူမှုဘဝကောင်းကျိုးဆိုင်ရာအကျပ်အတည်းတွေကို သိမြင်လာကြတယ်၊

## ပြည်တော်သာနိုင်ငံအဖြစ်ဆင့်ကဲတိုးတက်လာမှု

ရောမခေတ်ကတည်း နိုင်ငံတွေဟာ နိုင်ငံသားတချို့ကို ပင်စင်လစာ၊ ပညာရေးနဲ့ တခြားအကျိုးခံစားခွင့်တွေ အခါအားလျော်စွာပေးခဲ့ဖူးပါတယ်၊ အများအားဖြင့်တော့ ဝန်မှုထမ်းခြင်းအတွက် အတွဲ့အလှယ်အနေနဲ့ ပေးအပ်တာဖြစ်တယ်။ တစ်ကမ္ဘာလုံးမှာ ပြည်တော်သာနိုင်ငံတွေနဲ့ လူမှုလုံခြုံရေးစနစ်တွေတည်ရှိလာတာကတော့ ဖြစ်စဉ်အသစ်လို့ ဆိုရမှာဖြစ်တယ်၊ ၂၀ ရာစုအထိ ကျူးကျော်ဝင်ရောက်မှုနဲ့ ရာဇဝတ်မှုတွေကနေ နိုင်ငံသားတွေကို အကာအကွယ်ပေးဖို့ သက်သက်အတွက်ကိုပဲ နိုင်ငံတွေဟာ နိုင်ငံသားတွေဆီကနေ အခွန်ကောက်ခံခဲ့ကြတာပါ၊ ဒါပေမဲ့ ပထမကမ္ဘာစစ်နဲ့ မဟာစီးပွားပျက်ကပ်ကြီး နောက်ပိုင်းမှာ မိသားစုတွေဟာကုန်းကောက်စရာမရှိလောက်အောင်ကို ဆင်းရဲမွဲပြာကျလာတဲ့အခြေအနေနဲ့ ရင်ဆိုင်လာကြရတာကြောင့် ယူကေနဲ့ ယူအက်စ်တို့လို နိုင်ငံတွေဟာ ပြည်တော်သာနိုင်ငံတွေအဖြစ် ပြောင်းလဲလာကြတယ်၊ အဲ့ဒီနိုင်ငံတွေဟာ အသက်ရွယ်ကြီးတဲ့ အိုမင်းမစွမ်းသူတွေ၊ အလုပ်အကိုင်မရှိသူတွေနဲ့ မကျန်းမာသူတွေစတဲ့ လိုအပ်ချက်ရှိသူတွေကို ငွေကြေးတွေပြန်လည်ခွဲဝေဖြန့်ဖြူးပေးဖို့ အခွန်ကောက်ခံမှုကရတဲ့ ငွေကြေးတွေကို အသုံးပြုလာကြတယ်။

ပင်စင်နဲ့ လူမှုလုံခြုံရေးအစီအစဉ်တွေရဲ့နောက်ကွယ်က သီအိုရီဟာ ဒီစနစ်ကို စတင်တီထွင်ခဲ့တဲ့အချိန်ကလိုပဲ ဒီနေ့ခေတ်မှာလည်း ဘာမှပြောင်းလဲမှုထွေထွေထူးထူး



## ပင်စင်နဲ့ လူမှုဖူလုံရေးအကျပ်အတည်းအတွက် အဖြေများ

၁။ အလုပ်လုပ်ဖို့ နိုင်ငံတွင်းကို ပြည်ပကဝင်ရောက်လာသူတွေကို ပိုပြီးဝင်ရောက်ခွင့်ပြုပါ။ ဒီလိုလုပ်ခြင်းက လုပ်သား အင်အားစုကို ပိုပြီးများပြားလာစေပါလိမ့်မယ်၊ သူတို့တွေဟာ ဒီနိုင်ငံကနေ ပင်စင်လစာတောင်းခံမှာမဟုတ်ဘဲ၊ သူတို့နိုင်ငံကိုပြန်ပြီးအငြိမ်းစားယူကြမှာဖြစ်လို့ ဒါက ပင်စင်ရန်ပုံငွေကို ဖြည့်ဆည်းပေးရုံသက်သက်ရလာမယ့်ဝင်ငွေဖြစ်တယ်၊

၂။ အခွန်ထမ်းတွေဆီကနေ အခွန်ပိုးကောက်ယူပါ။ အကျိုးဆက်အနေနဲ့တော့ စီးပွားရေးတိုးတက်မှု အားနည်းသွားမှာကို လက်ခံရပါမယ်၊

၃။ ပင်စင်စားသက်တမ်းကို တိုးမြှင့်ဖြစ်စေ၊ ပင်စင်လစာလျှော့ပေးဖို့ဖြစ်စေ ဒီအားခေးလုပ်ဆောင်ပါ၊

၄။ လက်ရှိလူမှုဖူလုံရေးစနစ်ကိုဖယ်ရှားပြီး လစဉ်လုပ်ခတနေဝင်ငွေခွန်ပမာဏတစ်ရပ်ကို ပင်စင်ရန်ပုံငွေထဲဖြည့်ဆည်းသွားဖို့ အစီအစဉ်တွေနဲ့အစားထိုးပါ။ ယူကေနိုင်ငံအပါအဝင် ဒီလမ်းကြောင်းကို အစိုးရအတော်များများက လျှောက်လှမ်းနေကြပြီဖြစ်ပါတယ်၊ ဒါပေမဲ့ ဒီပြုပြင်ပြောင်းလဲမှုတွေက လာမယ့်နှစ်တွေမှာဖြည့်သွင်းရမှာငွေအကျပ်အတည်းကို ထားဆီးနိုင်ဖို့တော့ နောက်ကျသွားတဲ့အခြေအနေဖြစ်နေတယ်၊

မရှိသေးပါဘူး၊ အစကတည်းက ရှိုးရိုးရှင်းရှင်းရှိခဲ့တဲ့ ဒီသဘောတရားက နိုင်ငံတစ်နိုင်ငံက နိုင်ငံသားတွေဟာ သူတို့ အလုပ်လုပ်နိုင်ချိန်၊ ကျန်းမာရေးကောင်းနေချိန်မှာ အထွေထွေရန်ပုံငွေတစ်ရပ်ကို ထည့်ဝင်ဖြည့်ဆည်းပေးထားပြီး သူတို့မကျန်းမာချိန်၊ အလုပ်မလုပ်နိုင်ချိန်၊ ဒါမှမဟုတ် အငြိမ်းစားယူချိန်တွေမှာ သူတို့ရဲ့ ကောင်းကျိုးအတွက် ဒီရန်ပုံငွေကနေ ပြန်လည်ထောက်ပံ့ကူညီပေးဖို့ပါပဲ။

## ပြဿနာများ

လူမှုဘဝဖူလုံရေးကို နိုင်ငံတော်ကတာဝန်ယူစောင့်ရှောက်တဲ့ စနစ်ကျင့်သုံးတဲ့ အနောက်ကမ္ဘာက နိုင်ငံတွေဟာ မိသားစုပေါင်းများစွာကို ဆင်းရဲတွင်းက ဆွဲထုတ်နိုင်ခဲ့သလို၊ ပညာရေးနဲ့ ကျန်းမာရေးအဆင့်အတန်းတွေကိုလည်း သိသိသာသာ တိုးတက်စေခဲ့တယ်။

ဒါပေမဲ့ ဒီစနစ်က ပြဿနာတချို့ကိုလည်း သယ်ဆောင်လာတယ်လို့ ပြောကြတာ တွေ့ရှိတယ်။ ဒီပြဿနာတွေထဲကတစ်ခုက လူမှုစီးပွားပြဿနာဖြစ်ပြီး၊ နောက်တစ်ခုကတော့ ဘဏ္ဍာရေးပြဿနာဖြစ်တယ်။

လူမှုစီးပွားအကျပ်အတည်းက လူမှုဖူလုံရေးစနစ်က လူတွေအလုပ်လုပ်တာကို အားမပေးဘူးလို့ ဆိုတယ်၊ အလုပ်အကိုင်မရှိသူတွေကို ထောက်ပံ့မှုတွေပေးတာကြောင့် နောက်အလုပ်အသစ် တစ်ခုကိုရှာဖွေလိုစိတ်လျော့ကျသွားတဲ့ သက်သေသာဓကတွေလည်း မနည်းမနောပါပဲ (အခန်း ၂၂ ကိုကြည့်ပါ)။ လူမှုဖူလုံရေးအသုံးစရိတ်က ရောမအဆိတ်အပိုင်းတစ်ခုဖြစ်နေပေမယ့် မကြာသေးမီနှစ်တွေမှာ နိုင်ငံအတော်များများမှာ ထုတ်လုပ်မှုစွမ်းအား ကျဆင်းသွားတာတွေ့ရတယ်။ အဲဒီနိုင်ငံတွေထဲမှာ ယူကေနဲ့ ဥရောပမြောက်ပိုင်းနိုင်ငံတွေလည်း ပါဝင်တယ်၊

နောက်တစ်ခါ ဒီလိုစနစ်မျိုးကို ရေရှည်ကျင့်သုံးဖို့ ငွေကြေးအထောက်အပံ့ ဘယ်လိုရမလည်းဆိုတာကလည်း ပြဿနာတစ်ခုဖြစ်တယ်။ လူမှုဖူလုံရေးစနစ် အများစုကို အစိုးရတွေရဲ့လက်ငင်းဘတ်ဂျက်စာရင်းထဲကနေ ထောက်ပံ့ပေးထားတာဖြစ်တယ်၊ အခွန်ထမ်းတွေဟာ သူတို့အနာဂတ်ပင်စင်အတွက်ပေးရတာထက် လက်ရှိပင်စင်စားတွေအတွက် ပေးဆောင်နေရတာကပိုများနေတယ်။ ဒီလိုစနစ်မျိုးက စစ်ပြီးခေတ်ကာလတွေမှာ အရမ်းအလုပ်ဖြစ်ခဲ့တယ်။ ၁၉၄၀ နှစ်တွေနဲ့ ၁၉၅၀ နှစ်တွေမှာ လူဦးရေအလွန်အမင်း တိုးပွားလာတာကြောင့် ၁၉၆၀၊ ၁၉၇၀ နဲ့ ၁၉၈၀ နှစ်တွေမှာ အခွန်ပေးဆောင်မယ့် လုပ်ငန်းအလုပ်သမားတွေများပြားရှိလာခဲ့တယ်။ ဒါပေမဲ့ နောက်ပိုင်းမှာ ယူအက်စ်၊ ယူကေ၊ ဂျပန်နဲ့ ဥရောပနိုင်ငံတွေအပါအဝင် နိုင်ငံအများအပြားမှာ လူဦးရေတိုးနှုန်း ကျဆင်းလာတာကြောင့် အနာဂတ်ကာလမှာ အခွန်ကရတဲ့ငွေဟာ ပင်စင်လစာတွေပေးဖို့ မလုံလောက်တဲ့ပြဿနာနဲ့ ရင်ဆိုင်လာရတယ်၊ သဘောကနေ လက်ရှိအလုပ်လုပ် နေသူတွေထက် ပင်စင်စားတွေကပိုများလာတဲ့သဘောပဲ။

ဒီပြဿနာက ယူအက်စ်မှာ ပိုပြီးပြင်းထန်တယ်။ အမေရိကန်စနစ်မှာက အားလုံးအတွက် ပင်စင်၊ Medicare လို့ခေါ်တဲ့ သက်ကြီးအခမဲ့ ကျန်းမာရေးအာမခံ၊ Medicaid လို့ခေါ်တဲ့ ဆင်းရဲသူတွေအတွက် ကျန်းမာရေးစောင့်ရှောက်မှုအကူအညီ၊ ယာယီအလုပ်လက်မဲ့ အထောက်အပံ့စတာတွေ ပါဝင်တယ်၊ ဒီစနစ်ဟာ စစ်ပြီးခေတ် ကလေးမွေးဖွားနှုန်း တိုးတက်ခဲ့ချိန်က မျိုးဆက်အိုမင်းလာချိန်မှာ ဝိတ်မသက်မသာဖြစ်စရာအခြေအနေနဲ့



ရင်ဆိုင်နေရတယ်။ အမေရိကန်ရဲ့အသက် ၆၅ နှစ်နဲ့ အထက်လူဦးရေအချိုးက ၁၂ ရာခိုင်နှုန်းကနေ ၂၀၅၀ ပြည့်နှစ်မှာ ၂၀ ရာခိုင်နှုန်းအထိတိုးလာဖို့ရှိတယ်။ ဒါကြောင့် အဲဒီစစ်ပြီးခေတ်မျိုးဆက်အသုတ် ပင်စင်စားတွေအတွက် ဆေးဝါးကုသစောင့်ရှောက်ပေးရမှုလိုအပ်ချက်ကလည်း အရင်ကထက်ပိုများလာမှာဖြစ်တယ်၊

## အနာဂတ်လူမှုဖူလုံရေးစနစ်

မျိုးဆက်တစ်ဆက်ရဲ့ဆုံးဖြတ်ချက်တွေက နောက်မျိုးဆက်အပေါ် ထိခိုက်နိုင်မှုကို လေ့လာတဲ့ စီးပွားရေးပညာရှင်တွေရဲ့ အလိုအရတော့ အလုပ်လုပ်နိုင်တဲ့ လူဦးရေနည်းပါးလာမှုနဲ့ ဆက်စပ်နေတဲ့ လာမယ့်နှစ်တွေမှာကုန်ကျမယ့် လူမှုဖူလုံရေးစရိတ်က ယူအက်စ်ကို ဒေဝါလီခံရမယ့်အခြေအနေအထိတောင် ဦးတည်နေစေတယ်လို့ ဆိုတယ်၊ ဂျပန်ကိုလည်းအလားတူ ဟောကိန်းထုတ်ထားတာ တွေ့ရှိပါတယ်။ ဂျပန်ရဲ့လူဦးရေ ၂၀ ရာခိုင်နှုန်းဟာ ၆၅ နှစ်ကျော်နေပြီဖြစ်ပြီး ၂၀၄၄ ခုနှစ်ရောက်တဲ့အခါ ဒီပမာဏဟာတိုးတက်လာပြီးအလုပ်လုပ်နိုင်တဲ့ လူဦးရေနဲ့ ညီမျှသွားမယ့်အခြေအနေအထိ ရောက်သွားနိုင်တယ်လို့ ဆိုကြတယ်။

ယူကေမှာ ဆယ်ကျော်သက်ကိုယ်ဝန်ဆောင်မှုတွေများလာတာကြောင့် မျိုးပွားနှုန်းတက်လာပြီး၊ ယူအက်စ်မှာလည်း မက္ကဆီကိုနိုင်ငံသားဝင်ရောက် အခြေချလာသူတွေကြောင့် မျိုးဆက်ပွားမှုအနည်းငယ်စတင်မြင့်တက်လာတယ်၊ ဒါတောင်မှ ဒီနှစ်နိုင်ငံစလုံးဟာ အလုပ်လုပ်နိုင်တဲ့ လူဦးရေကျဆင်းမှုနဲ့ ပတ်သက်ပြီး ထိတ်လန့်နေရမှုကနေ မလွတ်မြောက်နိုင်ကြသေးပါဘူး။

နာနာကျင်ကျင်နဲ့ပဲ လက်ခံရမယ့်အမှန်တရားကတော့ ပင်စင်စားတွေက ထောက်ပံ့ငွေတွေကို လျှော့ယူဖို့ပဲဖြစ်ဖြစ်၊ အနာဂတ်နိုင်ငံသားတွေက အခွန်တွေပိုပေးဆောင်ဖို့ပဲဖြစ်ဖြစ် လုပ်ဆောင်ဖို့ပဲဖြစ်ပါတယ်။ ဒီအကျပ်အတည်းဟာ လာမယ့်ဆယ်စုနှစ်တွေမှာ နိုင်ငံရေးနဲ့ စီးပွားရေးကို လွှမ်းမိုးလာမယ့်အကျပ်အတည်းတစ်ခုပါပဲ။

**အနှစ်ချုပ်အတွေးအခေါ်**

**မပေးနိုင်တဲ့ ငွေကြေးကို ကတိမပေးမိဖို့ သတိထားပါ**

# ၃၃ - ငွေကြေးဈေးကွက်များ

## Money markets

**လန်ဒန်ဆိပ်ကမ်းမြို့နယ်ထဲက တစ်နေရာမှာရှိတဲ့ သာမညောင်ညရုံးအဆောက်အအုံလေး တစ်ခုမှာ လူအုပ်စုလေးတစ်စုကို ကမ္ဘာ့အရေးကြီးဆုံးလို့ဆိုရမယ့် ကိန်းဂဏန်းတွေ လျှသိရှင်ကြားထုတ်ပြန်ဖို့ တာဝန်ပေးထားတယ်။ မနက် ၁၁ နာရီတိုင်းမှာ ထုတ်ပြန်တဲ့ ဒီကိန်းဂဏန်းရဲ့ အနေအထားက ကမ္ဘာ့နေရာအနှံ့ကို အကျိုးဆက်တွေသက်ရောက်စေတယ်။ ဒီကိန်းဂဏန်း ထုတ်ပြန်မှုကြောင့် တချို့တွေဒေဝါလီခံသွားကြရပြီး တချို့တွေကတော့ မီလီယံပေါင်းများစွာရသွားကြတယ်။ ဒါဟာ အရင်းရှင်စနစ် အခြေခံဘုတ်မြစ်ရဲ့ အစိတ်အပိုင်းတစ်ခုပါပဲ။ ဘဏ္ဍာရေးဈေးကွက်တွေရဲ့ ပြင်ပကလူတချို့ကတောင် ဒီအကြောင်းကို သိကြပါတယ်။ ဒါက နိုင်ငံတကာဘဏ်ကြီးတွေအချင်းချင်းကြား ကာလတိုငွေကြေးလိုအပ်မှုအတွက် ကာလသတ်မှတ်ပြီး ငွေချေးယူရာမှာ သတ်မှတ်တဲ့အတိုးနှုန်း London Interbank Offered Rate (Libor) ပဲဖြစ်ပါတယ်။**

Libor လို့ခေါ်တဲ့ ဒီအတိုးနှုန်းကို ဗြိတိသျှဘဏ်လုပ်ငန်းရှင်များအသင်းက စီမံခန့်ခွဲတယ်။ ဒီအတိုးနှုန်းဟာ ကမ္ဘာ့စီးပွားရေးရဲ့အဓိကအခန်းကဏ္ဍတစ်ခုဖြစ်တဲ့ ငွေကြေးဈေးကွက်ရဲ့ဝပိုချက်ပဲဖြစ်တယ်၊ ဒီဈေးကွက်မှာ ငွေချေးစာချုပ်တွေ၊ အီကွီတီတွေထုတ်မရောင်းဘဲ (အခန်း ၂၇ ကိုကြည့်ပါ)၊ ကာလတိုငွေကြေး လိုအပ်ချက်အတွက် လုပ်ငန်းတွေက ငွေချေးယူတာ၊ ငွေထုတ်ချေးတာတွေ လုပ်ကြတယ်။ ဒီဈေးကွက်တွေဟာ ကမ္ဘာ့ဘဏ္ဍာရေးစနစ်ရဲ့ အဓိကအာရုံကြော ဖွဲ့စည်းပုံစနစ်ကြီးပဲဖြစ်တယ်။ ဒီဈေးကွက်တွေပျက်တဲ့အချိန်မျိုးမှာ စီးပွားရေးတစ်ခုလုံးကို ထိတ်လန့်မှုဖြစ်စေနိုင်တယ်။

**အချိန်ပြဇယား**

**၁၉၇၀ နှစ်များ**
အပေါင်စာချုပ်တွေကို ရှယ်ယာ၊ ငွေချေးစာချုပ်ပုံစံမျိုး အသွင်ပြောင်းမှု ပထမဆုံး ပေါ်ပေါက်ခဲ့ပြီးလာ

**၁၉၈၄**
ဗြိတိသျှဘဏ်လုပ်ငန်းရှင်များ အသင်းက Libor ကို တည်ထောင်



အာမန်ရှိန်တွေမှာ လစ်ဘာလို့ခေါ်တဲ့ ဒီအတိုးနှုန်းက ဘဏ်တွေ အချင်းချင်းကာလတို ငွေထုတ်ချေးလိုတဲ့ဆန္ဒအပေါ်မှာ ထင်ဟပ်မှုရှိနေတာဖြစ်တယ်။ ဒီငွေထုတ်ချေးမှုဟာ ဘဏ်တွေအချင်းချင်းကြား ငွေထုတ်ချေးတာဖြစ်လို့ နိုင်မာမှု၊ လုံခြုံစိတ်ချရမှုမရှိဘူး၊ ဒီလုပ်ဆောင်ချက်က ဘဏ်စာရင်းထဲမှာရှိတာထက်ငွေပိုထုတ်တာ၊ ဒါမှမဟုတ် ကြွေးငယ်ကတ်လိုဟာမျိုးနဲ့ အတော်လေးတူပြီး အပေါင်စာချုပ်နဲ့တော့ ခြားပါပဲ။ ဒါပေမဲ့ ဘဏ်တွေအတွက်တော့ မဖြစ်မနေလုပ်ဆောင်ရတဲ့အရာမျိုးဖြစ်ပါတယ်။ လူတွေဟာ ငွေအပ်နှံတာ၊ ငွေထုတ်ယူတာ၊ ငွေချေးတာ၊ ကြွေးပြန်ဆပ်တာတွေကို နေ့စဉ်နေ့တိုင်းလုပ်ဆောင်ကြရတာကြောင့် ဘဏ်တွေရဲ့ငွေစာရင်းရှင်းတမ်းက သိသိသာသာပြောင်းလဲနေပါတယ်။ ဒါကြောင့် ငွေပြတ်သွားချိန်မှာ ဘဏ်တစ်ခုကနေ တစ်ခုကို ငွေလှည့်နိုင်မှုဟာ ဘဏ်တွေအတွက်တော့ ကြွေးမြီကင်းရှင်းစွာရှင်သန်နိုင်ဖို့ မရှိမဖြစ်လိုအပ်တဲ့အရာဖြစ်တယ်။

ဆယ်စုနှစ်ပေါင်းများစွာကျော်လွန်လာချိန်မှာ ဘဏ်တွေရဲ့လုပ်ငန်းလည်ပတ်ပုံတွေက အမျိုးမျိုးပြောင်းလဲလာခဲ့ပြီဖြစ်တယ်။ သမားရိုးကျနည်းလမ်းတွေအရ ဘဏ်တွေဟာ သူ့ရဲ့ဖေါက်သည်တွေဆီကနေရတဲ့ ဘဏ်အပ်ငွေတွေကို အပေါင်စာချုပ်လို၊ တခြားငွေချေးမှုပုံစံတွေလိုမျိုးကနေတစ်ဆင့် ငွေချေးလိုသူတွေကို ငွေပြန်ထုတ်ချေးပြီး ဝင်ငွေရှာကြတယ် (အခန်း ၂၈ ကိုကြည့်ပါ)။ တခြားတစ်ဖက်မှာတော့ ဘဏ်တွေဟာ သူ့ဖေါက်သည်တွေနဲ့ တိုက်ရိုက်ပုဂ္ဂိုလ်ရေး ဆက်ဆံမှုရှိတယ်။ It's a Wonderful Life ဇာတ်ကားထဲက George Bailey ဟာ ထိတ်ထိတ်ပျာပျာနဲ့ငွေထုတ်ယူနေကြတဲ့ ငွေအပ်နှံထားသူတွေကို နှစ်သိမ့်ဖို့ကြိုးစားနေသလိုမျိုးပေါ့။ တစ်ဖက်မှာလည်း ဒီလုပ်နည်းလုပ်ဟန်က ဘဏ်တွေကို ဆန္ဒရှိသလောက် ကြီးထက်ဖို့အတွက် အခွင့်အလမ်းတွေအများကြီးပေးမထားပါဘူး။ အကြောင်းက ဘဏ်တွေကို သူတို့ရဲ့ အရွယ်အစားအလိုက် ငွေဘယ်လောက်များများထုတ်ချေးနိုင်တယ်ဆိုတာကို စည်းမျဉ်းစည်းကမ်းတွေရှုမှတ်ပြီး ထိန်းချုပ်ထားတာ ကြောင့်ဖြစ်တယ်။

**၁၉၈၀ - ၉၀ နှစ်များ**
ကမ္ဘာ့အနှံ့ဘဏ်များအလျင်အမြန်ကျယ်ပြန့်လာ

**၂၀၀၇**
ဘဏ်အချင်းချင်းကြား ကာလတို ငွေချေးယူမှုဈေးကွက်တွေ ရပ်တန့်

## Libor အတိုးနှုန်းရဲ့ ဩဇာသက်ရောက်မှု

လက်ကားငွေကြေးဈေးကွက်တွေအပေါ်မှာ ဩဇာအပြည့်ရှိပြီး ကျယ်ကျယ်ပြန့်ပြန့် သက်ရောက်မှုရှိတာကြောင့် ဒီအတိုးနှုန်းဟာ ကာလတိုငွေကြေးလိုအပ်မှုအတွက် ဘဏ်တွေအချင်းချင်းကြား ငွေချေးငှားမှုအတွက် သတ်မှတ်တဲ့ အတိုးနှုန်းဖြစ်လာတယ်။ ဒီအတိုးနှုန်းက ကမ္ဘာပေါ်က လူတစ်ယောက်ချင်းစီခွဲဝေလိုက်ရင် ဒေါ်လာ ၄၅၀၀၀ စီနဲ့ ညီမျှတဲ့ ဒေါ်လာ ၃၀၀ ထရီလီယံလောက်တန်တဲ့စာချုပ်တွေရဲ့ အဓိကဝင်ရိုးချက်ဖြစ်နေတယ်၊ လူများစုက အတိုးနှုန်းလို့ဆိုလိုက်ရင် ဖက်ဒရယ်ရီဇပ်တို့၊ အင်္ဂလန်ဘဏ်တို့လို ဗဟိုဘဏ်တွေကနေ သတ်မှတ်ပေးတဲ့ တရားဝင်နှုန်းထားကိုပဲ စဉ်းစားကြတယ်၊ တကယ်တော့ Libor လို့ခေါ်တဲ့ ဒီအတိုးနှုန်းက ပိုကျယ်ပြန့်တဲ့စီးပွားရေးထဲမှာ ငွေချေးယူမှုနဲ့ဆိုင်တဲ့ အစစ်အမှန်ကုန်ကျစရိတ်ကို ပိုပြီးကောင်းမွန်စွာ ညွှန်ပြပေးနိုင်ပါတယ်၊

ဒါက ဘဏ်တွေအနေနဲ့ အပေါင်စာချုပ်တွေကိုအတိုးနှုန်းနည်းနည်းနဲ့ထုတ်ချေးလို့ မရအောင်လုပ်ထားတာပါပဲ။

### အာမခံစာချုပ်များ ပုံစံအသွင်ပြောင်းမှုမြင့်တက်လာခြင်း

ဘဏ်တွေ၊ ဒါမှမဟုတ် အပေါင်စာချုပ်ငွေထုတ်ချေးသူတွေကို အပြန်အလှန် သင်းပင်းဖွဲ့စည်းမှုပုံစံနဲ့ တည်ဆောက်ထားတယ်၊ သဘောက ရှယ်ယာရှင်တွေကချည်းပဲ ဒါတွေကိုပိုင်ဆိုင်တာမဟုတ်ဘဲ၊ သူတို့ရဲ့ဖောက်သည်တွေကပါ ပိုင်ဆိုင်တယ်လို့ ဆိုလိုတာဖြစ်တယ်။ ယူကေမှာ အပေါင်စာချုပ်ငွေထုတ်ချေးသူတွေကို ငွေစုငွေချေး အသင်းတွေအဖြစ်လူသိများပြီး ဒီထဲမှာ Nationwide နဲ့ Northern Rock တို့လို လုပ်ငန်းကြီးတွေပါဝင်တယ်။

ဒါပေမဲ့ ၁၉၇၀ နဲ့ ၁၉၈၀ နှစ်တွေမှာ အိုးအိမ်ပိုင်ဆိုင်မှုအတွက် ဝယ်လိုအားတွေတိုးလာကြောင့် (အခန်း ၃၇ ကိုကြည့်ပါ) ဘဏ်တွေအနေနဲ့ သူတို့မှာ ချေးငှားဖို့အသင့်ရှိနေတဲ့ ငွေသားပမာဏကို မမြှင့်တင်နိုင်ရင်အခက်တွေ့တော့မယ်ဆိုတာကို သဘောပေါက်လာခဲ့တယ်၊ ဒါကြောင့် ဘဏ်တွေဟာ ထူးခြားစနစ်တစ်ခုဘက်ကို လှည့်လာခဲ့တယ်။ ဘဏ်အပ်ငွေပမာဏ



ထပ်ရာသည်းပေါ်မှာ အခြေခံပြီး ငွေထုတ်ချေးမယ့် အစား နောက်ထပ်နည်းမျိုးကြံဆခဲ့တာဖြစ်တယ်။ အဲ့ဒါကတော့ အပေါင်စာချုပ်တွေကို အတွဲလိုက် ပေါင်းစည်းပြီး တခြားရင်းနှီးမြှုပ်နှံသူတွေဆီကို ရောင်းချခဲ့တာပဲ။ အကြွေးတွေကို (ငွေချေး စာချုပ်၊ သဘောတူညီချက်၊ ရှယ်ယာစတဲ့) အာမခံ စာချုပ်တွေအဖြစ် ပြောင်းလဲလုပ်ဆောင်ခဲ့တာကြောင့် ဒါကို လုံခြုံစိတ်ချရအောင်လုပ်ခြင်းလို့ ခေါ်တယ်။ ဒီလုပ်ဆောင်ချက်ဟာ အဲ့ဒီအချိန်ကတော့ ကောင်းကောင်းအလုပ်ဖြစ်ခဲ့တယ်။ အပေါင်စာချုပ်တွေကို အတွဲလိုက်လက်လွှဲရောင်းလို့ကောင်းခဲ့တာကြောင့် ဘဏ်တွေဟာ ငွေတွေပိုထုတ်ချေးခဲ့သလို ဘဏ်ရဲ့အရွယ်အစားအပေါ်ကန့်သတ်နေစရာမလိုဘဲ ပိုကြီးတဲ့အပေါင်စာချုပ်ချုပ်ဆိုနိုင်ခဲ့တယ်။ ဒီအာမခံစာချုပ်တွေရဲ့ ငွေပြန်ပေါ်မှုကောင်းကောင်းရတာရယ်၊ ကြွေးပေးရန် စိတ်ချရမှုအဆင့်ဖြတ်ပေးတဲ့ အေဂျင်စီတွေရဲ့ စိတ်ချရဖို့အားပေးမှုတွေရယ်ကြောင့် ကမ္ဘာတစ်ဝန်းက ရင်းနှီးမြှုပ်နှံသူတွေဟာ အဲ့ဒီအာမခံစာချုပ်တွေကို ဝယ်ယူဖို့ တန်းစီစောင့်ခဲ့ကြရတယ်။

❝ မဟာစီးပွားပျက်ကပ်ကြီးနောက်ပိုင်းမှာ ကျွန်တော်တို့တွေဟာ အဆိုးဝါးဆုံးကမ္ဘာ့စီးပွားရေး အကျပ်အတည်းထဲကို ရောက်နေတယ်ဆိုတာကို ဘယ်စီးပွားရေးပညာရှင်ကမှ အငြင်းပွားမယ်လို့ ကျွန်တော်တော့မထင်ပါဘူး၊ လုပ်ရမှာတွေအပေါ် အများသဘောတူလက်ခံမှုရလာနေတာကတော့ သတင်းကောင်းလို့ဆိုရမယ်။ ❞

ဘားရက် အိုဘားမား

အချိန်တွေကြာလာတာနဲ့အမျှ ဘဏ်တွေဟာ ဒီလိုအာမခံစာချုပ်မျိုးတွေကို ဖန်တီးရာမှာ ပိုပြီးအတွေ့အကြုံရလာသလို၊ ပိုပြီးခေတ်မီဆန်းပြားလာတယ်။ သူတို့ဟာ အပေါင်စာချုပ်တွေကို အတွဲလိုက်စုစည်းခဲ့ရုံတင်မကဘဲ၊ အပိုင်းလိုက် ခွဲခြားပြီး collateralized debt obligations (CDOs) လို့ခေါ်တဲ့ စာချုပ်တတမ်းတွေအဖြစ် ရောင်းချခဲ့ရတယ်။ ဒါ့အပြင် CDOs$^2$ (နှစ်ထပ်)၊ CDOs$^3$ (သုံးထပ်) ဆိုပြီး ပိုပြီးရှုပ်ထွေးတဲ့ ပုံစံမျိုးတွေနဲ့တောင် ရောင်းချခဲ့သေးတယ်။

ဒီလုပ်ဆောင်ချက်တွေရဲ့ နောက်ကွယ်က သဘောတရားကတော့ အတော်လေး သင့်တင့်လျောက်ပတ်မှုရှိပုံပါပဲ။ အရင်က အပေါင်စာချုပ်ကိုင်ထားသူတစ်ယောက် ကြွေးဆပ်ဖို့ ပျက်ကွက်ခဲ့ရင် အဓိကနစ်နာသူက ဘဏ်ပါပဲ။ လုံခြုံစိတ်ချရအောင်လုပ်ခြင်း (ဝါ) အာမခံစာချုပ်များအဖြစ် လက်လွှဲရောင်းချခြင်းက ဘဏ္ဍာရေးစနစ်တစ်ခုလုံးနေရာအနှံ့ကို

စွန့်စားရမှုအန္တရာယ်ကို ဖြန့်ကျက်လိုက်တာပါပဲ။ ချေးယူသူနဲ့ ထုတ်ချေးသူကြားက ပုဂ္ဂိုလ်ရေးဆက်ဆံမှုကို ဖယ်ရှားလိုက်တာကြောင့် အတွဲလိုက်ကြွေးမြီဝန်ထုပ်ကို ဂျပန်က ရင်းနှီးမြှုပ်နှံသူ၊ ဒါမှမဟုတ် ဥရောပပင်စင်ရန်ပုံငွေအဖွဲ့ဝင်တဲ့ ဘယ်သူ့ဆီမှာမဆို ဒီဝယ်ယူမှုကအဆုံးသတ်သွားနိုင်ပါတယ်။ ပြဿနာက စွန့်စားမှုယူထားရသူဟာ ဘယ်သူဖြစ်မလဲဆိုတာ နားမလည်နိုင်တော့တာပါပဲ၊ Standard & Poors၊ Fitch and Moodys တဲ့ အေဂျင်စီတွေရဲ့အဆင့်သတ်မှတ်ချက်ပေါ်မှာပဲ အားလုံးက မှီတည်နေတော့တာဖြစ်တယ်၊

ဒီလိုအဆက်အစပ်တွေပြတ်တောက်သွားခြင်းက ၂၀၀၀ နှစ်တွေမှာကြုံရတဲ့ ဘဏ္ဍာရေး အကျပ်အတည်းရဲ့အဓိကအကြောင်းတရားတစ်ခုပဲ၊ အကြောင်းက အလွန်ကိုရှုပ်ထွေးတဲ့ ဒီလိုကြွေးမြီအတွဲလိုက်အထုပ်တွေကို ဝယ်ယူတဲ့အခါ ရင်းနှီးမြှုပ်နှံသူတွေအဖို့ သူတို့ ယူလိုက်ရတဲ့ စွန့်စားမှုအန္တရာယ်ပမာဏကို ပြည့်ပြည့်ဝဝသတိမထားမိတော့တာကြောင့်ပဲ၊ ဘဏ်တွေဟာ သူတို့ဆီမှာအပ်ထားတဲ့ ငွေထက် အဖြင်ကို ပိုပြီးထုတ်ချေးနေတာကြောင့် သူတို့ရဲ့ငွေစာရင်းထဲမှာ လိုငွေပြလာတယ်၊ ဒီငွေကြေးလိုအပ်ချက်ကို ငွေကြေးလက်ကားဈေးကွက်ကငွေရှာတဲ့ နည်းလမ်း wholesale funding နဲ့ပဲ ဖြည့်ဆည်းနိုင်မှာဖြစ်တယ်။

## ကမ္ဘာကြီးကိုပြောင်းလဲသွားစေတဲ့နေ့

၂၀၀၇ ခုနှစ် ဩဂုတ်လ ၉ ရက်နေ့မှာ ဘဏ်အချင်းချင်းကြားက ဈေးကွက်တွေရော၊ အာမခံစာချုပ်ပုံစံအသွင်ပြောင်းထားတဲ့ အပေါင်စာချုပ်ဈေးကွက်တွေပါ တစ်ကမ္ဘာလုံးမှာ ရုတ်တရက်ရပ်တန့်သွားခဲ့တယ်။ ယူအက်စ်အိုးအိမ်ဈေးကွက်ဟာ ထိုးစိုက်ကျဆင်းမှုနဲ့ ရင်ဆိုင်နေရတယ်ဆိုတာရယ်၊ ဒီ့ထက်ပိုပြီး အခြေခံကျကျပြောရရင် အနောက်တိုင်းဘဏ္ဍာရေး စနစ်ကြီးဟာ လွန်လွန်ကျူးကျူးကို ကြွေးတွေထူထပ်နေတယ်ဆိုတာရယ်ကို သိလာတာကြောင့် ရင်းနှီးမြှုပ်နှံသူတွေဟာ ရှယ်ယာတွေ၊ အာမခံစာချုပ်တွေ ဝယ်ယူတာကို ရပ်တန့်လိုက်ကြတယ်၊ တစ်နည်းပြောရရင်တော့ သူတို့ဟာ ငွေချေးခြင်းကို ရပ်တန့်လိုက်တာလို့ ဆိုရမယ်၊ ဒီအချိန်ဟာ ဘဏ္ဍာရေးအကျပ်အတည်းကို အစပျိုးဖို့ မီးမွှေးပေးလိုက်တဲ့ စိုးရိမ်ကြောက်ရွံ့မှုတွေနဲ့ ပြည့်နေတဲ့အခါသမယပေါ့။ ဒီအခိုက်အတန့်လေးဟာ စနစ်ကြီးတစ်ခုလုံးရဲ့ ရှုပ်ထွေးတဲ့ အပိုင်းတွေကို အဲ့ဒီအချိန်အထိ သာမန်ကာလျှံကာလောက်ပဲ အာရုံစိုက်ထားတဲ့ စီးပွားရေးပညာရှင်တွေနဲ့ ငွေရှင်ကြေးရှင်တွေအဖို့ ကမ္ဘာ့စီးပွားရေးအခြေအနေ



တောင့်တင်းမှုရဲ့ အရေးပါပုံကို သိနားလည်လိုက်တဲ့ အခိုက်အတန့်လေးပေ့ါ။

Northern Rock ဘဏ်အပါအဝင် ဥရောပနဲ့ အမေရိကတိုက်ပေါ်က ဘဏ်တွေဟာ ငွေကြေးဆိုင်ရာလက်ကားဈေးကွက်တွေကနေ ရုတ်ချည်းဆိုသလို ငွေကြေးအထောက်အပံ့မရနိုင်ကြတော့ဘူး။ သူတို့ရဲ့ဘဏ်စာရင်းတွေထဲမှာ ချောက်တွင်းနက်ကြီးဖြစ်ပြီး ကျန်နေခဲ့တယ်။ ဒီဘဏ္ဍာရေးအကျပ်အတည်းကို ဖြစ်စေတဲ့ အကြောင်းတရားများစွာရှိပေမယ့် ဒီဖြစ်ရပ်ကတော့ ဘဏ္ဍာရေး ဈေးကွက်တွေကို ဒီစနစ်ကြီးကျင့်သုံးခဲ့တဲ့ တစ်လျှောက်မှာ ပထမဆုံးဆိုးဆိုးဝါးဝါး ထိတ်လန့်တုန်လှုပ်စေခဲ့တာဖြစ်တယ်။ နောက်တစ်လလောက်အကြာမှာပဲ နောက်ဆုံးမှီခိုအားထားရာ ဗဟိုဘဏ်ဖြစ်တဲ့ အင်္ဂလန်ဘဏ်ကနေ အရေးပေါ် ငွေကြေးအကူအညီရယူဖို့ Northern Rock ဘဏ်ကို ဖိအားပေးခဲ့ကြတယ်၊ ထပ်ဆင့်အိမ်ပေါင်နှံမှုတွေက လူတွေ ကြွေးပြန်ဆပ်မယ်လို့ ယုံကြည်ရမှုကို နိမ့်ကျလာစေတာက အဓိကပြဿနာလို့ လူတွေက ယူဆကြတယ်၊ ဒါပေမဲ့ Northern Rock ဘဏ်ရဲ့တကယ့်ပြဿနာက သူ့အနေနဲ့ ငွေကြေးဆိုင်ရာ လက်ကားဈေးကွက်ကို လုံးလုံးလျားလျား မှီခိုအားထားနေရချိန်မှာ ဘဏ်တွေဟာအချင်းချင်းငွေထုတ်ချေးဖို့ကို အင်တင်တင်ဖြစ်လာကြတာပြီး ဘဏ်အချင်းချင်း ငွေချေးတဲ့အတိုးနှုန်းတွေ (Libor rates) ထိုးတက်သွားတာကြောင့်ပါ။

သီအိုရီအရဆိုတော့ ဘဏ်တွေအချင်းချင်းတာဝန်ယူစောင့်ရှောက်ချင်စိတ်ကို Libor rate က ညွှန်ပြနေတယ်လို့ ဆိုတယ်။ ဒီဖြစ်ရပ်မှာလည်း ငွေထုတ်ချေးတာမျိုး ဘယ်လိုမှ မပေါ်ပေါက်ခဲ့ဘူး။ ငွေကြေးဈေးကွက်နဲ့ ဘဏ်တွေကိုယ်တိုင်ဆီကို ငွေသားတွေ တိုက်ရိုက်ဖြည့်သွင်းပေးဖို့နဲ့ ကြားဝင်ဖျန်ဖြေပေးဖို့ ဗဟိုဘဏ်တွေကို ဖိအားပေးခဲ့ကြတယ်။ ဒါပေမဲ့ ငွေကြေးဈေးကွက်တွေကတော့ ရပ်တန့်သွားခဲ့ရပါပြီ၊

အနှစ်ချုပ်အတွေးအခေါ်

**ငွေကြေးဈေးကွက်တွေက ဘဏ္ဍာရေးလောကကို ကျယ်ပြန့်လာစေတယ်**

# ၃၄ - ပူဖောင်းမှုတ်ခြင်း

## Blowing bubbles

"ဆင်ခြင်တုံတရားမရှိတဲ့ ရှင်မြူးတက်ကြွမှု" ဆိုတဲ့ဝေါဟာရဟာ ဘာမှသိပ်ပြီး ထူးခြားမှုမရှိပါဘူး။ ဒါပေမဲ့ ဒီစကားရပ်နှစ်ခုအတွဲမှာ ကမ္ဘာအနှံ့က စတော့ဈေးကွက်တွေကို ထိုးစိုက်ကျဆင်းသွားစေဖို့ လုံလောက်တဲ့အင်အားတော့ရှိနေခဲ့တယ်။ ၁၉၉၆ ခုနှစ်မှာ ဖက်ဒရယ်ရီဇပ်အဖွဲ့ရဲ့ဥက္ကဋ္ဌ အလန်ဂရင်းစပန်းက ဒါဟာဈေးကွက်တွေ ထူးထူးခြားခြားအတွေ့အကြုံရနိုင်တဲ့အရာလို့ သတိပေးတဲ့အခါ ရင်းနှီးမြှုပ်နှံသူတွေက သူတို့တွေ ပူဖောင်းတစ်လုံးထဲမှာ ထောင်ချောက်မိနေသလားဆိုတာ မေးခွန်းထုတ်နေခဲ့ကြတာကြောင့် ဈေးနှုန်းတွေတစ်ဟုန်ထိုးကျဆင်းလာတာနဲ့ ကြုံရတော့တာပါပဲ။

ဂရင်းစပန်းက နည်းပညာကုမ္ပဏီတွေရဲ့ရှယ်ယာဈေးနှုန်းတွေဟာ မျှော်လင့်ထားတာထက် ပိုပြီးမြန်မြန်ဆန်ဆန်နဲ့ တရိပ်ရိပ်ထိုးတက်နေတာကို သဘောပေါက်နားလည်ခဲ့တယ်၊ အင်တာနက်စန်းပွင့်လာမှုကြောင့် လူတွေရဲ့ စိတ်လှုပ်ရှားပျော်ရွှင်မှုတွေက ရှယ်ယာတွေကို ထိုက်သင့်တဲ့ဈေးထက် ပိုပေးပြီး ထိန်းမနိုင်သိမ်းမရဝယ်နေခဲ့ကြတယ်။ ဒါကြောင့် အစောပိုင်းမှာ အင်တာနက်စီးပွားရေးလုပ်ငန်းတွေဖြစ်တဲ့ ဒေါ့ကွန်ကုမ္ပဏီတွေရဲ့ ရှယ်ယာပူဖေါင်းတွေဟာ တစ်ဟုန်ထိုးဈေးတက်လာခဲ့တယ်။ ဂရင်းစပန်းရဲ့ သတိပေးစကားကြောင့် နောက်တစ်နေ့မှာ ဝေါလ်စထရိစ်က Dow Jones ရှယ်ယာဈေးနှုန်းညွှန်ကိန်းကို ၁၄၅ မှတ်လောက်ကျဆင်းသွားစေတယ်။ ဒါပေမဲ့ ထောင်စုနှစ်အကူးအပြောင်းနောက်ပိုင်းအထိတော့ ယုံကြည်မှုတွေ ပြန်ရနေတုန်းပါပဲ။



"ဆင်ခြင်တုံတရားမရှိတဲ့ ရှင်မြူးတက်ကြွမှု" ဆိုတဲ့ကိန်းက ဘဏ္ဍာရေးဈေးကွက်တွေ၊ ပူဖောင်းတွေနဲ့ပတ်သက်ပြီး အဓိကအချက်နှစ်ချက်ကို ဖေါ်ပြပါတယ်၊ ပထမတစ်ချက်က ပူဖောင်းတစ်လုံးဖြစ်လာတာလားဆိုတာကို ခွဲခြားဖေါ်ထုတ်ဖို့ဆိုတာ အရမ်းခက်ခဲပြီး ဒီထက်ပိုဆိုးတာက ဒီပူဖေါင်းဟာ ပေါက်ဖို့နီးပြီလားဆိုတာ အဖြေထုတ်ဖို့က ပိုလို့တောင်ခက်ခဲသေးတယ်ဆိုတာကို ဖေါ်ပြတယ်၊ ဒုတိယအချက်ကတော့ ပူဖေါင်းတွေကို ထိန်းချုပ်မှုအောက်ပြန်ရောက်အောင် လုပ်ရတာ ဘယ်တော့မှ မလွယ်ဘူးဆိုတာကို ဖေါ်ပြတယ်။

### ပူဖေါင်းတွေကို ခွဲခြားဖေါ်ထုတ်ခြင်း

အက်ဆက်တစ်စုံတစ်ခုနဲ့ ပတ်သက်ပြီး ဈေးကစားသူတွေနဲ့ ရင်းနှီးမြှုပ်နှံသူတွေရဲ့ စိတ်လှုပ်ရှားပျော်ရွှင်မှုက ဈေးနှုန်းတွေကို ထိုက်သင့်တာထက်ပိုပြီးတက်သွားစေတဲ့အခါမျိုးမှာ စီးပွားရေးပူဖေါင်းလေးတွေဖြစ်လာတယ် (ပလုံစီထပြီး ပူဖေါင်းလေးတွေ ဖြစ်လာတဲ့သဘောမျိုး မြင်ယောင်ကြည့်ပါ။ လူတွေဟာ ကုန်ပစ္စည်းတစ်ခုနောက်ကို အရူးအမူးလိုက်ဝယ်ကြတာကြောင့် ဈေးတွေအလွန်အမင်းတက်လာတာကိုဆိုလိုတယ်)၊ မှန်ကန်တဲ့ ဈေးနှုန်းဆိုတာကိုက ပုဂ္ဂလဓိဌာန်သဘောဆန်တာကြောင့် အဲဒါကိုက ပြဿနာတစ်ရပ်ဖြစ်နေတာပါ။ ၂၀၀၀ ပြည့်နှစ်မှာ အင်တာနက်ရှယ်ယာဈေးနှုန်းတွေ မူးနောက်လောက်အောင် တရိပ်ရိပ်တက်နေတဲ့အချိန်မှာတောင်မှ ဒီဈေးနှုန်းတွေဟာ မျှတပါတယ်လို့ ခံယူထားတဲ့ ကျွမ်းကျင်သူတွေ၊ လေ့လာဆန်းစစ်သူတွေက မနည်းမနောပါပဲ။ စီးပွားရေးအကျပ်အတည်း ကြုံလာပြီး ဈေးနှုန်းတွေ ထိုးမကျသွားခင်၊ ၂၀၀၆ ခုနှစ်မှာ ယူအက်စ်နဲ့ ယူကေက အိမ်ခြံမြေဈေးတွေ တရိပ်ရိပ်တက်နေတုန်းကလည်း အဲဒီလိုပါပဲ၊

ပူဖေါင်းတွေက အံ့ဩဖွယ်ရာအသစ်အဆန်းဖြစ်ရပ်တစ်ခု လုံးဝမဟုတ်ပါဘူး။ ဒါမျိုးတွေက ဈေးကွက်တွေရဲ့အစောဆုံးကာလတွေမှာထဲက ထပ်ဖန်တလဲလဲကြုံခဲ့ရတာပါ။ ဒုရာစုမှာ ဟော်လန်က ကျူလစ်ပန်းတွေနောက်ကို ဘဝေကက်ကောက်လိုက်ပြီး

အချိန်ပြဇယား:

| ၁၆၃၇ | ၁၇၂၀ | ၁၈၄၀ | ၁၉၂၆ | ၁၉၈၇ | ၂၀၀၁ | ၂၀၀၆ – ၈ |
|---|---|---|---|---|---|---|
| နယ်သာလန်က ကျူးလစ်ပန်း ဈေးကွက်ပူဖေါင်းဖြစ် | မစ္စစ္စပီကုမ္ပဏီရှယ်ယာ ဈေးကွက်ပူဖေါင်းဖြစ် | မီးရထားကုမ္ပဏီ ရင်းနှီးမြှုပ်နှံမှု အရူးအမူးဖြစ်ကြ | ဖလော်ရီဒါအိမ်ခြံမြေ ဈေးကွက်ပြိုကျ | ယူကေ အိမ်ခြံမြေ ဈေးကွက် ပူဖေါင်းပေါက် | ဒေါ့ကွန် ပူဖေါင်းပေါက် | ယူကေ၊ ယူအက်စ်နဲ့ အနောက်တကမ္ဘာမှာ အိမ်ခြံမြေဈေးကွက်ပူဖေါင်းပေါက် |

❝ ငြိမ်နေတာထက် တစ်ခုခုလုပ်နေဖို့ဝင်ကိုသဘာဝအလျောက်စေ့ဆော်နေတဲ့ တိရစ္ဆာန်တွေရဲ့ စိတ်တွေလိုမျိုး ကျွန်တော်တို့ရဲ့ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ ဆုံးဖြတ်ချက်တွေကိုလည်း ယူဆလို့ရနိုင်ပါတယ်။ ❞

ဂျွန်မေးနတ်ကိန်း

အမြေးအလွှားဝယ်ခဲ့ကြတာ၊ ၁၈ ရာစုမှာ ဥရောပကိုလိုနီတွေကနေ အမြတ်အစွန်းတွေ ရတာကြောင့် မစ္စစ္စပီကုမ္ပဏီရဲ့ရှယ်ယာတွေ လှုပ်လှုပ်ရှားရှားနဲ့ ပလုံစီထပြီးပူဖေါင်းတွေ ဖြစ်လာတာ ကနေ ၂၀ ရာစုမှာ ဥစ္စာပစ္စည်းတွေမျိုးစုံနောက်ကို မေ့ပင်လိုက်အရှုံးထဲခဲ့ ကြတဲ့အထိ ထပ်ဖန်တလဲလဲကြုံခဲ့ကြရတာပါ။

ဒီတွေဟာ ပူဖေါင်းတွေပါလားလို့ပြန်ပြောင်းတွေးကြည့်မှ သိလာပေမယ့် ကြိုပြီး ခွဲခြားဖေါ်ထုတ်ဖို့တော့ ခက်ခဲပါတယ်။ စီးပွားရေးပညာရှင်တွေပြောကြတဲ့ အခြေခံအကြောင်း တရားတွေက ဈေးနှုန်းတွေကို မြင့်တက်စေနိုင်ပါတယ်။ ဥပမာ – လူတွေဟာ နေရာဒေသတစ်ခုမှာ ပိုပြီးနေထိုင်ချင်လာတာကြောင့် အိမ်ဈေးတွေတက်လာနိုင်ပါတယ်၊ တစ်ခါ ဆောက်လုပ်ရေးချတဲ့ ဒါက ဝယ်လိုအားတက်လာတာကြောင့် ဖြစ်တဲ့ဈေးတက်မှုပေါ့၊ တစ်ခါ ဆောက်လုပ်ရေးချတဲ့ အိမ်အရေအတွက် နည်းသွားတာကြောင့်လည်း အိမ်ဈေးတွေကိုတက်စေတာပါပဲ။ ဒါကတော့ ရောင်းလိုအားကျဆင်းမှုကြောင့်ဖြစ်တဲ့ ဈေးတက်မှုလို့ဆိုရမယ်။

### လေကြောင်းကို ဆန့်တက်ခြင်း

အလန်ဂရင်းစပန်းအပါအဝင် စီးပွားရေးပညာရှင်တွေက မှတ်ချက်ပြုသူတွေဟာ ပူဖေါင်းတွေအပေါ် အာကာသုံးပြီး ကြမ်းကြမ်းတမ်းတမ်းမကိုင်တွယ်သင့်ဘူးလို့ တိုက်တွန်းခဲ့တယ်။ "လေကြောင်းကိုဆန့်မတက်နဲ့" လို့ ဆိုတယ်။ အထူးသဖြင့် အတိုးနှုန်းတွေမြှင့်လိုက်တာမျိုး၊ ဥပဒေစည်းမျဉ်းသစ်တွေ ချမှတ်တာမျိုးတွေကို မလုပ်နဲ့လို့ ဆိုတယ်။ အဲ့ဒါမျိုးတွေ လုပ်မယ့်အစား ပူဖေါင်းတွေပေါက်ကွဲသွားတဲ့နောက်မှာ ကျန်ခဲ့မယ့် အမှိုက်သရိုက်တွေကိုပဲ ရှင်းလင်းသုတ်သင်ဖို့ အာရုံစိုက်ထားသင့်တယ်လို့ တိုက်တွန်းကြတယ်။ သူတို့ရဲ့အကြောင်းပြချက်ကတော့ နှစ်မျိုးကွဲနေတယ်။ ပထမအကြောင်းပြချက်က ဈေးနှုန်းတွေမြင့်တက်နေတာဟာ ပူဖေါင်းဖြစ်လာတဲ့



### တုံ့ပြန်မှု ကွင်းဆက်ပတ်လမ်းများ

ပလုံစီထပြီး ပူဖေါင်းလေးစဖြစ်လာချိန်မှာ၊ ဒါမှမဟုတ် ပေါက်ကွဲသွားချိန်မှာ ဒီအခြေအနေက စီးပွားရေးအပေါ် သက်ရောက်မှုရှိမယ့် မင်္ဂလာစက်ဝန်းထဲလည်း ရောက်နေနိုင်သလို၊ အဆိုးကျောဝဲဂယက်ထဲမှာ တဝဲဝဲလည်နေတာလည်းဖြစ်နိုင်ပါတယ်။ မင်္ဂလာစက်ဝန်းကိုတော့ ကောင်းတဲ့တုံ့ပြန်မှုကွင်းဆက်ပတ်လမ်းလို့ စီးပွားရေးပညာရှင်တွေက ဆိုကြပြီး အဆိုးကျော့သံသရာကိုတော့ မကောင်းတဲ့ တုံ့ပြန်မှုကွင်းဆက်ပတ်လမ်းလို့ ခေါ်ကြတယ်။ ဈေးနှုန်းတွေတက်လာတော့ ငွေတွေပိုသုံးရတာကြောင့် လူတွေဟာပိုချမ်းသာလာကြတယ်လို့ခံစားမိကြတယ်၊ ဒီအခြေအနေက စီးပွားရေးကို ရှေ့ဆက်ပိုပြီးကျယ်ပြန့်လာအောင် မောင်းနှင်ပေးတယ်။ ဈေးတွေကျတော့ လူတွေရဲ့ အသုံးစရိတ်ကလည်း ကျလာတယ်၊ ဒီအခြေအနေက နောက်ထပ်ဈေးတွေထပ်ကျစေပြီး ဘဏ်တွေကလည်း ငွေထုတ်ချေးရမှု လျော့နည်းသွားစေတယ်။ ၂၀၀၈ ဘဏ္ဍာရေးအကျပ်အတည်းအတွင်းမှာ အဆိုးကျော့သံသရာကွင်းဆက်ပတ်လမ်းတစ်ခုဖြစ်လာတယ်။ ဘဏ်တွေက လူတွေကို ငွေအလွှတ်ထုတ် မချေးတော့လို့ လူတွေဟာ သူတို့ရဲ့အသုံးစရိတ်ကို လျှော့လာရတယ်၊ ဒီတော့ ဘဏ်တွေကလည်း ငွေထုတ်ချေးဖို့ကို အင်တင်တင် ဆက်ဖြစ်လာကြတယ်။ ဒီအဆိုးကျော့ကွင်းဆက်က စီးပွားရေးဖြစ်စဉ်တွေအားလုံးထဲမှာ အန္တရာယ်အများဆုံးပါပဲ၊ အကြောင်းက ဒီကွင်းဆက်တစ်ကြိမ်စလည်လိုက်တာနဲ့ ဗဟိုဘဏ်တွေကနေ နိုင်ငံရေးသမားတွေအထိ ဘယ်သူကမှ ဒါကို ရပ်တန့်ဖို့ မလွယ်တော့တာပါပဲ၊

အရိုပ်လက္ခဏာလား၊ ဘာမှ ဒုက္ခမပေးတဲ့ စီးပွားရေးတိုးတက်မှုသက်သက်ရဲ့ သရုပ်သကန်လားဆိုတာ ခွဲခြားဖို့ ခက်ခဲတယ်လို့ ဆိုတယ်၊ ဒုတိယဆင်ခြင်ပုံကတော့ အတိုးနှုန်းတို့၊ စည်းမျဉ်းဥပဒေတို့လို စီးပွားရေးလက်နက်တွေက အရည်အသွေးကိုလည်း ယုတ်လျော့ကျဆင်းစေတယ်ဆိုတာကို ထည့်စဉ်းစားရင် ဒီလက်နက်တွေကို အသုံးချတာဟာ စီးပွားရေးရဲ့တခြားအစိတ်အပိုင်းတွေကိုလည်း ဆက်စပ်ပြီးထိခိုက်စေဖို့ အလားအလာတွေ ရှိနိုင်တယ်လို့ အကြောင်းပြတယ်၊

တချို့ကတော့ ပူဖေါင်းတွေဟာကောင်းမွန်စွာလည်ပတ်အလုပ်ဖြစ်နေတဲ့စီးပွားရေးရဲ့ ခွဲထုတ်လို့ မရနိုင်တဲ့အစိတ်အပိုင်းလို့ ဆိုတယ်။ တခြားနည်းလမ်းနဲ့ ဖြစ်မလာနိုင်တဲ့ ကြီးမားတဲ့ ရင်းနှီးမြှုပ်နှံမှုတွေကို ပူဖေါင်းတွေက ဖြစ်စေတယ်လို့ အကြံပြုကြတယ်။ ဥပမာ – ၁၉၉၀ နောင်းပိုင်းမှာ ဒေါ့ကွန်စနီးပွင့်မှုက တယ္လာအနှံ့ရောမဆက်သွယ်ရေးဇန်ကြီးမှုင်ဆက်ကြောင်း ရှိတ်ဆက်မှုဖြစ်လာစေဖို့ အစပျိုးပေးခဲ့တာ ဖြစ်တယ်။ ဒီဖြစ်ရပ်က အဲ့ဒီအချိန်က လိုအပ်တာထက် အများကြီးပွမ်းဆောင်ရည်ပိုကောင်းတဲ့ နိုင်ငံတကာကွန်ရက်ကြီးတစ်ခုကို ပေါ်ပေါက်လာစေခဲ့တယ်၊ ကုမ္ပဏီတွေအများအပြား ငွေပြတ်၊ ကြွေးတင်ပြီး ဒုက္ခတွေ့ခဲ့ကြပေမယ့် နိုင်ငံတကာဆက်သွယ်ရေး စရိတ်တွေကို ကျဆင်းသွားစေတာကြောင့် ဒေါ့ကွန်ခေတ်လွန်နှစ်တွေမှာ ဒါက စီးပွားရေး တိုးတက်မှုကို မောင်းနှင်ပေးခဲ့တယ်၊ အလားတူ ပါပဲ။ ပူဖေါင်းတစ်လုံးဖေါက်ခနဲ ပေါက်သွားသော တီထွင်ဖန်တီးမှုရှိတဲ့ အဖျက်စွမ်းအားဖြစ်စဉ်ကြောင့် အောင်မြင်မှုအနည်းဆုံး စီးပွားရေးလုပ်ငန်းတွေကို ဖယ်ရှားပြီးသားဖြစ်သွားတယ် (အခန်း ၃၆ ကိုကြည့်ပါ) လို့လည်း ဆိုကြတာတွေရှိတယ်။

## ဖြစ်သွားတဲ့အပျက်အစီး

ဒါပေမဲ့ ပူဖေါင်းတစ်လုံးပေါက်ကွဲသွားလို့ စီးပွားရေးထိခိုက်နစ်နာမှုတွေ ကြုံရတဲ့အခါ ဒီလိုထောက်ခံ ဆွေးနွေးမှုတွေကို သံသယဖြစ်လာတတ်တယ်။ နောက်ကကပ်ပါလာတဲ့ စီးပွားရေးကျဆင်းမှုက အလွန်အမင်း ထိခိုက်ပျက်စီးစေတယ်။ ဘဏ်တွေက ချေးငွေတွေကို ခွဲတမ်းစနစ်နဲ့စပြီး အလွန်အမင်း ထိခိုက်ပျက်စီးစေတယ်။ ဘဏ်တွေက ချေးငွေတွေကို ခွဲတမ်းစနစ်နဲ့စပြီး ချေးပေးလာတာ ကြောင့် အရိုးရှင်းဆုံးငွေအလွှဲအပြောင်းကိစ္စလေးတွေတောင်မှ သိသိသာသာ စရိတ်စကတက်လာတယ် (အခန်း ၃၅ ကိုကြည့်ပါ)။ ၁၉၂၉ ဝေါလ်စထရိစ်ဈေးကွက်ပြိုကျပြီးနောက် ဖြစ်လာတဲ့ မဟာစီးပွားပျက်ကပ်ကြီးကိုကြည့်ရင် ပူဖေါင်းတစ်လုံးပေါက်ခြင်းရဲ့ ရေရှည်သွယ်ဝိုက် ရိုက်ခတ်မှုတွေဟာ ဘယ်လောက်အထိပြင်းထန်နိုင်တယ်ဆိုတာ နားလည်လိမ့်မယ်။

တချို့ကတော့ စီးပွားရေးပူဖေါင်းတွေက ရင်းနှီးမြှုပ်နှံလိုက်တဲ့နေရာကနေ ငွေလွယ်လွယ်ရမယ် ထင်နေတဲ့ မက်လုံးတွေကြောင့် လူတွေကို အာရုံထွေပြားစေတယ်လို့ ယူဆကြတယ်၊ စီးပွားရေး ဝေါဟာရအရတော့ ဒီမက်လုံးတွေက တခြားနေရာမှာ သုံးသင့်တဲ့ အရင်းအမြစ်တွေကို မှားယွင်း ခွဲဝေနေရာချထား (misallocation) မိစေတယ်၊ ဥပမာ – ဘဏ်ငွေစာရင်းထဲထည့်ထားတာ၊ ရှယ်ယာတွေဝယ်ထား တာမျိုးမလုပ်ဘဲ၊ ဈေးနှုန်းသင့်တော်တယ်လို့ ယုံကြည်ရတဲ့ အိမ်တွေဝယ်ပြီး ရင်းနှီးမြှုပ်နှံထားမိတာမျိုးပေါ့။



## ပြည်ပတ်မှုကိုလျော့ကျစေခြင်း

စီးပွားရေးကိုလည်ပတ်စေရာမှာ ပူဖေါင်းတွေဖြစ်မလာအောင် တားဆီးနိုင်တဲ့ နည်းလမ်းတွေ အများကြီးရှိတယ်။ ပထမနည်းက လူထုကို ခိန်းခြောက်ပြောဆိုတာ၊ ကြေညာချက်ထုတ်ပြန်တာမျိုးတွေ ကနေ ပေါ်လစီချမှတ်သူတွေက ပူဖေါင်းတစ်လုံးဖြစ်လာနေတဲ့ဖြစ်နိုင်ခြေအပေါ် စိုးရိမ်ပူပန်မှုတွေ ထုတ်ဖော်ပြောကြားတဲ့နည်းပေါ့။ ဒါပေမဲ့ ဒေါ့ကွန်ဈေးကွက်ပြိုလဲမှုက ပြခဲ့သလိုပဲ၊ ဒါကလည်း ပူဖေါင်းလေးကို လေမှုတ်သွင်းနေခြင်းက တားဆီးပေးနိုင်ဖို့ မသေချာပါဘူး။ ဒုတိယရွေးချယ် ရမယ့်နည်းက အတိုးနှုန်းကို မြင့်ဖို့ပါ။ ဒါက ပူဖေါင်းကြီးထွားလာမှုကို လျော့ကျစေပေမယ့် တခြားစီးပွားရေးကဏ္ဍတွေရဲ့ တိုးတက်မှုကိုလည်း ထိခိုက်စေတယ်။ တတိယတစ်နည်းကတော့ ဘဏ်တွေကို စည်းမျဉ်းတွေ ပိုပြီးတင်းကျပ်ဖို့ပဲ။ ဘဏ်တွေအနေနဲ့ ဈေးကွက်တစ်ခုပူဖေါင်း ဖြစ်လာချိန်နောက်ပိုင်းမှာ အရင်ကလို ငွေတွေကို လွယ်လွယ်တကူနဲ့ လက်လွှတ်မပေးမချေးဖို့ စည်းမျဉ်းတွေ တင်းကျပ်ရမှာဖြစ်တယ်။ လုပ်ငန်းရပ်ဝဲတဲ့အထိတောင် စည်းမျဉ်းတွေတင်းကျပ် ထားရမှာဖြစ်တယ်။ စီးပွားရေးက တက်လိုက်ကျလိုက်နဲ့ တဝဲဝဲသံသရာလည်နေတာကို တိုက်ဖျက်ဖို့ ရည်ရွယ်တဲ့ တချို့မူဝါဒတွေကို counter-cyclical လို့ခေါ်တယ်။ ဒီနည်းလမ်းမျိုးတွေက ပူဖေါင်းတွေဖြစ်လိုက်၊ ပေါက်ကွဲလိုက် စီးပွားရေးမြန်ကျသွားလိုက်ဖြစ်စေတဲ့ pro-cyclical ပေါ်လစီမျိုးတွေနဲ့တော့ ပြဒါးတစ်လမ်း သံတစ်လမ်းလို့ဆိုရမယ်။

၂၀၀၈ အကျပ်အတည်းနောက်ပိုင်းမှာ ဗဟိုဘဏ်တွေက လေကြောင်းကို ဆန့်ကျင် ၂၀၀၈ အကျပ်အတည်းနောက်ပိုင်းမှာ ဗဟိုဘဏ်တွေက ... အဆိုးဝါးဆုံးဖြစ်ပျက်ခဲ့တဲ့ အိမ်ခြံမြေဈေးကွက် ဆန့်တက်တာတွေ ပိုလုပ်ဖို့နဲ့ ဒီဆယ်စုနှစ်အတွင်း အဆိုးဝါးဆုံးဖြစ်ပျက်ခဲ့တဲ့ အိမ်ခြံမြေဈေးကွက် ပူဖေါင်းတွေ နောက်တစ်ခါထပ်မဖြစ်လာအောင် တားဆီးဖို့ ကတိကဝတ်ပြုခဲ့ကြတယ်။ ဒါပေမဲ့ စီးပွားရေးပညာရှင်တွေကတော့ ပူဖေါင်းတွေဟာ စီးပွားရေးတိုးတက်မှုရဲ့ ရှောင်လွှဲမရတဲ့ အစိတ်အပိုင်းပဲလို့ ပိုပြီးလက်ခံယုံကြည်လာကြတယ်။ လူသားတွေဟာ ဆင်ခြင်တုံတရားကင်းမဲ့ပြီး ရူးမြစ်ဟောကိန်းမထုတ်နိုင်သေးသရွေ့တော့ ဈေးကွက်ပူဖေါင်းတွေဟာလည်း လူ့ဘဝရဲ့ အမြဲတမ်းရှိနေမယ့် အစိတ်အပိုင်းတစ်ရပ် ဖြစ်နေဦးမှာပါပဲ။

အနှစ်ချုပ်အတွေးအခေါ်

လူတွေက ပူဖေါင်းတွေကို အရူးအမူး စွဲလမ်းကြတယ်

# ၄၅ – ငွေချေးရခက်ခဲလာခြင်း

## Credit crunches

$$C = SN(d_1)\ Le^{-rT} N(d_1 - \sigma\sqrt{T})$$

**ဒီညီမျှခြင်းဟာ E=mc² ဆိုတဲ့ညီမျှခြင်း နောက်ပိုင်းမှာ အန္တရာယ်အကြီးဆုံးညီမျှခြင်း တစ်ခုပါပဲ။ အဲလ်ဘတ်အိုင်းစတိုင်းရဲ့ ညီမျှခြင်းက ဟီရိုရှီးမားနဲ့ နာဂါဆာကီကိုနောက်ဆုံးမှာ အန္တရာယ်ဖြစ်စေခဲ့ သလိုပါပဲ၊ ဒီညီမျှခြင်းမှာလည်း နယူးကလီးယားဗုံးတစ်လုံးကျရောက်သလို ဘဏ္ဍာရေးဆိုင်ရာ အကျိုးသက်ရောက်မှုတွေ ဖြစ်စေတဲ့စွမ်းအားရှိတယ်။ ဒီညီမျှခြင်းက စတော့ဈေးကွက်အတက် အကျနဲ့ ဘဏ္ဍာရေးအကျပ်အတည်းတွေကို ဆက်တိုက်ဖြစ်စေသလို စီးပွားရေးထိုးကျပြီး လူပေါင်း များစွာ မိလိယံနဲ့ချီတဲ့ ဆုံးရှုံးနစ်နာမှုတွေကို ဖြစ်စေတယ်၊ ဒါက Black-Scholes ဖော်မြူလာဖြစ်ပါတယ်။**

ကျယ်ကျယ်ပြန့်ပြန့်ပြောရရင် ဘဏ္ဍာရေးဈေးကွက်တွေပြုမူပုံနဲ့ ပတ်သက်လို့ အတွေးအခေါ်ကိုက်နှစ်ပိုက်ရှိတယ်၊ တစ်ခုက လူသားတွေဟာ ကြောက်ရွံ့ရာကနေ လောဘကြီးလာတဲ့ဘက်ကို တိမ်းညွတ်လာလေ့ရှိတယ်လို့ ဆိုတယ်၊ ဒါကဈေးကွက် တွေကို အလွန်အကျွံအစွဲအလမ်းကြီးလာပြီး အစွန်းရောက်သွားတဲ့အခါ ဆင်မြင်တဲ့တဲ့ ကင်းမဲ့သွားတယ်လို့ ယူဆကြတယ်၊ ဒီအခြေအနေကို ကျွန်တော်တို့ဟာ ပူဖေါင်းတစ်လုံး ကနေ နောက်တစ်လုံးစီ အမြဲတမ်းသွားနေတာလို့ သုံးသပ်ကြတယ်။ ကြွေးသံသရာလည် နေတဲ့သဘောတရားပါပဲ။ ခေတ်ကောင်းနေချိန်မှာ ငွေကြေးတွေပေါ်များပြီးအလွယ်အငယ် ဖြစ်နေမှာဖြစ်တယ်။ အခါအားလျော်စွာပဲ ဒီလိုအချိန်မျိုးတွေမှာ ဘဏ်တွေက ငွေချေးခြင်း ကိုရပ်တန့်လိုက်တာကြောင့် ငွေချေးရခက်ခဲမှုတွေက ကြားဖြတ်ဝင်ရောက်နှောင့်ယှက်



လာတတ်တယ်။ ဒီအချိန်မျိုးမှာ ဘာပဲနိုင်ငံစီးပွားရေးအခြေအနေတွေကောင်းမှ အချိန်ခဏပြီး ရပ်တန့်လုနီးနီးဖြစ်သွားတတ်တယ်။

နောက်ထပ်ရှုထောင့်တစ်ခုကတော့ အချိန်ကြာလာတာနဲ့အမျှ ဈေးကွက်တွေဟာ သူတို့ဘာသာ ပြန်ပြင်ညှိရင်သွားတတ်တဲ့သဘောရှိတယ်လို့ ယူဆတယ်။ ဒီလိုနဲ့ ဈေးကွက်တွေဟာ ပိုပြီးဆီရောက်မှုရှိလာပြီး ကသောင်းကနင်းဖြစ်မှုတွေလည်း တဖြည်းဖြည်းလျော့နည်းသွား တတ်တယ်လို့ ဆိုတယ်။ ဒီသဘောတရားက ရေရှည်မှာ လူသားတွေဟာ သူတို့ဘာသာ တိုးတက်လာနိုင်တယ်ဆိုတဲ့ ယုံကြည်မှုအပေါ်မှာ အခြေခံတယ်၊ ဒီသဘောတရားတွေဟာ Myron Scholes နဲ့ Fischer Black တို့ တီထွင်ထားတဲ့ အံ့ဩဖွယ်ရာညီမျှခြင်းထဲမှာ ပါဝင်နေခဲ့တယ်။

Black-Scholes ညီမျှခြင်းက အပေါ်ယံကြည့်ရင်တော့ မဖြစ်နိုင်ဘူးလို့ ထင်စရာပါပဲ။ ဒါက အပေါ်ယံအပြင်ပန်းအရ ဆင့်ပွားဈေးကွက်တွေမှာ (အခန်း ၃၁ ကိုကြည့်ပါ) လက်မရွေ့ဘဲ ပြန်ဝယ်ပြန်ရောင်းဖို့ ဈေးနှုန်းနဲ့ ရက်စွဲတွေပါဝင်တဲ့ သဘောတူညီချက်တစ်ခု (option) ကို ဘယ်လိုဈေးနှုန်းသင့်မလဲဆိုတာ ဖော်ထုတ်ပေးတဲ့ နည်းလမ်းသက်သက်ပါပဲ။ ဒါပေမဲ့ ဒါတဈေးကွက်တွေမှာ သွယ်ဝိုက်ရှိတ်ခတ်မှုတွေက မထိနိုင်လောက်အောင်ရှိနေတယ်။ ဒါတဈေးကွက်တွေမှာ ရင်းနှီးမြှုပ်နှံသူတွေလုပ်ရမှု ပွန့်စားမှုကို ရှာလောက်တွက်ထုတ်ပေးတဲ့ သချာဖေါ်မြူလာ တစ်ခုပါပဲ။ ဒီညီမျှခြင်းကို လိုက်နာခြင်းက ရင်းနှီးမြှုပ်နှံသူတွေအနေနဲ့ စတော့ဈေးတွေ ကျဆင်းနေချိန်မှာ စတော့တွေကို ထုတ်ရောင်းလိုက်ခြင်းအားဖြင့် ဒီလိုယ်မဆုံးရှုံးရအောင် လုပ်ဆောင်နိုင်မှာဖြစ်တယ်၊ ကမ္ဘာတစ်လွှားက အထင်ကရရင်းနှီးမြှုပ်နှံသူကြီးတွေ အားလုံးနီးပါးက ဒီဖေါ်မြူလာကို လက်ခံကြတယ်။ ဒီဖေါ်မြူလာကို တီထွင်သူတွေဟာ ၁၉၉၇ မှာ စီးပွားရေးပညာနိုဗယ်ဆုကို ရခဲ့ကြတယ်။ ကံမကောင်းစွာပဲ ကျဉ်းထဲကျပ်ထဲ ရောက်တဲ့အခါ ဒီညီမျှခြင်းက အလုပ်မဖြစ်တော့ဘူး။ ဈေးနှုန်းတွေအလျင်အမြန်ကျဆင်း နေတာကြောင့် စတော့တွေ၊ ရှယ်ယာတွေ၊ ရင်းနှီးမြှုပ်နှံမှုတွေကို ဝယ်မယ့်သူမရှိတဲ့

### အချိန်ပြဇယား:

**၁၈၇၃** — ဗြိတိန်တွင်းဝစ်လွန်ကာလပူဖေါင်းတွေကြောင့် ထိတ်လန့်တုန်လှုပ်မှုတွေ ဖြစ်လာခြင်းက ယူအက်စ်မှာ ကာလကြာရှည် စီးပွားပျက်ကပ်ကြီးကို ဖြစ်စေခဲ့

**၁၉၂၉** — ဝေါစထရိခ် ငွေကြေးဈေးကွက်ပြိုကျမှုက ငွေဝေါလွယ်မှု အကျပ်အတည်းဖြစ်လာပြီး မဟာစီးပွားပျက်ကပ်ကြီးကိုအစပျိုးပေးခဲ့

**၁၉၈၇** — Black Monday (၁၉ အောက်တိုဘာလ) – ယူအက်စ်စတော့ဈေးကွက် ၂၂.၆ % ထိုးကျသွား

**၂၀၀၈** — ဘဏ္ဍာရေးအကျပ်အတည်းဖြစ်ပြီးနောက် ကမ္ဘာအနှံ့က ဈေးကွက်တွေ စီးပွားကျဆင်းခဲ့

## ငန်းနက်များ: Black swans

"ငန်းနက်" ဆိုတာ ကမ္ဘာလောကကြီးအပေါ် လူတွေရဲ့ ကြိုတင်နားလည်ထားမှုတွေကို ပြောင်းလဲသွားစေတဲ့ မျှော်လင့်မထားတဲ့ အဖြစ်အပျက်ကို ရည်ညွှန်းတာဖြစ်တယ်၊ ဒီဝေါဟာရဟာ ကုန်သည်ဟောင်း၊ စာရေးဆရာ Nassim Nicholas Taleb ကြောင့် လူသိများထင်ရှားလာခဲ့တယ်၊ ၁၇ ရာစုအကြို ဥရောပမှာ ငန်းတွေအားလုံးဟာ အဖြူရောင်ရှိတယ်လို့ ယူဆထားကြတယ်၊ ဩစတြေးလျမှာ ငန်းနက်တွေကို တွေ့ရှိမှုက ဒီအယူအဆကို ပြောင်းလဲသွားစေခဲ့တယ်၊ ဒီဖြစ်ရပ်က ငန်းနက်ဆိုတဲ့ဝေါဟာရကို ပေါ်ပေါက်လာစေခဲ့တာပဲ။

ဘဏ္ဍာရေးဈေးကွက်တွေမှာ ငန်းနက်ဖြစ်ရပ်ဆိုတာ ဈေးကွက်တွေကို ထိုးတက်၊ ထိုးကျသွားစေတဲ့ မျှော်လင့်မထားတဲ့ ကျပန်းဖြစ်ရပ်မျိုးပဲ၊ Taleb ကတော့ အင်တာနက်ခေတ် ပေါ်လာတာနဲ့ ၁၉၉၈ ခုနှစ်မှာ ရုရှားအစိုးရက ကြွေးပြန်ဆပ်ဖို့ ပျက်ကွက်ခဲ့တာတွေကို ငန်းနက်ဖြစ်ရပ်လို့ ဖော်ပြခဲ့တယ်။ အင်တာနက်တွေကြောင့် ဒေါ့ကွန်းစန်းပွင့်မှုဖြစ်ခဲ့ပြီး ရုရှားအစိုးရကြောင့် ကြီးမားတဲ့ကြွေးမြီအကျပ်အတည်းကြီး ဖြစ်ခဲ့တယ်။ နောက်တစ်ခုက ကမ္ဘာ့အကြီးဆုံး hedge fund အဖွဲ့တစ်ဖွဲ့ ဖြစ်တဲ့ Long-Term Capital Management ပြိုကျသွားတဲ့ဖြစ်ရပ်ဖြစ်ပြီး ၂၀၀၁ စက်တင်ဘာ ၁၁ တိုက်ခိုက်မှုဟာလည်း ငန်းနက်ဖြစ်ရပ်ပါပဲ။

အခြေအနေမျိုးမှာတော့ ဒီယူတွတ်ကျလာတဲ့ ညီမျှခြင်းက တွက်မရတော့ဘဲ ပျက်သွားခဲ့တယ်။

စီးပွားရေးသီအိုရီတွေအားလုံးမှာ ကြုံရသလိုပါပဲ၊ ညီမျှခြင်းအတွက်ပြဿနာက ဈေးကွက်တွေဟာ အစကနဦးကာလ နောက်ပိုင်းမှာ ဆင်ခြင်တုံတရားကင်းမဲ့စွာ ပြုမူကြတာပဲ ဖြစ်တယ်။ ဒီတော့ကာ စီးပွားရေးအတက်အကျဆိုတာ ဈေးကွက်အရင်းရှင်ဝါဒမှာ ရှောင်လွှဲမရတဲ့အရာပါပဲ (အခန်း ၃၀ ကိုကြည့်ပါ)။

### စီးပွားရေးစန်းပွင့်မှုကနေ ပြိုကျမှုအထိ အဆင့်များ

ဘဏ္ဍာရေးဈေးကွက်တွေဟာ စီးပွားရေးအခြေအနေကောင်းတွေကနေ လုံးဝခွဲထုတ်လို့



ရနိုင်တဲ့ဈေးကွက်တွေပဲဖြစ်တယ်၊ ငွေချေးရမလွယ်ရင် လုပ်ငန်းတွေ၊ လူတွေဟာ အနာဂတ်အတွက် ရင်းနှီးမြှုပ်နှံမှုတွေလုပ်နိုင်တော့မှာ မဟုတ်ဘူး။ လုံလုံလောက်လောက် ငွေချေးလို့မရဘဲ၊ ငွေချေးရခက်ခဲလာခြင်းက စီးပွားရေးကျဆင်းမှုဆီ ဦးတည်သွားနိုင်တယ်၊ လူတွေဟာ ရင်းနှီးမြှုပ်နှံမှုနဲ့ ဥစ္စာဓနရှာဖွေမှုတွေကို ရပ်တန့်လိုက်တာကြောင့် ပိုပြီးဆိုးဝါးတဲ့ ဒီဖလေးရှင်းနဲ့ စီးပွားပျက်ကပ် အခြေအနေအထိပါ ဦးတည်သွားနိုင်တယ်၊ လောဘနဲ့ ကြောက်ရွံ့မှုကြားမှာ ငွေကြေးဈေးကွက်တစ်ခု ဘယ်လိုယိမ်းထိုးလှုပ်ရှားနေတယ်ဆိုတာကို သဘောပေါက်နားလည်ခြင်းက ခေတ်သစ်စီးပွားရေးတစ်ရပ် လည်ပတ်အလုပ်လုပ်နေပုံကို နားလည်ဖို့ အဓိကကျတဲ့အရာပါပဲ။

> "တေးသွားကို တီးခတ်နေသရွေ့တော့ ခင်ဗျားထတ်ပြီး ကခုန်နေရမှာပါပဲ၊ ကျွန်တော်တို့လည်း ကခုန်နေဆဲပါပဲ၊"
>
> **Chuck Prince, chief executive of Citigroup until 2007**

စီးပွားရေးစန်းပွင့်နေရာကနေ ပြိုကျချိန်အထိ ဘဏ္ဍာရေးဈေးကွက်တွေဟာ အောက်ဖော်ပြပါ အဆင့်ငါးဆင့်ကို ဖြတ်သန်းသွားရတယ်။

**အရွှေ့(Displacement)**။ ရင်းနှီးမြှုပ်နှံသူတွေရဲ့ ဈေးကွက်နဲ့ ပတ်သက်တဲ့ အမြင်တွေကို ပြောင်းသွားစေတဲ့ အဖြစ်အပျက်မျိုးဖြစ်တယ်။ ၁၉၉၀ နှောင်းပိုင်းနှစ်တွေမှာ အင်တာနက်အပေါ် လူတွေမြင်တဲ့အမြင်မျိုးပေါ့။ ဒေါ့ကွန်းပြိုကျမှု မဖြစ်ခင်အထိ လူတွေဟာ အင်တာနက်ကနေ အကန့်အသတ်မဲ့ ငွေရှာနိုင်တယ်လို့ ယုံကြည်ခဲ့ကြတာမျိုးဖြစ်တယ်။ ၂၀၀၀ နှစ်တွေရဲ့ အစောပိုင်းမှာ အတိုးနှုန်းတွေကလည်းကျ၊ ငွေကြေးဖေါင်းပွမှုကလည်းကျခဲ့တယ်၊ ဒါက လူတွေကို ငွေပိုချေးယူဖို့နဲ့ အိုးအိမ်ဈေးကွက်မှာ ရင်းနှီးမြှုပ်နှံဖို့ ဆွဲဆောင်ခဲ့တယ်။

**နေ့မွန်းခိုန် (Boom)**။ ပါရာဒိုင်းအသစ်လို့ ခေါ်ကြတဲ့အပေါ်မှာ ပြောခဲ့တဲ့ အရွှေ့မျိုးကနေရမယ့် အကျိုးခံစားရမှုတွေနဲ့ ပတ်သက်ပြီး လူတွေရဲ့ မျှော်လင့်ချက်တွေက ဖွင့်ထားရကျိုးနပ်မယ်လို့ ယူဆကြတာပဲဖြစ်တယ်။ ဥပမာ - ၁၉၉၀ နှစ်တွေမှာ အင်တာနက် စတော့ရှယ်ယာတွေကို ဝယ်ထားတဲ့သူတွေက သူတို့ရဲ့ရင်းနှီးမြှုပ်နှံမှုတွေဟာ ဈေးတက်မှာပဲလို့ မြင်ကြတယ်၊ ဒီလိုယုံကြည်မျှော်လင့်ချက်တွေရှိနေတာကြောင့် အဲ့ဒီအချိန်မျိုးတွေမှာ အရောင်းအဝယ်ကောင်းတယ်၊ ဈေးကွက်စန်းပွင့်နေတဲ့အချိန်ဖြစ်တယ်။

ဝမ်းမြောက်ရွှင်လန်းချိန် (Euphoria)။ စိတ်လှုပ်ရှားပျော်ရွှင်နေတဲ့ ကာလဖြစ်တယ်။ ဘဏ်တွေကလည်း အမြတ်အစွန်းတွေ ပိုရဖို့ နည်းလမ်းပေါင်းစုံသုံးပြီး ငွေတွေကို ထုတ်ချေးကြတယ်။ တစ်ခါတစ်ရံမှာ ဒီလိုငွေထုတ်ချေးရေးဟာ အဆင်ပြေအောင် ဘဏ္ဍာရေးကိရိယာအသစ်တွေကိုတောင် တီထွင်ဖန်တီးကြတယ်။ ၁၉၈၀ နှစ်တွေမှာ ပေါ်ခဲ့တဲ့ ယုံကြည်စိတ်ချရမှုမရှိတဲ့ junk bonds တွေနဲ့ ၂၀၀၀ အစောပိုင်းနှစ်တွေမှာ အပေါင်စာချုပ်တွေကို အာမခံစာချုပ်အသွင်ပြောင်းပြီး ရောင်းချခဲ့တဲ့ တီထွင်မှုမျိုးတွေဖြစ်တယ်။ ပုံမှန်ရင်းနှီးမြှုပ်နှံသူကနေ တက္ကစီဒရိုင်ဘာအထိ လူတိုင်းဟာ ဈေးကွက်ထဲကို ဒိုင်ဝင်ထိုးပြီး ဝင်ရောက်နေတဲ့အချိန်ပဲ၊

အမြတ်ရယူချိန် (Profit-taking)။ ပါးနပ်တဲ့ ရင်းနှီးမြှုပ်နှံသူတွေဟာ သူတို့ရဲ့ရင်းနှီးမြှုပ်နှံမှုတွေကို တစ်ချိန်လုံးကိုင်မထားဘဲ ရောင်းထုတ်ရတော့မယ့် ရက်တရက်သိမြင်ကြတယ်။ သူတို့တွေလည်း စရောင်းရော ဈေးကလည်း ပထမဆုံးအကြိမ်ပြီး ကျလာပါလေရော၊

ကြောက်လန့်ခြောက်ခြားချိန် (Panic)။ ဈေးနှုန်းတွေလည်း ကျလာရော၊ ကြောက်ရွံ့ထိတ်လန့်မှုတွေလည်း စတင်ကျယ်ပြန့်လာတော့တာပါပဲ၊ လူတွေလည်း သူတို့ရင်းနှီးမြှုပ်နှံထားမှုတွေကို ကြောက်ကြောက်ရွံ့ရွံ့နဲ့ အပြေးအလွှားအစုအပြုံလိုက် ရောင်းချကြတော့တယ်။ ဈေးတွေကလည်း ပိုပြီးထိုးကျလာလေရော့။ ဘဏ်တွေကလည်း ကြွေးပြန်ဆပ်မယ်လို့ စိတ်အချရဆုံးသူတွေကလွဲရင် ဘယ်သူ့ကိုမှ ငွေထုတ်မချေးတော့ဘူး။

စီးပွားရေးပညာရှင် Hyman Minsky တင်ပြခဲ့တဲ့ ဒီအဆင့်ငါးဆင့်ဟာ သမိုင်းတစ်လျှောက်လုံး ထပ်တလဲလဲ ဖြစ်နေခဲ့တယ်။ ဖြစ်တဲ့အကြိမ်တိုင်းမှာ မူလအခြေနဲ့ စန်းပွင့်မှုတွေကတော့ တစ်မျိုးနဲ့တစ်မျိုး ကွဲပြားမှုတွေရှိတယ်။ သမိုင်းဟာ ထပ်ကျော့လည်ပတ်တတ်တယ်ဆိုတဲ့ သဘောတရားရှိပေမယ့် ဒီလိုဖြစ်ပွားမှုတွေကတော့ အကြိမ်တိုင်းမှာ မမှတ်မိနိုင်လောက်အောင် ပုံဖျက်ပြီးရောက်လာတာဖြစ်တယ်။ ပြဿနာက ဈေးကွက်တစ်ခု တုန်လှုပ်ခြောက်ခြားချိန်ရောက်တဲ့အခါ အကျိုးရလဒ်က ငွေပေါ်မှုဆိုင်ရာ အကျပ်အတည်းဆိုက်လာတာပဲဖြစ်တယ်။

## မင်စကီး အခိုက်အတန့်

တုန်လှုပ်ခြောက်ခြားချိန်ဆိုတဲ့ အဆင့်ရောက်ချိန်မှာ အက်ဆက်တွေရဲ့တန်ဖိုးတွေက



❝ ခင်ဗျားကြွေးကင်းကင်းနဲ့နေနိုင်ချိန်ထက်ကို ဈေးကွက်က ပိုပြီး ဆင်ခြင်တုံတရားကင်းမဲ့နေနိုင်တယ်။ ❞

ဂျွန်မေးနတ်ကိန်း

အလျှင်အမြန်ကို ထိုးကျသွားတော့တာပဲ။ အိမ်ဈေးနှုန်းတွေဆိုရင် လူတွေမူလဝယ်ယူစဉ်က ယူခဲ့ရတဲ့ချေးငွေပမာဏအောက်ကိုတောင် ဈေးက ကျဆင်းသွားတာမျိုးတွေကြုံရတယ်။ ဘဏ်တွေအနေနဲ့ သူတို့ရဲ့ချေးငွေတွေကို ပြန်လည်ရယူဖို့ကြိုးပမ်းလာကြတယ်၊ ရှုံ့တာရင်းနှီးမြှုပ်နှံထားရတဲ့ အက်ဆက်တွေက ပြန်ရောင်းရလာတာကြောင့် ဈေးလျှော့ပြီး ပြန်ရောင်းလာရတယ်၊ ဒီလိုနဲ့ ဈေးတွေက ပိုပိုပြီး ကျကျလာတော့တာပါပဲ။ ဒီအဆိုးကျော့သံသရာ စက်ဝန်းကို "မင်စကီးအခိုက်အတန့်" လို့လည်း ခေါ်ကြတယ်။

တုန်လှုပ်ခြောက်ခြားနေတာနဲ့ အရှုံးအမှားဖြစ်နေတာလို အပြုအမူမျိုးကို ဆင်ခြင်တုံတရားကင်းမဲ့နေတဲ့ အပြုအမူတွေလို့ မြင်ကြတယ်၊ သမားရိုးကျ ဘောဂဗေဒက ဆင်ခြင်တုံတရားမရှိတဲ့ အပြုအမူဆိုတာကို လက်မခံခဲ့တာကြောင့် ဈေးနှုန်းတွေ ထိုးတက်၊ ထိုးကျလာတဲ့အပေါ် ရောဂါမကျွမ်းခင်မှာ ချဉ်ယှဉ်းချက်ကို ရှာဖွေဖော်ထုတ်ဖို့ နှောင့်နှေးကြန့်ကြာနေတတ်တယ်။ Black-Scholes ညီမျှခြင်းက ဈေးနှုန်းတွေဟာ ဆွဲဆောင်မှုရှိတဲ့အဆင့်အထိ ကျဆင်းသွားမှသာလျှင် ရှယ်ယာတစ်ခု၊ ဒါမှမဟုတ် ရင်းနှီးမြှုပ်နှံမှုတစ်ခုခုအတွက် ဝယ်လိုအားရှိလာလိမ့်မယ်ဆိုတာကို ဖော်ပြခဲ့ပေမယ့်၊ အကျပ်အတည်းဖြစ်နေစဉ်ကာလမှာ ဆင်ခြင်တုံတရားမရှိတဲ့ အပြုအမူတွေကို ရှင်းပြဖို့တော့ မတတ်နိုင်ခဲ့ဘူး။ စွန့်စားမှုကနေ တစ်နည်းနည်းနဲ့ လွတ်မြောက်နိုင်တယ်လို့ လူတွေရဲ့ယုံကြည်မှုလွန်ကဲခြင်းကို များစွာသောမိုဒယ်တွေ၊ ညီမျှခြင်းတွေက ပိုပြီး အားပေးသလိုဖြစ်နေတယ်၊ ဘာပဲဖြစ်ဖြစ် ဘဏ္ဍာရေးလောကဆိုတာတော့ အန္တရာယ်များပြီး စွန့်စားရတဲ့နယ်မြေပါပဲ၊

## အနှစ်ချုပ်အတွေးအခေါ်

ချေးငွေတွေပေးနိုင်တော့တဲ့အခါ စီးပွားရေးတွေလည်း တုံ့ဘနဲ့ ရပ်သွားတယ်

# ၃၆ – တီထွင်ဖန်တီးမှုရှိသော အဖျက်စွမ်းအား

## Creative destruction

ချားလ်ဒါဝင်ရဲ့ ဆင့်ကဲတိုးတက်မှုသဘောတရားဟာ အရေးပါတဲ့ သိပ္ပံနည်းကျ တွေ့ရှိမှုတစ်ရပ်လို့ ကျယ်ကျယ်ပြန့်ပြန့် လက်ခံထားခဲ့ကြတယ်။ ဒီတွေ့ရှိမှုဟာ အိုင်ဆက်နယူတန်ရဲ့ ကမ္ဘာ့ဆွဲအားနဲ့ ရွေ့လျားမှုနိယာမတွေ့ရှိမှုလို၊ ကမ္ဘာကြီးက နေကို လှည့်ပတ်နေကြောင်း ကော့ပါးနီးကပ်စ်ရဲ့ နားလည်သဘောပေါက်မှုလို အရေးပါတဲ့ အသစ်တွေ့ရှိမှုတစ်ရပ်ပါပဲ။ ဒါပေမဲ့ ဆင့်ကဲတိုးတက်ပြောင်းလဲမှုသဘောတရားဟာ စီးပွားရေးပညာအတွက် ဟုတ်၊ မဟုတ်ဆိုတာ ဒါဝင်ကိုယ်တိုင် သိမြင်နားလည်ချင်မှ နားလည်သွားလိမ့်မယ်ဆိုတာကိုတော့ လူအနည်းအကျဉ်းလောက်ကပဲ သဘောပေါက်ကြတာပါ။

လိုက်ရောညီတွေအဖြစ်ဆုံး မျိုးစိတ်တွေသာ ရှင်သန်နိုင်ပြီး ပိုရှင်ထွေးဆန်းပြားတဲ့ ပိုပြီးကောင်းမွန်အောင်မြင်ဆင်ထားတဲ့ မျိုးစိတ်သစ်တွေအဖြစ်ပေါ်ထွက်လာခဲ့တဲ့ ကမ္ဘာလောကကြီးအကြောင်းကို စိတ်ကူးနဲ့ မှန်းဆကြည့်ဖို့ တောမတ်စ်ပေးလ်သန်ရဲ့ အရေးအသားတွေက ၁၈၃၈ ခုနှစ်မှာ ဒါဝင်ကို စေ့ဆော်ပေးခဲ့တယ် (အခန်း ၃ ကိုကြည့်ပါ)၊ သူက "နောက်ဆုံးမှာတော့ အလုပ်ဖြစ်တဲ့ သီအိုရီတစ်ခုကို ရခဲ့တယ်" လို့ဆိုတယ်။ ဒါတွေကို လေ့လာကြည့်ရင် သဘာဝလောကကြီးကိုရော လွတ်လပ်တဲ့ ဈေးကွက်စီးပွားရေးကိုပါ ပုံဖော်နေတဲ့အင်အားစုတွေဟာ မယုံနိုင်စရာကောင်းလောက်အောင် ဆင်တူနေတာတွေ့ရမယ်။

### စီးပွားရေး တောရိုင်းဥပဒေသ

သဘာဝလောကကြီးလိုပဲ၊ လွတ်လပ်တဲ့ဈေးကွက်တွေဟာလည်း ရိုင်းစိုင်း။

**အချိန်ပြဇယား:**

**၁၈၈၃**
ဂျိုးဇက် ရှန်ပီတာကို မွေးဖွား



ရက်စက်၊ ကြမ်းတမ်းပြီး အန္တရာယ်ရှိနိုင်ပါတယ်၊ တခါတစ်ရံမှာ လွတ်လပ်တဲ့ ဈေးကွက်တွေက ပင်ကိုစွမ်းရည်ရှိပြီး လေးစားထိုက်တဲ့ ပုဂ္ဂိုလ်တွေကိုတောင် ဆုံးရှုံးနစ်နာမှုတွေဖြစ်စေပါတယ်။ ဈေးကွက်တွေဟာ သည်းခံတတ်ကြဘူး၊ အိုင်ဒီယာတစ်ခုမအောင်မြင်လိုက်ရင် ဘက်တွေတောင် ခေါ်လို့မရနိုင်သလို၊ ရင်းနှီးမြှုပ်နှံမှုအများအပြားတစ်ခုလည်း အရာရာကို ဆုံးရှုံးနိုင်ပါတယ်။ ဒါပေမဲ့ တီထွင်ဖန်တီးမှုရှိတဲ့ အဖျက်စွမ်းအားနိယာမကတော့ ဆုံးရှုံးနစ်နာမှုတွေက အဆုံးမှာ ပိုပြီးနိုင်မာတောင့်တင်းတဲ့ ကုမ္ပဏီတွေ၊ ပိုပြီးနိုင်မာတောင့်တင်းတဲ့ စီးပွားရေးစနစ်တွေနဲ့ ပိုပြီးချမ်းသာကြွယ်ဝတဲ့ လူ့အဖွဲ့အစည်း တွေကို ဖြည့်ဆည်းပေးနိုင်တယ်လို့ ဆိုတယ်။ အကြောင်းက ဆုံးရှုံးနစ်နာမှုတွေက ထိရောက်မှုမရှိ၊ ပြိုင်ဆိုင်မှုမရှိတဲ့ နည်းလမ်းဟောင်းတွေကို ဖယ်ရှားပစ်ပြီး နိုင်မာတောင့်တင်းပြီး မြူကြွသစ်လွင်တဲ့ နည်းလမ်းတွေကို အစားထိုးပေးနိုင်တာကြောင့်ပါပဲ။

ဒါက အဒမ်စမစ်ခေါင်းပြခဲ့တဲ့ ရောင်းလိုအားနဲ့ ဝယ်လိုအားဥပဒေသတွေကို ခွဲထွင်ခဲ့တာဖြစ်တယ်။ ၂၀ ရာစုမှာ ဩစတြီးယန်းစီးပွားရေးပညာရှင်တွေ တီထွင်ခဲ့တဲ့ တီထွင်ဖန်တီးမှုရှိတဲ့ အဖျက်စွမ်းအားနိယာမက နောက်ထပ်ခြေလှမ်းသစ်တစ်လှမ်း ထပ်လှမ်းခဲ့တယ်။ လုပ်ငန်းတွေ အမြတ်ကျဆင်းပြီး အလုပ်လက်မဲ့နှုန်းတွေမြင့်တက်လာတဲ့ စီးပွားရေးကျဆင်းမှုပဲဖြစ်ဖြစ်၊ စီးပွားရေးအကျဘက်အလှည့်အပြောင်းပဲဖြစ်ဖြစ် ရေရှည်မှာ စီးပွားရေးတစ်ရပ်ကို အကောင်းဘက်ကို ရွှေ့သွားစေနိုင်တယ်လို့ သူတို့က အခိုင်အမာဆိုခဲ့တယ်။

> ❝ စက်မှုလုပ်ငန်းဆိုင်ရာသနေ့ပြောင်းဖြစ်စဉ်ဟာ စီးပွားရေးအဆောက်အအုံကို အတွင်းထဲကနေ အမြဲတမ်းတော်လှန်ပြောင်းလဲနေတယ်၊ အဟောင်းတွေကို မနားတမ်းဖျက်ဆီးပစ်နေပြီး အသစ်တွေ အမြဲတမ်းဖန်တီးပေးနေတယ်။ တီထွင်ဖန်တီးမှုရှိတဲ့ ဒီအဖျက်စွမ်းအားဖြစ်စဉ်ဟာ အရင်းရှင်စနစ်အတွက်တော့ ဗဟိုပြုအရေးပါတဲ့အချက်ပါပဲ။ ❞
>
> ဂျိုးဇက် ရှန်ပီတာ

**၁၉၃၀**
မဟာစီးပွားပျက်ကပ်ကြီးကြောင့် ရာထောင်ရှိတဲ့ စီးပွားရေးလုပ်ငန်းတွေ ဆုံးရှုံးနစ်နာရ

**၁၉၄၂**
ရှန်ပီတာက သူ့ရဲ့ Capitalism, Socialism and Democracy စာအုပ်ထဲမှာ တီထွင်ဖန်တီးမှုရှိတဲ့ အဖျက်စွမ်းအား အိုင်ဒီယာကို လူအများနားလည်အောင်ရှင်းပြ

## ဂျိုးဇက် ရှန်းပီတာ ၁၈၈၃ – ၁၉၅၀

ရှန်းပီတာရဲ့ဖခင်က အထည်ချုပ်စက်ရုံပိုင်ရှင်ပါ။ ချက်ကိုသမ္မတ နိုင်ငံဖြစ်လာမယ့် သူ့အဖေမနောက်အိမ်ထောင်ပြုတဲ့ အခါ သူဟာ ဩစတြီးယား ဗီယင်နာကို ပြောင်းရွှေ့ခဲ့တယ်။ အထက်တန်းလွှာမျိုးရိုးက ဆင်းသက်လာတဲ့ သူ့မိခင်ရဲ့နောက်ယောက်ျားက သူ့ကို တောလိပ်ကျောင်းကောင်းကောင်းမှာ ဝင်ခွင့်ရဖို့ ကူညီပေးခဲ့တယ်၊ သူဟာ သိပ်မကြာခင်မှာပဲ ထူးချွန်တဲ့ကျောင်းသား တစ်ယောက်အဖြစ် ထင်ပေါ်လာခဲ့တယ်၊ သူဟာအဖေပိုင်းမှာ တက္ကသိုလ်တွေမှာ စီးပွားရေးပါမောက္ခလုပ်ခဲ့ပြီး ပထမကမ္ဘာစစ်ကြီး အပြီးမှာတော့ ဩစတြီးယားနိုင်ငံရဲ့ ဘဏ္ဍာရေး ဝန်ကြီးဖြစ်လာခဲ့တယ်၊ နောက်ဆုံး ၁၉၂၀ မှာတော့ ရှန်းပီတာဟာ Biederman ဘဏ်ရဲ့ ဥက္ကဋ္ဌ တစ်ယောက်ဖြစ်လာခဲ့တယ်။ ဒါပေမဲ့ ၁၉၂၄ မှာ ဘဏ်ပြိုလဲခဲ့ပြီး သူဟာ ဘဏ်လုပ်ငန်း နယ်ပယ်ကနေ ပညာရေးနယ်ပယ်ထဲကို ပြန်ရောက်လာခဲ့တယ်၊ ၁၉၃၀ နှစ်တွေမှာ နာဇီဝါဒခေါင်းထောင်လာတာကြောင့် သူဟာ အမေရိကကို ထွက်ခွာခဲ့တယ်။ အမေရိကမှာ ထိပ်တန်းပညာရှင်တစ်ယောက်အဖြစ် ခပ်မြန်မြန်ပဲ အသိအမှတ်ပြုခံခဲ့ရတယ်၊ ဟားဗတ်တက္ကသိုလ်မှာပဲ တောက်လျှောက်အလုပ်လုပ်နေခဲ့ပြီး ဆရာတွေရော၊ ကျောင်းသားတွေကြားမှာပါ ရေပန်းစားခဲ့သူဖြစ်တယ်။ ၁၉၄၀ နှစ်တွေမှာ သူဟာ အမေရိကရဲ့အကျော်ကြားဆုံးစီးပွားရေး ပညာရှင်တွေထဲက တစ်ယောက်ဖြစ်ခဲ့ပြီး ၁၉၄၈ မှာ အမေရိကန်စီးပွားရေးအသင်းကြီးရဲ့ ဥက္ကဋ္ဌဖြစ်လာခဲ့တယ်။

ဒီလိုနိုင်မာတဲ့ အဆိုပြုချက်ကို ဂျိုးဇက်ရှန်းပီတာက လိုက်လိုက်လှဲလှဲထောက်ခံခဲ့တယ်။ ရှန်းပီတာဟာဩစတြီးယန်းတစ်ယောက်ဖြစ်ပြီး နာဇီတွေရဲ့ နှိပ်စက်ညှဉ်းပန်းမှုကနေ လွတ်မြောက်အောင် အမေရိကန်ပြည်ထောင်စုမှာ ပြောင်းရွှေ့အခြေချခဲ့တာဖြစ်တယ်။ စီးပွားရေးကျဆင်းမှုတွေကို မရှောင်လွှဲသင့်ဘူးဆိုတဲ့ သူ့ရဲ့သဘောထားက အရင်ကရော အခုအထိပါအငြင်းပွားဖွယ်ရာဖြစ်ခဲ့တယ်၊ အဲ့ဒီအချိန်က စီးပွားရေးပညာရှင်အများစု (အခုအချိန်မှာတော့ နိုင်ငံရေးသမားအများစုကပါ) ထောက်ခံခဲ့တဲ့ အယူအဆက မူဝါဒချမှတ်သူတွေဟာ စီးပွားရေးကျဆင်းမှု၊ အထူးသဖြင့် စီးပွားပျက်ကပ်ကို ရှောင်ရှားနိုင်ဖို့ ဖြစ်နိုင်သမျှအရာအားလုံးကို လုပ်ဆောင်ရမယ်လို့ မြင်ခဲ့ကြတယ်၊ အထူးသဖြင့် ဂျွန်မေးနတ်ကိန်းက စီးပွားရေးကျဆင်းမှုတွေဟာ အလုပ်လက်မဲ့ဖြစ်မှုနဲ့ ယုံကြည်မှုကျဆင်း



လာမှုတွေကြောင့် သိသာထင်ရှားတဲ့ ပျက်စီးဆုံးရှုံးမှုတွေကို ဆက်စပ်ဖြစ်ပွားစေနိုင်တယ်လို့ ဆိုတယ်။ အစိုးရအနေနဲ့ စိတ်တိုင်းကျစီမံနိုင်တဲ့ အတိုးနှုန်းလျှော့ချမှုမျိုးတွေနဲ့ စီးပွားရေးကို လှုပ်နှိုးဖို့ ပြည်သူ့ဘဏ္ဍာငွေတွေကို သုံးစွဲပစ်တာမျိုးတွေလို နည်းလမ်းမျိုးတွေနဲ့ စီးပွားရေးကျဆင်းမှုတွေကို တိုက်ဖျက်သင့်တယ်လို့ သူကပြောဆိုခဲ့တယ်။

မြှင့်ဆိုင်မှုတွေ အပြည့်အဝရှိပြီး ရောင်းလိုအားဝယ်လိုအားတွေကလည်း အနည်းနဲ့ အများဆိုသလို တည်ငြိမ်နေတယ်လို့ လက်ခံထားတဲ့ ရှပ်ထွေးတဲ့ ကွန်ပြူတာမိုဒယ်တွေအပေါ်မှာ စီးပွားရေးပညာရှင်အများစုက ထုံးစံအတိုင်း မှီခိုအားထားကြတယ်။ ရှန်းပီတာက လူ့အဖွဲ့အစည်းတွေထဲမှာဖြစ်နေတဲ့ မတည်ငြိမ်တဲ့ အခြေအနေတွေကို နည်းနည်းလေးတောင် ပုံဖမ်းလို့ မရနိုင်ဘူးလို့ ဆိုတယ်။

တိုက်ရိုက်ချေပနိုင်ဖို့ မရှိတဲ့ ရှန်းပီတာရဲ့ ငြင်းခုံမှုဟာ နိုင်နိုင်မာမာကို ထိန်းထားနိုင်ခဲ့တယ်။ ဒါကြောင့် ထင်ရှားတဲ့ စီးပွားရေးပညာရှင်တွေဖြစ်တဲ့ DeLong နဲ့ Larry Summers တို့က ကိန်းဟာ ၂၀ ရာစုမှာသာ အရေးအပါဆုံး စီးပွားရေးပညာရှင်တစ်ယောက်ပါ၊ ရှန်းပီတာကတော့ ၂၁ ရာစုရဲ့အရေးအပါဆုံးဆိုတာ ကောင်းကောင်းသက်သေပြပါလိမ့်မယ်လို့ ဆိုခဲ့တယ်။

### စီးပွားရေးကျဆင်းမှုကို ကျော်ဖြတ်၍ ပြန်လည်ရှင်သန်ခြင်း

ပုံမှန်နှုန်းတစ်ခုနဲ့ ရွေ့နေတာမျိုးထက် စီးပွားရေးတွေဟာ စမ်းပွင့်လိုက်၊ ပြန်ကျလိုက်နဲ့ အတက်အကျသံသရာထဲမှာ လည်နေတာများပါတယ် (အခန်း ၃၁ ကိုကြည့်ပါ)။ စီးပွားရေးစမ်းပွင့်နေချိန်မှာ စားသုံးသူတွေဟာ ပုံမှန်ထက် ငွေတွေပိုသုံးကြပြီး ငွေတွေလည်း ပိုပြီးချေးယူကြတာကြောင့် လုပ်ငန်းတွေဟာ ခါတိုင်းထက်ငွေရှာရပိုလွယ်ကြတယ်၊ ဒီဖြစ်စဉ်မျိုးက ခေတ်မကောင်းတဲ့အချိန်တွေမှာ အစကတည်းက ဖွဲ့စည်းမှုတောင့်တောင်းမကောင်းမတည်ဆောက်နိုင်ခဲ့တဲ့ ခပ်ရှာရှာကုမ္ပဏီတွေဆီကို သွေးဆောင်ခေါ်ယူသွားလိမ့်မယ်လို့ ရှန်းပီတာက ဆိုတယ်။

စီးပွားရေးကျလာပြီး လူတွေအသုံးလျှော့လာတဲ့ အခြေအနေမှာတော့ အဲ့ဒီခပ်ချာချာ ကုမ္ပဏီတွေဟာ ဒေဝါလီခံရတော့တာပါပဲ၊ ရေတိုမှာတင် အထိနာသွားကြပြီး ဒီဖြစ်စဉ်က ရင်းနှီးမြှုပ်နှံသူတွေကို စီးပွားရေးရဲ့တခြားပိုပြီးထိရောက်တဲ့နေရာတွေမှာ

## ဈေးအတက်၊ အကျ

အိမ်ခြံမြေထက် ပိုပြီးစိတ်ချရတဲ့ ရင်းနှီးမြှုပ်နှံမှုက နည်းနည်းပဲရှိတယ်လို့ အမြဲတမ်း ပြောဆိုထားတတ်ကြတယ်။ ၁၉၇၅ ကတည်းက ယူနိုက်တက်ကင်းဒမ်းက အိမ်ခြံမြေ ဈေးနှုန်းတွေဟာ နှစ်စဉ်ပျမ်းမျှအစစ်အမှန်နှုန်း ၃ ရာခိုင်နှုန်းနီးပါးလောက်နဲ့ တက်နေခဲ့တယ် (ငွေကြေးဖောင်းပွမှုကို ဖယ်ရှားပြီးသားလို့ ဆိုလိုတယ်)။ ဒါပေမဲ့ အိမ်ခြံမြေဈေးတွေရဲ့အနေအထားက အကြောင်းတရားတွေအများကြီး အပေါ် မှီခိုထားရတယ်။ ပထမတစ်ခုက အိမ်တည်ရှိတဲ့ မြေနေရာရဲ့တန်ဖိုးရှိနေတယ်။ မြေဝယ်လိုအားတက်လာရင် (ဒါမှမဟုတ် မြေရရှိနိုင်မှုကို အကန့်အသတ်နဲ့ ထိန်းချုပ်ထားရင်) မြေဈေးတွေတက်လာမှာပါပဲ။ အလားတူပါပဲ၊ အိမ်၊ တိုက်ခန်း တွေအရေအတွက်ရဲ့ ရောင်းလိုအား ရုတ်တရက်တိုးလာရင်လည်း ဈေးတွေက ကျသွားမှာပါပဲ။ စီယာဇီမှာ ၂၀၀၈ ခုနှစ်က အိမ်ဈေးတွေအလွန်အမင်း ကျဆင်းသွားရတာရဲ့ နောက်ကွယ်က အကြောင်းတစ်ချက်ကတော့ အိမ်ယာစီမံကိန်းသစ်တွေ အလျှံအပယ် အပြိုင်အဆိုင်ဖြစ်လာတာကြောင့်ပါပဲ၊

ယေးလ်တက္ကသိုလ်က စီးပွားရေးပါမောက္ခ၊ ထင်ရှားတဲ့ အိမ်ခြံမြေဈေးကွက် ကျွမ်းကျင်သူ Robert Schiller က အဆောက်အအုံ ဆောက်လုပ်တာ၊ စီမံကိန်းရေး ဆွဲတာတွေအပေါ် ကြီးမားတဲ့ ကန့်သတ်ချုပ်ချယ်မှုတွေရှိတဲ့ ဒေသတွေမှာ အိမ်ဈေးတွေ ပိုပြီးတက်လေ့ရှိတယ်လို့ ထောက်ပြတယ်။ တင်းကျပ်တဲ့ စီမံကိန်းဆိုင်ရာကန့်သတ်ချက်တွေ ပိုများတဲ့ကယ်လီဖိုးနီးယားနဲ့ ဖလော်ရီဒါပြည်နယ်တွေမှာ အိမ်ဈေးနှုန်းတွေဟာ တစ်ဟုန်ထိုးတက်လာပြီးရင် ပြန်ပြီး ထိုးကျသွားတယ်။ ကန့်သတ်ချက်တွေနည်းတဲ့ ပေါ်စတန်နဲ့ တက္ကဆက်ပြည်နယ်တွေမှာတော့ ရေရှည်မှာ ဈေးနှုန်းက တိုးတယ်ဆိုရုံလောက် လေးပဲ တိုးတက်တဲ့သဘာဝရှိတယ်၊

> ကျွန်တော်ဟာ အိမ်ခြံမြေအကျိုးဆောင်လုပ်ငန်း ကနေ ငွေတွေတစ်ပုံတစ်ခေါင်းကြီးရလိုက်တယ်။ ဖေါ်လ်စထရိစ်ကိုသွားမယ့်အစား အိမ်ခြံမြေအကျိုးဆောင်လုပ်ပြီးပဲ ၂၈ ရာခိုင်နှုန်းလောက် ယူလိုက်တော့မယ်။
>
> Ivana Trump

ဒီလိုရေရှည်မှာ ဈေးနှုန်းတွေတိုးသွားတာမျိုးက ရေရှည်စီးပွားရေးတိုက်တက်မှုမျိုးနဲ့ ဆင်တူတယ်၊



ရေရှည်မှာ လူတစ်ယောက်အနေနဲ့ အိမ်ဈေးနှုန်းတိုးတက်မှုကို စီးပွားရေးအခြေအနေအရပ်ရပ် တိုးတက်လာတဲ့ နှုန်းလောက်နဲ့ ချိန်ပြီး မျှော်လင့်နိုင်မှာဖြစ်တယ်လို့ နားလည်နိုင်ပါတယ်။

ဒါပေမဲ့ အိမ်ခြံမြေဈေးတွေဟာ လွန်ခဲ့တဲ့နှစ် ၅၀ အတွင်းမှာ စီးပွားရေးအတက်အကျကိုလိုက်ပြီး အကြိမ်ကြိမ် တက်လိုက်ကျလိုက်နဲ့ ဖြစ်နေခဲ့တယ်။ မဟာစီးပွားပျက်ကပ်ကြီး နောက်ပိုင်းတပြေး မကြုံဖူးတဲ့ အမြန်နှုန်းနဲ့ ဈေးနှုန်းထိုးကျမှုတွေကို ၂၀၀၈ ခုနှစ်မှာ ယူအက်စ်မှာရော၊ ယူကေမှာပါ ကြုံတွေ့ခဲ့ရတယ်၊ အိမ်ခြံမြေဈေးနှုန်းတွေဟာ ဘာကြောင့်များ ဒီလို ထိတ်လန့်တုန်လှုပ်ဖွယ်ရာတွေနဲ့ ကြုံရတာလဲ။

## အိမ်ပိုင်ဆိုင်မှုနှုန်းများ

| | |
|---|---|
| စပိန် | ၈၅% |
| အိုင်ယာလန် | ၇၇% |
| နော်ဝေ | ၇၇% |
| ယူကေ | ၆၉% |
| ယူအက်စ် | ၆၈% |
| ဩစတြေးလျ | ၆၅% |
| ပြင်သစ် | ၅၅% |
| ဂျာမနီ | ၄၂% |

## အိမ်ပိုင်ဆိုင်မှုတိုးလာခြင်း

အိမ်ခြံမြေဈေးနှုန်းမတည်ငြိမ်မှုတွေအတွက် အဓိကအခြေခံအကြောင်းရင်းက ယူအက်စ်နဲ့ ယူကေနှစ်နိုင်ငံစလုံးမှာ အစိုးရအဆက်ဆက်တွေဟာ အိမ်ရာ ပိုင်ဆိုင်မှုအဆင့်ကို တိုးမြင့်လာစေဖို့ တတ်နိုင်သမျှ လုပ်နိုင်သမျှလုပ်ဆောင်ဖို့ ရည်ရွယ်ထားကြတာကြောင့်ပဲ။ ယူကေက ဖြစ်ရပ်တစ်ခုကို နမူနာကြည့်ရအောင်ပါ။ ဒုတိယကမ္ဘာစစ်မတိုင်ခင်အထိ ယူကေမှာ အိမ်တွေမှာနေထိုင်သူတွေရဲ့ ဆယ်ပုံတစ်ပုံလောက်ကပဲ အိမ်တွေကို၊ ပိုင်ဆိုင်ကြတာဖြစ်တယ်၊ ယူအက်စ်မှာတော့ တစ်ဝက်လောက်နီးပါးလောက်က ပိုင်ဆိုင်တာတွေ့ရတယ်၊ အိုးအိမ်ခြံမြေတွေကို အချမ်းသာဆုံးပုဂ္ဂိုလ်တွေသာ အများဆုံးပိုင်ဆိုင်ကြပြီး ငှားရမ်းပေးကြတာကြောင့် အခုလိုဖြစ်နေရတာဖြစ်တယ်၊ အချမ်းသာဆုံးလူငယ်တွေ ထောင်မှ လန်ဒန်ကိုရောက်လာတဲ့အခါ ကိုယ်ပိုင်အိမ်ခြံမြေတွေကို ဝယ်ဖို့၊ ဒါမှမဟုတ် ငှားဖို့ထက်စာရင် ယာယီနေထိုင်စရာအခန်းလေးတွေငှားပြီးနေဖို့ ပိုပြီးစိတ်အား ထက်သန်ကြတယ်၊

အစိုးရအဆက်ဆက်အစိုးရတွေဟာ ပေါ်လစီတွေ စတင်ပြောင်းခဲ့တာကြောင့် ကမ္ဘာစစ်ကြီးတွေ

အပြီးမှာ အရာရာဟာ ပြောင်းလဲသွားခဲ့တယ်။ မြေပိုင်ရှင်ကြီးတွေအပေါ် ထိန်းချုပ်မှုတွေ လုပ်ခဲ့ပြီး ခိုလှိုးနဲ့ရှိတဲ့ ငွေတွေကို အိမ်ရာစီမံကိန်းတွေမှာ မြုပ်နှံသုံးစွဲခဲ့တယ်။ အဲဒီအချိန်အတောအတွင်းမှာ မညီမျှမှုတွေ ကျဆင်းခဲ့ပြီး လူလတ်တန်းစားမိသားစုတွေဟာ ရှုတ်တရက် အိမ်တွေဝယ်ဖို့ တတ်နိုင်တဲ့အခြေအနေရောက်လာခဲ့တယ်၊ ဗြိတိန်နိုင်ငံရဲ့ စစ်ပြီးခေတ် ၁၉၅၀ ခေတ်ကောင်းချိန်ကာလတွေမှာ အခွဲ ကျန်းမာရေးစောင့်ရှောက်မှု၊ အခမဲ့ပညာရေး၊ အလုပ်လက်မဲ့နှုန်းနိမ့်ကျမှုတွေနဲ့အတူ အိမ်ပိုင်ဆိုင်မှုဟာ တဖြည်းဖြည်းနဲ့ လူမှုရေးအဆောင်အယောင်တစ်ခုလို အမြုတ်တန်း တန်ဖိုးထားရတဲ့အရာဖြစ်လာခဲ့တယ်။ မာဂရက်သက်ချာရဲ့ စီမံကိန်းကြောင့် ဆောင်ပေါင်းများစွာသော အိမ်ငှားနေထိုင်သူတွေဟာ အိမ်တွေကို ဝယ်ယူနိုင်မှု မြင့်တက်လာခဲ့ကြတယ်။

ဒီအချက်တွေအားလုံးက အိမ်ပိုင်ဆိုင်မှုကို တစ်ဟုန်ထိုးမြင့်တက်လာစေခဲ့တာဖြစ်တယ်။ အစိုးရတွေဟာ အကျိုးအမြတ်များတဲ့ အခွန်တွေကို အပေါင်စာချုပ်တွေအပေါ်မှာ ရပ်ဆန့်ပစ်ခဲ့တယ်။ ရလဒ်က အိမ်ပိုင်နေထိုင်သူတွေများလာပြီး ၇၀ ရာခိုင်နှုန်းအထိ ရောက်လာခဲ့တယ်။ ဒါဟာ ဗြိတိန်နိုင်ငံသမိုင်းမှာ အကြီးမားဆုံးသော လူမှုရေး စီးပွားရေးအပြောင်းအလဲကြီးတစ်ခုပါပဲ။

ယူကေရဲ့ အိမ်ပိုင်ဆိုင်မှုအဆက်အစပ်က မြင့်တက်ကင်းတဲ့ အနေအထားမျိုးတော့ မဟုတ်ပါဘူး။ အိမ်ပိုင်ဆိုင်မှုနှုန်းအရ စပိန်က ထိပ်ဆုံးမှာ ဦးဆောင်နေပြီး ပြင်သစ်ကလည်း နောက်ကနေ အလျှင်အမြန်အမီလိုက်လာနေပါတယ်။ ထူးခြားတာက အိမ်ခြံမြေပိုင်ဆိုင်မှု များပြားကျယ်ပြန့်တဲ့ နိုင်ငံတွေမှာသာ အိမ်ခြံမြေဈေးအတက်အကျ မြင်းထန်တာဖြစ်ပြီး ဂျာမနီတို့၊ ဆွစ်ဇာလန်တို့လို လူတွေက အိမ်ဝယ်ဖို့ ထက်ငှားနေဖို့ ပိုသဘောကျကြတဲ့ နိုင်ငံတွေမှာတော့ အိမ်ခြံမြေ ပူပေါင်းဖောက်ကို ခံနိုင်ရည်ရှိကြတယ်။ ဒါပေမဲ့ ဒါဟာ အိမ်ငှားရမ်းဖို့ကို ဘဏ္ဍာရေးအရ ပိုပြီးဆွဲဆောင်မှုပေးတဲ့ ဥပဒေတွေကြောင့်ဖြစ်ပြီး အရိုးစွဲနေတဲ့ ယဉ်ကျေးမှုဆိုင်ရာ လျှို့ဝှက်ချက်ကြောင့်လည်း အနည်းအကျဉ်းတော့ သက်ရောက်မှုရှိပါတယ်။



**စီးပွားရေးအန္တရာယ်**

အိမ်ပိုင်ဆိုင်မှုတွေမြင့်တက်လာတာက လူမှုရေးအကျိုးကျေးဇူးတွေရှိတယ်ဆိုတာ သံသယဖြစ်စရာမဟုတ်ပေမယ့် ဒါနဲ့အတူ စီးပွားရေးပြဿနာတွေလည်း တွဲပြီးပါနေပါတယ်။ အငြင်းပွားစရာမဟုတ်ပေမယ့် ဒါနဲ့ ရင်းနှီးမြှုပ်နှံမှု ပြင်ရတဲ့လက်ကို ကျော်လွန်လုပ်ဆောင်နေတာတွေရှိတာကြောင့်ပဲ (အခန်း ၁ ကိုကြည့်ပါ)။ သင့်တော်ကောင်းမွန်တဲ့ ဈေးကွက်လည်ပတ်မှုအရ ဈေးနှုန်း တွေဟာ ပုံတွေကင်းမဲ့လာအောင် ထိုးတက်လာတယ်လို့မြင်ရင် လူတွေဟာ ဝယ်ယူမှု လုံလောက်လာတာကြောင့် ဈေးတွေဟာ ပိုပြီးသင့်တော်တဲ့အနေအထားတစ်ရပ်ကို ပြန်လည်ကျဆင်းလာပါတယ်။ ဒါပေမဲ့ အစိုးရတွေအနေနဲ့ (အခွန်ဖြတ်တောက်မှုတွေ၊ အိမ်ဝယ်ယူသူတွေ၊ အပေါင်စာချုပ် ထုတ်ချေးမှုတွေကတစ်ဆင့်) အိမ်ဝယ်ယူသူတွေ၊ အပေါင်စာချုပ် ကူညီတွေကို အိမ်ဝယ်ဖို့မက်လုံးတွေပေးခဲ့မယ်ဆိုရင်တော့ ဒါက အိမ်ခြံမြေ ဈေးကွက်မှာ ပူဖေါင်းတွေဖြစ်လာစေလိမ့်မယ်။

ယူအက်စ်အိမ်ခြံမြေဈေးကွက်ကို ကျောထောက်နောက်ခံပြုထားတဲ့ Fannie Mac နဲ့ Freddie Mac ကုမ္ပဏီကြီးနှစ်ခုက ငွေထုတ်ချေးရာမှာ စွန့်စားမှုတွေအပြီးတမ်း တိုးမြှင့်လုပ်ဆောင်နေတာကြောင့် ၂၀၀၇ မတိုင်မီနှစ်တွေမှာ အိမ်ခြံမြေပူဖေါင်း ဖြစ်လာခဲ့တယ်၊ ရင်းနှီးမြှုပ်နှံသူအများစု ဒီကုမ္ပဏီကြီးနှစ်ခုပြိုကျရင် အစိုးရက သူတို့ကို ကယ်တင်မှာပဲလို့ ယူဆခဲ့ကြတယ်။ ဒါကြောင့် ၂၀၀၈ ခုနှစ်မှာ ဒီလုပ်ငန်းကြီးနှစ်ခုကို နိုင်ငံပိုင်သိမ်းယူဖို့ အစိုးရကိုဖိအားပေးခဲ့ကြတယ်။ ဒီနေရာမှာ မေးခွန်းထုတ်စရာကျန်နေသေးတာက အနာဂတ်ကာလမှာ ယူအက်စ်နဲ့ ယူကေက အပေါင်စာချုပ်နဲ့ ငွေထုတ်ချေးသူတွေဟာ အစိုးရရဲ့ အထောက်အပံ့မပါဘဲ ဆက်ပြီးလုပ်ကိုင်ကြမှာလား ဒါကရော အိမ်ခြံမြေဈေးကွက် ပူဖေါင်းဖြစ်ပြီး ပြိုကျမှုတွေကို အဆုံးသတ်စေမှာလားဆိုတာပါပဲ။

### အနှစ်ချုပ်အတွေးအခေါ်

**အိမ်ခြံမြေဈေးနှုန်းတွေဆိုတာ တက်လိုက်၊ ကျလိုက်ပါပဲ**

# ၃၀ - အစိုးရလိုငွေများ

## Government deficits

**ပြီးခဲ့တဲ့ကာလတွေမှာ ကျွန်တော်တို့ကို သင်ကြားပေးခဲ့တဲ့အရာတစ်ခုရှိတယ်ဆိုရင် အဲ့ဒါက အစိုးရတွေဟာ နှစ်စဉ်နှစ်တိုင်း ငွေတွေပိုပိုချေးယူလာကြလိမ့်မယ်ဆိုတာပါပဲ။ စိုးရိမ်ရကောင်းတဲ့ ဘဏ္ဍာရေးအခြေအနေတွေနဲ့ ပတ်သက်ပြီး အမေရိကန်တို့၊ ယူနိုက်တက်ကင်းဒမ်းတို့ကို သတိပေးနေတဲ့ နိုင်ငံတကာငွေကြေးရန်ပုံငွေအဖွဲ့ (IMF) နဲ့ စီးပွားရေးပူးပေါင်းဆောင်ရွက်ရေးနဲ့ ဖွံ့ဖြိုးရေးအဖွဲ့ (OECD) တို့လို နိုင်ငံတကာအဖွဲ့အစည်းတွေ မရှိဘူးဆိုရင်တော့ အခြေအနေကတစ်လလောက်ပဲ ခံမယ့်ပုံပါပဲ။**

တကယ်တော့ စစ်ပြီးခေတ်သမိုင်းတစ်လျှောက် နှစ်တိုင်းနီးပါးမှာ အမေရိကန်အစိုးရအဖွဲ့ဟာ ဘတ်ဂျက်လိုငွေပြခဲ့တယ်။ တစ်နည်းပြောရရင် အမေရိကန်အစိုးရရဲ့ အခွန်ရငွေဟာ သုံးငွေထက် နည်းနေတယ်လို့ဆိုလိုတယ်။

> ဖွံ့ဖြိုးဆဲနိုင်ငံတွေမှာ အကြိမ်ကြိမ်ကြုံခဲ့ဖူးသလိုပါပဲ၊ အစိုးရတွေရဲ့ ထိန်းသိမ်းမရငွေချေးပြီး သုံးစွဲမှုတွေက အလွန်အကျွံငွေကြေးဖောင်းပွမှုနဲ့ စီးပွားရေးအကြီးအကျယ် ပျက်စီးသုံးရှုံးမှုကို ဖြစ်စေပါတယ်။ ဒါကြောင့် လိုငွေပြသနာဟာ တကယ့်ကို အရေးကြီးပါတယ်။

ဒီတော့ အစိုးရအနေနဲ့ ဒီခြားနားချက်ကို ဖြည့်ဆည်းဖို့အတွက် ငွေချေးရတော့တာပါပဲ၊ ဒီအဖြစ်မျိုးက သူတစ်နိုင်ငံတည်း

အလန်ဂရင်းစပန်း၊ ဖက်ဒရယ်ရီဖပ်အဖွဲ့ ဥက္ကဋ္ဌဟောင်း

ကြုံရတာမဟုတ်ပါဘူး၊ ယူကေမှာလည်း မကြာသေးမီနှစ်တွေမှာ ဘတ်ဂျက်လိုငွေ ဆက်တိုက်ပြခဲ့လို့ ကြွေးယူရတဲ့မှတ်တမ်းတွေရှိခဲ့ပါတယ်၊ ဒါပေမဲ့တော့လည်း ဒီလိုဖြစ်ခဲ့တာမဟုတ်ပါဘူး။ ယူကေနဲ့ ယူအက်စ်သမိုင်းမှာ စစ်ဖြစ်နေချိန်နဲ့ စီးပွားရေးကျဆင်းနေ ချိန်တွေတလွဲရင် အစိုးရတွေဟာ ဘတ်ဂျက်ကို တည်ငြိမ်အောင်ထိန်းနိုင်ခဲ့ကြပါတယ်။ ဘတ်ဂျက်ပိုငွေပြအောင် လုပ်ဆောင်နိုင်တဲ့ နိုင်ငံတွေလည်း အများအပြားရှိပါတယ်၊ ဥပမာ - နော်ဝေဆိုရင် ရေနံတွေအများအပြားရှိတာကြောင့် ဘတ်ဂျက်ပိုငွေပြနေသလို၊ ဖြစ်တြေးလျှဆိုရင်လည်း သတ္တုအရင်းအမြစ်တွေကြောင့် ဘတ်ဂျက်ပိုငွေရပါတယ်။

### ရှုပ်ထွေးတဲ့နေရာ

ဒါဟာအငြင်းပွားစရာအကြောင်းအရာဖြစ်ပေမယ့် စီးပွားရေးပညာရှင်အများစုကတော့ နိုင်ငံတစ်နိုင်ငံဟာ သူ့နိုင်ငံသားတွေအတွက် လူမှုလုံခြုံရေးဝန်ဆောင်မှုတွေကို ကျယ်ကျယ်ပြန့်ပြန့်စတင်လုပ်ဆောင်ခဲ့တဲ့အချိန်ကစပြီး အစိုးရလိုငွေပြမှုဟာ ဆက်တိုက်ဖြစ်လာခဲ့တာပဲလို့ ယုံကြည်ကြတယ်၊ ဒါဟာ ကျန်းမာရေးပညာရေးနဲ့ အလုပ်လက်မဲ့အာမခံတွေအတွက် ငွေကြေးပမာဏ အများအပြားသုံးစွဲရတာနဲ့လည်း ဆက်ဆိုင်တယ်။ ဒီနယ်ပယ်တွေအားလုံးကို အရင်ကတော့ ပုဂ္ဂလိကကဏ္ဍ၊ ဒါမှမဟုတ် စေတနာဝန်ထမ်းအသင်းအဖွဲ့တွေက ကိုင်တွယ်လေ့ရှိခဲ့တယ်၊ ဒီဖြစ်စဉ်ဟာ စစ်ပွဲနိုင်ငံတော်ကနေ လူမှုဖူလုံရေးနိုင်ငံတော်ဆီကို ရွေ့သွားတဲ့အရွေ့တစ်ခုပါပဲ၊

ထယ်နေရာတွေမှာ သုံးစွဲနေတာလဲ၊ ၂၀၀၉ ခုနှစ်အမေရိကန်ဖက်ဒရယ်ဘတ်ဂျက်ကို လျှပ်တစ်ပြက်ကြည့်လိုက်ရင် အများစုက အစိုးရအနေနဲ့ ဥပဒေပြဋ္ဌာန်းချက်တွေအရ မဖြစ်မနေသုံးရမယ့်နယ်ပယ်တွေမှာ သုံးစွဲထားတာတွေရှုမှာဖြစ်တယ်။ (ဇက်ဝိုင်းပြဇယားကိုကြည့်ပါ)။ ဒီသုံးစွဲမှုတွေထဲမှာ (သက်ကြီးရွယ်အိုတွေကိုပေးတဲ့) ဝင်ငွေလုံခြုံရေး၊ လူမှုလုံခြုံရေး၊ (ဆင်းရဲတဲ့မိသားစုတွေကို ထောက်ပံ့ပေးတဲ့) ဝင်ငွေလုံခြုံရေး ကျန်းမာရေးနဲ့ ဆေးဝါးကုသမှုထောက်ပံ့မှုတွေနဲ့ အရင်နှစ်တွေက အစိုးရရဲ့ရယူခဲ့တဲ့ အကြွေးတွေအပေါ်ပေးရတဲ့အတိုးငွေတွေပါဝင်တယ်။ အစိုးရရဲ့လိုသလိုရွှေ့ပြောင်းသုံးစွဲရတဲ့ ဘတ်ဂျက်ပမာဏတကယ့်အစုအဝေးကြီးကတော့ ကာကွယ်ရေးနဲ့ ပတ်သက်ပြီး

**အချိန်ပြဇယား**

**၁၉၃၆**

The General Theory of Employment, Interest and Money စာအုပ်ထဲမှာ ကိန်းက စီးပွားရေးကျဆင်းနေတဲ့ကာလတွေမှာ အစိုးရတွေဟာ ပိုပြီးငွေချေးယူသင့်တယ်လို့ တိုက်တွန်းခဲ့

**၁၉၄၅**

ဒုတိယကမ္ဘာစစ်အပြီးမှာ အမေရိကန်အစိုးရရဲ့ကြွေးမြီဟာ ဂျီဒီပီရဲ့ ၁၂၀% အထိရှိခဲ့

**၂၀၀၉**

ဘဏ္ဍာရေးအကျပ်အတည်းကို ဆက်လက်တိုက်ထုတ်ဖို့အတွက် ကြီးမမ်းရတာကြောင့် အမေရိကန်ရဲ့ဘတ်ဂျက်လိုငွေဟာ ဒေါ်လာ ၁ ထရီလီယံအထိ မြင့်တက်သွားလိမ့်မယ်လို့ သမ္မတအိုဘားမားကခန့်မှန်းပြောကြား

သုံးရတဲ့ဘက်ဂျက်ပဲ။ ကာကွယ်ရေးဘက်ဂျက်ထဲမှာ စစ်မှုထမ်းတွေရဲ့ လစာနဲ့ စရိတ်တွေအပြင် ဝစ်လက်နက်အသုံးအဆောင်တွေကနေ လေယာဉ်တင်သင်္ဘောကြီးတွေအထိပါဝင်တယ်။ နောက်ထပ်သုံးစွဲရမှုတွေကတော့ တရားရေးစနစ်အဖွဲ့အစည်းတွေလို ဖက်ဒရယ် အင်စတီကျူးရှင်းတွေနဲ့ဆိုင်တဲ့ အသုံးစရိတ်တွေရယ်၊ လယ်သမားတွေနဲ့ နာဆာလို အဖွဲ့အစည်းတွေအပေါ်ထောက်ပံ့ပေးရတဲ့စရိတ်တွေရယ်ပဲဖြစ်တယ်။

ဝစ်မှုထမ်းဟောင်းများ၏အကျိုးခံစားခွင့်နှင့်ဝန်ဆောင်မှု (၃%)
အခြား (၅%)
သယ်ယူပို့ဆောင်ရေး (၃%)
လူမှုလုံခြုံရေး (၂၀%)
ပညာရေး လေ့ကျင့်ရေး အလုပ်အကိုင်နှင့် လူမှုရေးဝန်ဆောင်မှု (၃%)
အသားတင်အတိုး (၉%)
ကျန်းမာရေး (၁၀%)
ဝင်ငွေပံ့ပိုးမှု (၁၃%)
ဆေးဝါးအကူအညီ (၁၂%)
ကာကွယ်ရေး (၂၀%)

**စက်ဝိုင်းပြဇယားက အမေရိကန်အစိုးရရဲ့ ၂၀၀၈ ခုနှစ်အတွက် အသုံးစရိတ်ကိုပြတယ်။ ဒီခွဲတမ်းချပုံဟာ အနောက်အုပ်စုနိုင်ငံတွေမှာ ခွဲတမ်းချပုံနဲ့အတော့်ကိုတူတယ်။**

ဒါပေမဲ့ ၂၀၀၈ ခုနှစ်မှာ အမေရိကန်အစိုးရသုံးစွဲခဲ့တဲ့ပမာဏဟာ သူ့ရဲ့အခွန်ရငွေထက် ကျော်လွန်နေတာကြောင့် ဘက်ဂျက်ကို ညှိယူဖို့ဒေါ်လာ ဘီလီယံ ၄၁၀ လောက် ချေးယူရတယ်၊ ဒီပမာဏဟာ အတော်လေးတော့များတယ်လို့ ဆိုရမယ်။

အမေရိကန်အစိုးရရဲ့ဖက်ဒရယ်ဖွဲ့စည်းပုံကြောင့် ပြည်နယ်တစ်ခုချင်းစီအနေနဲ့လည်း သူတို့ကိုယ်ပိုင်ဘက်ဂျက်တွေရှိကြပါတယ်။ ဘက်ဂျက်အများစုကို ပညာရေးနဲ့ ဒေသတွင်း အဝေးပြေးလမ်းမကြီးတွေဖေါက်တာလိုမျိုး အခြေခံအဆောက်အအုံတွေမှာ သုံးစွဲကြတယ်။ တစ်ခါတရံမှာ ပြည်နယ်တွေက ကွန်ဂရက်အဖွဲ့ဝင်တွေဟာ ဒေသတွင်းစီမံကိန်းတွေကို တူညီထောက်ပံ့ဖို့ ပြည်ထောင်စုရန်ပုံငွေကနေ ဖြည့်စွက်တောင်းခံတာမျိုးတွေလည်းလုပ်ကြတယ်၊ ဒီလိုလုပ်ဆောင်တာမျိုးကို မဲဆွယ်တဲ့သဘောနဲ့ ပြည်သူ့ဘဏ္ဍာငွေကို ဒေသန္တရလုပ်ငန်းတွေ



## အလိုအလျောက်ထိန်းညှိပေးခြင်း

လူမှုဖူလုံရေးစနစ်ကျင့်သုံးတဲ့ ဘယ်ခေတ်သစ်နိုင်ငံတွေမှာမဆို စီးပွားရေးကျဆင်းနေတဲ့ကာလမှာ ဘက်ဂျက်လိုငွေဟာ ပိုပြီးမြင့်တက်လာတတ်တယ်၊ ဒီလိုအချိန်မျိုးတွေမှာ အမြတ်အစွန်းတွေနဲ့ လုပ်ခတွေလျော့နည်းကျဆင်းသွားတာကြောင့် ကုမ္ပဏီတွေကရော၊ လူတစ်ဦးချင်းစီကပါ အစိုးရကို အခွန်ထမ်းဆောင်ရမှုတွေ ကျဆင်းလာကြတယ်။ တစ်ပြိုင်တည်းမှာပဲ အစိုးရအနေနဲ့ အလုပ်လက်မဲ့ထောက်ပံ့မှုစနစ်ကြောင့် အလုပ်သမားတွေကို ထောက်ပံ့ပေးရတာ ပိုပြီးတိုးလာလို့ အစိုးရရဲ့အသုံးစရိတ်တွေကို တိုးမြင့်လာစေတယ်၊ အစိုးရရဲ့ငွေကြေးသုံးစွဲမှုတွေက စီးပွားရေးကို အလိုအလျောက်ပြန်လည် ထိန်းညှိပေးပြီး လူတွေကို ခြေသလုံးအိမ်တိုင်ဘဝမရောက်အောင် တားဆီးပေးတဲ့အပြင် သူတို့ရဲ့ဥာဏကောင်းကျိုးအတွက် အထောက်အပံ့ဖြစ်စေတယ်၊ အတိုချုပ်ပြောရရင်တော့ ဒါမျိုးကို ကိန်းဝါအမြင်တို့ အကောင်အထည်ဖေါ်ခြင်းပဲလို့ ယူဆနိုင်တယ် (အခန်း ၉ ကိုကြည့်ပါ)။

ဥပမာ– ၁၉၉၀ အစောပိုင်းနှစ်တွေမှာ ယူကေ နိုင်ငံဟာ အိမ်ဈေးတွေထိုးကျပြီး စီးပွားရေးအကျနဲ့ ရင်ဆိုင်ရတဲ့အခါ ဘက်ဂျက်လိုငွေဟာ ၁၉၉၀ နဲ့ ၁၉၉၃ ခုနှစ်အကြားမှာ ဂျီဒီပီရဲ့ ၁ ရာခိုင်နှုန်းကနေ ၇.၃ ရာခိုင်နှုန်းအထိ ထိုးတက်သွားခဲ့တယ်။ ဒီလိုဖြစ်ပျက်ရတာဟာ ခေတ်သစ်ဘက်ဂျက်တည်ဆောက်ထားမှုပုံစံတွေအရ အလိုအလျောက်ထိန်းညှိပေးတာကြောင့်ပါပဲ။

အတွက် သုံးစွဲတာ (pork barrel politics) လို့ခေါ်ကြပြီး ဒါကလည်း ဘက်ဂျက်လိုငွေတို့ မြင့်တက်စေတဲ့အကြောင်းတစ်ရပ်ပဲလို့ ဆိုတယ်၊ အထူးသဖြင့် သမ္မတရေ့ချ်အလျှောဂ့ရှိ လက်ထက်မှာ အရင်းသူ့ဖရှုက သမ္မတတွေနဲ့တွေ့ညဲ၊ ဒီလိုတောင်းခံငွေတွေကို သဘောတူဖို့ လက်ထက်မှာ အရင်ဘူ့ဖရှုက သမ္မတတွေနဲ့တူညဲ၊ နောက်တက်တဲ့ သမ္မတ သူ့ရဲ့လုပ်ပိုင်ခွင့်ကို သုံးစွဲဖို့ရာ အင်တင်တင်လုပ်နေခဲ့တယ်၊ နောက်တက်တဲ့ သမ္မတ အိုဘားမားကတော့ သူ့လက်ထက်မှာ ဒါကို ပြောင်းပြန်လှန်ဖို့ ကတိပြုခဲ့တယ်။

### လိုငွေအမြဲတမ်းမြင့်တက်နေခြင်း

နှစ်စဉ်ဘက်ဂျက်လိုငွေနဲ့ အစိုးရရဲ့ကြွေးတင်ရှိနေမှု စုစုပေါင်းပမာဏကို ခွဲခြားသိမြင်ဖို့ရာ အရေးကြီးတယ်။ နှစ်စဉ်ဘက်ဂျက်လိုငွေတွေက တက်နေတာကြောင့် ဒါတွေက အစိုးရပေးရန်ရှိတဲ့ အသားတင်ကြွေးမြီပမာဏကို တိုးတက်နေစေတယ်၊ ၂၀၀၈ ခုနှစ်နှောင်းပိုင်းမှာ အမေရိကန်အစိုးရရဲ့

စုစုပေါင်းကြွေးမြီပမာဏဟာ ဒေါ်လာ ၅.၃ ထရီလီယံရှိတယ်။ အဲ့ဒီပမာဏထဲမှာ ၂၀၀၈ စက်တင်ဘာမှာ ငွေကြေးအကျပ်အတည်းကြောင့် အစိုးရက ကယ်တင်ခဲ့ရတဲ့ Fannie Mae and Freddie Mac လို အပေါင်စာချုပ်အာမခံကုမ္ပဏီကြီးတွေရဲ့ပေးရန်ရှိကြွေးမြီတွေနဲ့ ဒီနောက်ပိုင်းမှာ ဘဏ်တွေကို ယာယီအားဖြင့် ပြည်သူပိုင်လုပ်ကယ်တင်ထားရတာမျိုးတွေမပါသေးဘူး။

ဒီကြွေးမြီတွေနဲ့ ဘက်ဂျက်လိုငွေနှစ်မျိုးစလုံးဟာ နှစ်တိုင်းမြင့်တက်နေတတ်တယ်။ စီးပွားရေးထက်အကြွေးက ပိုပြီးလျင်လျင်မြန်မြန်တက်နေတာမျိုးမဟုတ်ဘူးဆိုရင် ဒါကစိုးရိမ်ပူပန်စရာတော့ မလိုပါဘူး။ ဒါကြောင့် လိုငွေနဲ့ကြွေးမြီအခြေအနေကို ဂျီဒီပီရဲ့ ဘယ်လောက်ရာခိုင်နှုန်းရှိနေတယ်ဆိုတာမျိုး ဖေါ်ပြကြတာဖြစ်တယ်၊ အမေရိကန်အစိုးရရဲ့ ကြွေးမြီဟာ ၂၀၀၈ ခုနှစ်နှောင်းပိုင်းမှာ ဂျီဒီပီရဲ့ ၃၇ ရာခိုင်နှုန်းရှိတယ်။ တိုင်းပြည်တစ်ပြည်ရဲ့ ကြွေးမြီဟာ ၂၀၀၈ ခုနှစ်နှောင်းပိုင်းမှာ... အကြွေးတွေမြင့်တက်လာနေတာဟာ ပေးရမယ့်အတိုးပမာဏမြင့်တက်နေတာပဲဖြစ်ပြီး အတိုးနှုန်းတွေတက်လာရင် ပေးရမယ့်ပမာဏကလည်း ပိုများလာတာပါပဲ။

## ငွေအများအပြားချေးယူရခြင်းရဲ့ အကျိုးဆက်များ

လိုငွေပြမှုတွေက ထိန်းမရသိမ်းမရဖြစ်လာရင် တိုင်းပြည်မှာ စီးပွားရေးပြဿနာတွေ ဖြစ်ပွားစေနိုင်တယ်။ ပထမပြဿနာက ငွေတွေပိုချေးလာရရင် တိုင်းပြည်မှာ သုံးစွဲတဲ့ ငွေကြေးကို ခိုင်မာမှုကျဆင်းသွားစေနိုင်တာဖြစ်တယ်။

၂၀၀၈ ခုနှစ်မှာ၊ ယူကေနိုင်ငံမှာ ရင်းနှီးမြှုပ်နှံသူတွေက အစိုးရကို လာမယ့်နှစ်မှာ ငွေတွေအများအပြားချေးယူရမယ်လို့ အကဲဖြတ်ကြတာကြောင့် အဲ့ဒီနောက်ပိုင်းမှာ ပေါင်ငွေတန်ဖိုးဟာ ငါးပုံတစ်ပုံလောက်ကျဆင်းသွားတယ်။ နိုင်ငံတစ်နိုင်ငံဟာ ကြွေးမြီတွေ လွန်လွန်ကဲကဲတင်ရှိနေတဲ့အခါ ဒီအကြွေးတွေကို ချေဖျက်ဖို့ ငွေစက္ကူတွေပိုပြီးရိုက်နှိပ်ကြရပါတယ်။ ဒါကြောင့် ကြွေးမြီတင်ရှိနေတဲ့ နိုင်ငံရဲ့ငွေစက္ကူတန်ဖိုးမြင့်တက်လာဖို့ဆိုတာ အတော်လေးဝေးတာရော ဖြစ်ပါတယ်။ ဒီလိုဖြစ်ပျက်တော့မယ့် အရိပ်အယောင်မျိုးမြင်ရတဲ့အခါ အဲ့ဒီနိုင်ငံရဲ့ ငွေစက္ကူတန်ဖိုးက ကျဆင်းသွားပြီး နိုင်ငံခြားရင်းနှီးမြှုပ်နှံသူတွေဟာလည်း ထွက်ပြေးသွားတတ်ကြပါတယ်။

နောက်ထပ်အကျိုးဆက်တစ်ရပ်က ရင်းနှီးမြှုပ်နှံသူတွေဟာ သူတို့ရဲ့စွန့်စားရမှုကို ထေမိကာမိစေဖို့ သူတို့ရဲ့ရင်းနှီးမြှုပ်နှံမှုအပေါ်မှာ မြင့်မားတဲ့ပြန်ပေါ်မှုနှုန်း (ဝါ) တိုးပွားလာမှုကို



လိုလားကြတယ်။ ဒီလိုလားမှုက အစိုးရရဲ့အကြွေးတွေအပေါ် ပေးရန်ရှိတဲ့အတိုးနှုန်းကို မြင့်တက်စေပြီး အနာဂတ်ကာလမှာ ငွေချေးဖို့ကုန်ကျစရိတ်ကို ပိုပြီးမြင့်တက်သွားစေတယ်။

ဒါပေမဲ့အခြေခံအကျဆုံးပြောရရင်တော့ ငွေချေးယူရခြင်းရဲ့ရေရှည်အကျိုးဆက်က ကြီးမားလွန်းတာပါပဲ။ အစိုးရအနေနဲ့ ငွေပိုချေးယူထားတာတွေကို အနာဂတ်တစ်ချိန်ချိန်မှာ ပြန်ဆပ်ရမှာဖြစ်လို့ ငွေချေးတာဟာ နောင်လာမယ့်နှစ်တွေမှာအခွန်ကောက်ခံဖို့ ဖြစ်လာစေတာပါပဲ။ စာသင်ကျောင်းအသစ်ဆောက်လုပ်တာမျိုးလို အနာဂတ်မျိုးဆက်သစ်တွေရဲ့ ကောင်းကျိုးအတွက် အသုံးပြုရမယ့်ငွေကြေးဆိုရင်တော့ ငွေချေးယူရတာက ပြဿနာမဟုတ်ပါဘူး။ ဒါပေမဲ့ လက်ရှိအချိန်မှာ အများပြည်သူတကာအတွက် ဖြည့်ဆည်းဖို့ ငွေသားလိုအပ်ချက်ကြောင့် ငွေချေးယူရတာဆိုရင်တော့ ဒါက စိုးရိမ်စရာပါပဲလို့ဆိုရမယ်။

## ရွှေစည်းမျဉ်းကို ချိုးဖျက်ခြင်း

နိုင်ငံတွေဟာ လက်ရှိငွေချေးယူရမှုတွေကြောင့် အနာဂတ်မျိုးဆက်တွေအပေါ်မှာ ဝန်ထုပ်ဝန်ပိုးမဖြစ်ရအောင် သူတို့ရဲ့ ဘဏ္ဍာရေးစည်းမျဉ်းတွေကို သူတို့ဘာသာချမှတ်ကြပါတယ်။ ဗြိတိန်ဘဏ္ဍာရေးဝန်ကြီးဟောင်း ဂေါ်ဒွန်ဘရောင်း တည်ထောင်ခဲ့တဲ့ ရွှေစည်းမျဉ်းဟာ နမူနာကောင်းတစ်ခုပါပဲ။ သူက နိုင်ငံ့ဝန်ထမ်းတွေရဲ့လစာအတွက် လက်ရှိအချိန်မှာ သုံးစွဲဖို့ ဘယ်တော့မှ ငွေမချေးဘဲ၊ အများပြည်သူဆိုင်ရာစီမံကိန်းတွေမှာ ရင်းနှီးမြှုပ်နှံမှုတွေ လုပ်ဖို့ပဲ ငွေချေးမယ်လို့ ကတိပေးခဲ့တယ်။

ဒါပေမဲ့ စီးပွားရေးကျဆင်းမှုနဲ့ ရင်ဆိုင်ရပြီး အစိုးရဟာ ငွေတွေအများအပြားချေးယူခဲ့ရတာကြောင့် ၂၀၀၈ ခုနှစ်နှောင်းပိုင်းမှာ အဲ့ဒီစည်းမျဉ်းဟာ ကျိုးပျက်ခဲ့ရတယ်၊ ဒါဟာ တစ်ကမ္ဘာလုံးကို ရောင်ပြန်ဟပ်ခဲ့တဲ့အဖြစ်အပျက်ပါပဲ၊ ပြည်သူ့ဘဏ္ဍာရေးနဲ့ ပတ်သက်ပြီး အစိုးရတွေဟာ ဈေးကွက်နဲ့ မဲဆန္ဒရှင်တွေက ငွေချေးတာကို မတားဆီးသေးသရွေ့ ဆက်လက် ငွေချေးယူနိုင်တယ်ဆိုတဲ့ ကြာရှည်တည်ရှိခဲ့တဲ့အမှန်တရားကိုလည်း မီးမောင်းထိုးပြခဲ့တာဖြစ်ပါတယ်၊

**အနှစ်ချုပ်အတွေးအခေါ်**

**အစိုးရတွေဟာ အကြွေးယူဖို့ ဝါသနာထုံကြတယ်**

# ၃၉ – မညီမျှမှု

## Inequality

**Rio de Janeiro က ကမ်းခြေမှာ လမ်းလျှောက်တဲ့ခါ ဘရာဇီးနိုင်ငံရဲ့ အကောင်းဆုံးမင်လယ် ကမ်းခြေအဝန်းခြေအိမ်ကြီးတွေကို ဖြတ်ပြီးလျှောက်ရမှာဖြစ်တယ်။ ဒီအိမ်ကြီးတွေကို ဒေါ်လာသန်းချီပုံအောသုံးပြီး ဇိမ်ခံပစ္စည်းတွေနဲ့ တန်ဆာဆင်ထားပုံက ရုပ်ရှင်ရုံတွေ၊ တင်းနစ်ကစားကွင်းတွေ၊ ရေကူးကန်တွေ၊ ရေနွေးရေပန်းတပ်ရေချိုးကန်တွေ၊ အခေါ်တန်းဆောင် တွေနဲ့ လိုလေသေးမရှိအောင်ပါပဲ။ ကိုက်အနည်းငယ်အကွာမှာတော့ ကမ္ဘာမှာအကြီးဆုံးနဲ့ ဥပဒေအမဲ့ဆုံးနေရာလို့ဆိုရမယ့် ဆင်းရဲသားတွေနေတဲ့ မြို့စွန်ရပ်ကွက်ကြီးကို တွေ့ရမှာဖြစ်ပါတယ်။ ဒီလိုအလွန်အကျွံဆင်းရဲမွဲတေမှုဟာ ဒီလောက်ကြွယ်ဝချမ်းသာတဲ့ ပြည့်စုံမှုနဲ့အတူတွဲပြီး ဘယ်လိုများရှိနေရတာပါလဲ။**

မညီမျှမှုဆိုတာ အသစ်အဆန်းတစ်ခုတော့မဟုတ်ပါဘူး။ အထူးသဖြင့် ဗိတိန်ယခေတ် အင်္ဂလန်မှာ ပိုပြီးပြင်းထန်ခဲ့တယ်။ ဘရာဇီးမှာရှိတဲ့ မြို့စွန်ဆင်းရဲသားရပ်ကွက်တ တဲ့အိမ်တွေနဲ့ လုံးဝကို မတူတဲ့အိမ်တွေမှာ နေထိုင်ရပြီး မိုင်းတွင်းတွေ၊ စက်ရုံတွေမှာ အလုပ်လုပ်ရင်း သာမန်အလုပ်သမားမိသားစုတွေက ဆင်းရဲဒုက္ခတွင်းထဲနစ်နေတာကို ကြုံကြဲခံရင်ဆိုင်နေရချိန်မှာ ချမ်းသာကြွယ်ဝတဲ့ စက်မှုလုပ်ငန်းရှင်တွေက မကြုံစဖူး ငွေကြေးအမြောက်အမြားစုဆောင်းမိနေကြတယ်။

နိုင်ငံရေးသမားတွေက ချမ်းသာဆင်းရဲကွာဟမှုကို လျှော့ချဖို့ ခေတ်အဆက်ဆက် ကြိုးစားခဲ့ကြပေမယ့် ကွာဟမှုကတော့ ဆက်ပြီး မြင့်မားနေတုန်းပါပဲ။ ၁၉၈၀အစောပိုင်း နှစ်တွေကတည်းက ဆယ်စုနှစ်နှစ်စုခွဲလောက်ကြာအောင် ကမ္ဘာတစ်လွှားက



ဖွံ့ဖြိုးပြီးနိုင်ငံတွေအားလုံးနီးပါးမှာ မညီမျှမှုကွာဟချက်တွေက ပိုပြီးကျယ်ပြန့်လာခဲ့တယ်။ ပြင်သစ်၊ ဂရိနဲ့ဝိန္နိုင်ငံတွေမှာ ကွာဟမှုက ကျဆင်းလာခဲ့ပေမယ့် ယူကေမှာတော့ ဆင်းရဲမွဲတေမှုကွာဟချက်က သိသာသာဆိုးရွားလာခဲ့တယ်။ ထောင် စုနှစ်သစ်ရဲ့ပထမဆယ်စုနှစ်တွေရဲ့အဆုံးကို ချဉ်းနင်းရောက်လာချိန်မှာ ယူအက်စ်နဲ့ ယူကေနှစ်နိုင်ငံစလုံးမှာ မညီမျှမှုဟာ ၁၉၃၀ နှစ်တွေရဲ့ နောက်ပိုင်းမှာ အမြင့်ဆုံးအဆင့်ကိုရောက်ရှိလာခဲ့တယ်။

### ဥာဏနှုန်းကွာဟချက်

အရင်းရှင်စနစ်ဆိုတာ လူတစ်ဦးချင်းရဲ့အလုပ်ကြိုးစားမှုနဲ့ စွန့်ဦးတီထွင်မှုစိတ်ဓာတ်ကို နှိုးဆွဲမြှောက်စားအားပေးတဲ့စနစ်တစ်ခုလို့ သတ်မှတ်ရင် လူတချို့က ကျန်တဲ့လူတွေထက် ပိုချမ်းသာတဲ့အပေါ် အံ့ဩစရာမဟုတ်ဘူးလို့ ဆိုရမယ်။ ဘာအကျိုးခံစားခွင့်မှ မရှိဘူးဆိုရင် အလုပ်ကြိုးစားဖို့ ဘာမက်လုံးမှလည်း ရှိမှာမဟုတ်တော့ဘူးပေါ့။ ဒါပေမဲ့ ဆင်းရဲချမ်းသာ ကွာဟချက်က ဘယ်ပမာဏ လောက်ရောက်ရင် စိုးရိမ်စရာဖြစ်လာပြီလဲဆိုတာ တတော့ သတိထားစရာပဲ။

ဒိန်းမတ်၊ ဆွီဒင်၊ ဖင်လန်တို့လို စကင်ဒီနေးဗီးယားနိုင်ငံ တွေမှာတော့ ဆင်းရဲချမ်းသာကွာဟချက်ဟာ ပိုပြီး ကျဉ်းမြောင်းလာနေတယ်။ ဝင်ငွေ၊ ဒါမှမဟုတ် ဥစ္စာဓန ကွာဟချက်ကို တိုင်းတာရာမှာ "ဂီနီကိုအီးဖီးရှင်း" (gini coefficient) ဆိုတဲ့ ကိန်းဂဏန်းကို အသုံးပြုကြတယ်။ ဒီကိန်းဂဏန်းက ဝင်ငွေအမြင့်ဆုံးရနေသူတွေနဲ့ဝင်ငွေအနိမ့်ဆုံးရနေသူတွေကြားက ကွာဟချက်ကို နှိုင်းယှဉ်ပြပေးတယ်။ "ဂီနီကိုအီးဖီးရှင်း" ကိန်းကြီးလေ၊ ဓနကွာဟချက် ပိုများလေဖြစ်တယ်။ တိုင်းပြည်အသီးသီးမှာ ဓနဥစ္စာအဆင့်အတန်းကို တိုင်းတာတဲ့အခါ ကွာဟချက်က ပိုပြီး

> လွတ်လပ်မှုထက် ညီမျှမှုကို ရှေ့တန်းတင်တဲ့ လူ့အဖွဲ့အစည်းဟာ အဲဒီနှစ်မျိုးစလုံးကို ရမှာမဟုတ်ပါဘူး။ ညီမျှမှုထက် လွတ်လပ်မှုကို ရှေ့တန်းတင်တဲ့ လူ့အဖွဲ့အစည်းကတော့ အဲဒီနှစ်မျိုးစလုံးကို မြင့်မြင့်မားမားရပါလိမ့်မယ်။
>
> ဒီလ်တန် ဖရိုင်းမင်း

**အချိန်ပြဇယား**

**၁၈၄၀ နှစ်များ**
အင်္ဂလန်မှာ မညီမျှမှုတွေက ဖရက်ဒရစ် အိန်ဂျယ်လ်စ်ကို The Condition of the Working Class in England စာအုပ်ရေးဖို့ လှုံ့ဆော်ပေးခဲ့

**၁၉၇၀**
အမေရိကန်မှာ မညီမျှမှု အခြေအနေဟာ စံချိန်တင် အနေအထားရောက်လာ

**၁၉၈၀ နှစ်များ**
ဖရန်ကလင် ရူဆဲဗဲ့ရဲ့ စီးပွားရေးအစီအစဉ်သစ်ကြောင့် ဓနဥစ္စာကွာဟမှု ကျဉ်းမြောင်းလာ

**၁၉၉၀ နှစ်များ**
သက်ချာဝါဒနဲ့ ရေဂင်ဝါဒနောက်ပိုင်းမှာ ကွာဟမှု ပိုမိုပြင့်ထက်လာ

**၂၀၀၀ နှစ်များ**
မညီမျှမှုအခြေအနေ အမြင့်ဆုံးရောက်လာ

## မညီမျှမှုအကျိုးကျေးဇူးများ

လူတွေဟာ ဝင်ကိုသဘာဝအရကို ဝါသနာပါတို့၊ စွမ်းဆောင်နိုင်စွမ်းတို့မှာ မတူညီကြတာကြောင့် စီးပွားရေးမှာလည်း မညီမျှမှု အနေအထားက မလွဲမသွေ ရှိနေမှာပဲလို့ တချို့စီးပွားရေးပညာရှင်တွေက ဆိုကြတယ်။ တကယ်တော့ လွတ်လပ်တဲ့ဈေးကွက်ကို လိုလားကြတဲ့ သူတို့တွေအဖို့ ဥစ္စာဓနပြန်လည်ခွဲဝေလိုက်ဖို့ ကြိုးပမ်းတာတွေဟာ အကျိုးကြောင်းနိုင်ပြီး မရည်ရွယ်ထားတဲ့ အကျိုးဆက်တွေကို ဖြစ်စေတယ်လို့ မြင်တယ်။ ပိုပြီးမြင့်မားတဲ့ အခွန်ကောက်ခံမှုတွေက ထုတ်လုပ်နိုင်စွမ်းအရှိဆုံးသူတွေကို နိုင်ငံပြင်ပကို ရောက်သွားစေသလို၊ လူတွေကိုလည်း ပိုပြီးအလုပ်ကြိုးစားလိုစိတ်ဖြစ်အောင် တွန်းအားမပေးရာ ရောက်စေနိုင်ပါတယ်။ ဒါက လူ့အဖွဲ့အစည်းတစ်ရပ်လုံးက ထုတ်လုပ်လိုက်တဲ့ ဥစ္စာဓနအစုအပေါင်းကို လျော့ကျသွားစေနိုင်တယ်လို့ သူတို့က မြင်ကြတယ်။

ကြီးမားနေသဲဖြစ်တာတွေ့ရတယ်၊ စံပေတံတွေနဲ့ တိုင်းတာမှုအများစုက ကမ္ဘာ့လူဦးရေရဲ့အဆင်းရဲဆုံး ငါးပုံတစ်ပုံဟာ အလယ်ခေတ်ကာလ စီးပွားရေး အခြေအနေတွေမှာ နေနေကြရတုန်းပဲလို့ ပြသနေတယ်၊ အဆင်းရဲဆုံးငါးပုံတစ်ပုံဟာ အာဖရိက ဆဟာရဒေသတွေမှာ အများဆုံးနေထိုင်ကြတယ်လို့ ဆိုတယ်။ သူတို့ဟာ အလယ်ခေတ် ယူကေနဲ့ ယူအက်စ်က အဆင်းရဲဆုံးဆိုတဲ့သူတွေထက်တောင် ပိုဆင်းရဲပြီး ကျန်းမာရေးအခြေအနေ ပိုနိမ့်ကျနေသေးတယ်။

## ဝင်ငွေပြန်လည်ခွဲဝေဖြန့်ဖြူးခြင်း

ဒီလို ဥစ္စာဓနမညီမျှမှုတွေအတွက် ရှင်းလင်းချက်တချို့ရှိပါတယ်။ ဥရောပ မြောက်ပိုင်းက စကင်ဒီနေးဗီးယားနိုင်ငံတွေဟာ သူတို့ရဲ့ နိုင်ငံသားတွေအပေါ် အခွန်ပိုကောက်ခံလေ့ရှိတယ်။ ဒီလိုအခွန်ပိုကောက်ခံခြင်းက လူမှုဖူလုံရေးအစီအစဉ်တွေနဲ့ အခွန်သက်သာရေးအစီအစဉ်တွေကနေတစ်ဆင့် ဆင်းရဲသားတွေအပေါ် ဝင်ငွေပြန်လည်ခွဲဝေဖြန့်ဖြူးမှုတွေ လုပ်ဆောင်ဖို့ ဖြစ်တယ်။ ဒါက ခေတ်သစ်ဒီမိုကရေစီနိုင်ငံတွေမှာ လုပ်ဆောင်နေတဲ့ အခွန်စနစ်တွေရဲ့ အဓိကရည်ရွယ်ချက်တွေထဲက တစ်ခုဖြစ်တဲ့ မမျှတမှုကို လျော့ကျစေဖို့နဲ့ လိုအပ်ချက်ရှိတဲ့ နိုင်ငံသားတွေကို ထောက်ပံ့ကူညီပေးဖို့ပဲဖြစ်တယ်။

ဝင်ငွေအားကာလမှာ ချမ်းသာတဲ့ကမ္ဘာ့နိုင်ငံတွေဟာ လူမှုဖူလုံရေးစနစ်တွေကို သက်ဆိုင်ရာနိုင်ငံအလိုက်ကျင့်သုံးခဲ့ကြတယ်။ ဒီလိုကျင့်သုံးကြတာကြောင့်



မညီမျှမှုအဆင့်ဟာ သိသိသာသာလျော့ကျလာခဲ့တယ်။ မိသားစုအားလုံးကို ပညာသင်ကြားခွင့်နဲ့ ကျန်းမာရေးစောင့်ရှောက်ခွင့်တွေ ရရှိအောင်လုပ်ဆောင်ပေးခဲ့ကြတယ်၊ အထူးသဖြင့် စကင်ဒီနေးဗီးယားနိုင်ငံတွေဟာ မိသားစုတွေကို အခွင့်အလမ်းညီညီမျှမျှရအောင် လုပ်ဆောင်ပေးနိုင်ခဲ့ကြတယ်၊ တိုင်းပြည်တစ်ပြည်ကို ဦးစီးခန့်ခွဲရာမှာ "Swedish Model"လို့ ညွှန်းဆိုပြောကြတာမျိုးတွေကိုတောင် တွေ့ခဲ့ရတယ်။

ဒါပေမဲ့ ဆင်းရဲသားတွေကို ပိုပြီးထောက်ပံ့ပေးနိုင်ဖို့ ချမ်းသာသူတွေဆီကနေ အခွန်တွေ တိုးကောက်ဖို့ ဆိုတာက လုံလောက်တဲ့အဖြေတစ်ခုတော့မဟုတ်ဘူး။ ယူကေမှာ ၁၉၇၇ ခုနှစ်မှာ ချမှတ်ကောက်ခံခဲ့ရတဲ့ လေဘာပါတီအစိုးရဟာ ဒါ့ဒီလိုကတိကျကျလုပ်ဆောင်ခဲ့ဖူးတယ်၊ သူတို့အာဏာရပြီး ပထမဆယ်စုနှစ်အတွင်းမှာ ပိုင်ဆိုင်မှုမရှိဘဲ မိသားစုကို မိခင် သို့မဟုတ် ဖခင်တစ်ဦးတည်းက တာဝန်ယူရတဲ့ သူတစ်ယောက်ရဲ့ဝင်ငွေဟာ ဈမ်းမျှ ၁၁% လောက်အထိ တိုးတက်လာခဲ့တယ်။ ဒါပေမဲ့ တစ်ချိန်တည်းမှာပဲ၊ မကြာသေးမီ ဆယ်စုနှစ်တွေအတွင်းမှာ မညီမျှမှုအဆင့်ဟာလည်း အမြင့်ဆုံးအဆင့်ကို ရောက်လာခဲ့ပြီး အခုထိလည်း ထိုးရှားနေတုန်းပဲ။ စီးပွားရေးပူးပေါင်းဆောင်ရွက်ရေးနဲ့ ဖွံ့ဖြိုးရေးအဖွဲ့ (OECD)ရဲ့ လေ့လာမှုတစ်ရပ်အရ သားတစ်ယောက်ရဲ့ဝင်ငွေကို ဖခင်တစ်ယောက်ရဲ့ ဝင်ငွေနဲ့ အနီးစပ်ဆုံးဖြစ်အောင် လုပ်ထားတာကြောင့် လူငယ်ရာကိုတ်တွေအဖို့ ဆင်းရဲတွင်းကလွတ်ဖို့ရာ အခွင့်အလမ်းနည်းပါးခဲ့ရတယ်။

## ကွဲပြားခြားနားမှုကို ဖြစ်ပေါ်စေခြင်း

တုမှုဂါတွေက အင်တာနက်နဲ့ အဆင့်မြင့်ဆက်သွယ်ရေးနည်းပညာတို့လို နည်းပညာသစ်တွေကို လက်ကိုင်ပြုအမြတ်ထုတ်လာကြတာကြောင့် ကမ္ဘာကြီးဟာ စီးပွားရေးအထောက်အုံဆိုင်ရာ ကြီးမားတဲ့ အရွေ့အပြောင်းကြီးရဲ့ အလယ်ကို ရောက်နေရတယ်၊ ဒီလိုအရွေ့အပြောင်းတွေဖြစ်တိုင်းမှာ မညီမျှမှုက ပိုပိုပြီး မြင့်တက်လာတတ်တယ်။ အရွေ့အပြောင်းအတွက် ပြင်ဆင်ထားခဲ့သူတွေက ပိုပြီးချမ်းသာကြွယ်ဝလာကြပြီး မပြင်ဆင်ထားသူတွေကတော့ နောက်ကျကျန်ခဲ့တာပါပဲ။ ဒီလိုဖြစ်ရပ်မျိုးတွေက စက်မှုတော်လှန်ရေးကာလတုန်းက ဖြစ်ခဲ့သလိုပဲ၊ ဒီနေ့ခေတ်မှာလည်း ဖြစ်နေတုန်းပါပဲ၊

နောက်ထပ်ရှင်းပြချက်တစ်ခုက အလွန်အကျွံချမ်းသာလာဖို့ဆိုတာ လက်တစ်ဆုပ်စာ လူတွေလောက်ကပဲ လုပ်နိုင်တာပါလို့ ဆိုတယ်။ ယူကေမှာဆိုရင် လူ ၃ သန်းမှာ ထိပ်ဆုံးက အလုပ်သမားဆယ်ပုံတစ်ပုံကသာ အခွန်မဆောင်ခင် ပျမ်းမျှဝင်ငွေ ပေါင် ၁၀၅၀၀၀ လောက် ရတာဖြစ်ပြီး ဒီလူဦးရေက သုံးသောင်းလောက်ပဲရှိတာကြောင့် ထိပ်ဆုံးက ၀.၁ % လို့ဆိုရမယ်၊ သူတို့ရဲ့တစ်နှစ်ပျမ်းမျှဝင်ငွေက ပေါင် ၁.၁ သန်းလောက်ရှိတယ်၊ အဲ့ဒီအလွန်ဝင်ငွေကောင်းတဲ့ သူတွေဟာ မကြာခဏဆိုသလို အခွန်ရှောင်ဖို့ အခွန်အကောက်နည်းတဲ့နိုင်ငံတွေဆီကို ရွှေ့သွားတာမျိုးတွေတွေ့ရတယ်။ အခွန်အကောက်သက်သာတဲ့ နိုင်ငံတွေဟာ ဝင်ငွေပြန်လည်ခွဲဝေဖြန့်ဖြူးမှုနည်းတဲ့ အခွန်အကောက်သက်သာတဲ့ နိုင်ငံတွေဟာ ဝင်ငွေပြန်လည်ခွဲဝေဖြန့်ဖြူးမှုနည်းတဲ့ နိုင်ငံတွေပဲ။ တစ်ဖက်ကကြည့်ရင် ချမ်းသာတဲ့ အဲ့ဒီမိသားစုတွေဟာ သူတို့ပေးလိုက်ရတဲ့ နိမ့်ပါးတဲ့အခွန်ကို အလွန်အကျွံသုံးစွဲကြတာကြောင့် သူတို့ပေးလိုက်ရတဲ့ နိမ့်ပါးတဲ့အခွန်ကို သွယ်ဝိုက်ဖြည့်ဆည်းပေးနေတာပါပဲ။ သွယ်ဝိုက်ခွန်တွေကလည်း စီးပွားရေးထဲကို သွယ်ဝိုက်ဖြည့်ဆည်းပေးနေတာပါပဲ။ ဥပမာ သူတို့ခန့်လိုက်တဲ့ သန့်ရှင်းရေးနဲ့ အိမ်အကူလိုအလုပ်သမားမျိုးတွေကနေ ရှေ့နေတွေ၊ ဒါ့အပြင် သူတို့ခန့်လိုက်တဲ့ သန့်ရှင်းရေးနဲ့ အိမ်အကူလိုအလုပ်သမားမျိုးတွေကနေ ရှေ့နေတွေ၊ အလှဖန်တီးရှင်တွေအထိ သူတို့ရဲ့အလုပ်သမားတွေဆီကိုလည်း သူတို့ရဲ့ငွေတွေက စီးဆင်းနေတာပါပဲ၊ ဒီဖြစ်ရပ်မျိုးကို ချမ်းသာတဲ့လူတန်းစားအလွှာကနေ ဆင်းရဲတဲ့ လူတန်းစားအလွှာကို ဥစ္စာနေပျံ့နှံ့ရောက်ရှိတဲ့ဖြစ်စဉ် (trickle-down effect)လို့ ခေါ်ကြတယ်။

## မညီမျှမှုအကျိုးဆက်များ

အချိန်ကြာလာတာနဲ့အမျှ မညီမျှမှုအဆင့်မြင့်မားတာက နိုင်ငံတစ်နိုင်ငံကို ပိုပြီးချမ်းသာမလာအောင် အတားအဆီးဖြစ်စေမယ်ဆိုတာမျိုး တစ်ခုလုံးခြုံပြီး ယူဆလို့တဲ့ ရှင်းလင်းတဲ့လက္ခဏာရပ်မျိုးတော့ မရှိပါဘူး။ တကယ်တော့ ထင်ရှားတဲ့ စီးပွားရေးပညာရှင် ရောဘတ်ဘာရို (Robert Barro) က ဖွံ့ဖြိုးဆဲကမ္ဘာမှာတော့ မညီမျှမှုက တိုးတက်မှုကို လျော့ကျစေတယ်လို့ ထင်မှတ်စရာရှိပေမယ့်၊ ဖွံ့ဖြိုးပြီးကမ္ဘာမှာတော့ မညီမျှမှုက တိုးတက်မှုကို တကယ့်ကိုပဲ မြင့်တက်စေတဲ့အရာပါလို့ ဆိုတယ်။

ဒါပေမဲ့ ဥစ္စာနေကွာဟမှုက တိုင်းပြည်ကို တခြားနည်းလမ်းတွေနဲ့လည်း ပျက်စီးဆုံးရှုံးမှုတွေ ဖြစ်စေနိုင်ပါတယ်။ အဝိုက စိုးနိမ့်ဝရောတစ်ချက်က လူမှုရေးမတည်ငြိမ်မှုနဲ့ သက်ဆိုင်ပါတယ်။ လေ့လာတွေ့ရှိမှုတွေက ဝင်ငွေမညီမျှမှုနည်းပါးတဲ့ နိုင်ငံတွေနဲ့ နယ်မြေတွေမှာ



လူတွေဟာ တစ်ယောက်ကိုတစ်ယောက် ပိုပြီးယုံကြည်မှုရှိကြတယ်လို့ ဆိုတယ်၊ လူတွေဟာ တစ်ယောက်ကိုတစ်ယောက် ဝင်ငွေကွာဟမှုနည်းပါးတာကြောင့် လူတွေဟာတစ်ယောက်ကိုတစ်ယောက် နောလိုဝရောသိပ်အကြောင်းမရှိဘူးလို့ ယူဆကြတာဖြစ်တယ်၊ အကြမ်းဖက်မှုတွေ၊ လူသတ်မှုတွေလည်း နည်းသွားတာတွေ့ရတယ်။ ဥပမာပြရရင် အမေရိကန်ပြည်ထောင်စုက ပြည်နယ်တွေကြားမှာ ဥစ္စာနေကွာဟမှုကြီးမားတာနဲ့ လူသတ်မှုဖြစ်ပွားနှုန်း မြင့်မားတဲ့ အဆောက်အဝင်ကို အခိုင်အမာတွေ့ရတယ်လို့ ဆိုတယ်၊

ဝင်ငွေနည်းပါးမှုက ကျန်းမာရေးညံ့ဖျင်းမှုနဲ့ နီးနီးကပ်ကပ်ဆက်နွယ်နေတယ်။ ဖော့တလန်တောင်ပိုင်းက ဂလက်စကိုမြို့မှာ ဆင်းရဲချမ်းသာကွာဟမှုအတော်လေး မြင့်မားတယ်။ ဒါကြောင့် ဒီမြို့လေးရဲ့အမျိုးသားပျမ်းမျှသက်တမ်းဟာ အယ်လ်ဂျီးရီးယား၊ ဒီကျစ်၊ တူရကီနဲ့ ဗီယက်နမ်တို့လို ဖွံ့ဖြိုးဆဲနိုင်ငံတွေထက်တောင် အများကြီးနိမ့်ကျတယ်။

ဒီလိုမညီမျှမှုပြဿနာတွေက စီးပွားရေးနယ်ပယ်မှာတင် တွေ့ရတာမဟုတ်ဘူး။ လူတွေရဲ့ တစ်ဦးချင်းထုတ်လုပ်နိုင်စွမ်းကို အားဖြည့်ပေးတဲ့ မိမိကိုယ်ကိုယ်ထိုက်တန်မှုရှိတယ်လို့ ခံယူထားတာ တခြားသူတွေနဲ့ သူတို့ကိုယ်သူတို့ နှိုင်းယှဉ်ပုံတွေကနေ ရလာတာဖြစ်တယ်။ လူတွေဟာ တခြားသူတွေနဲ့ ယှဉ်လိုက်ရင်သူတို့ရဲ့ဝင်ငွေနိမ့်ကျနေတယ်လို့ သတိထားမိတဲ့အခါ ကျေနပ်ရောင့်ရဲမှုလျော့ကျလာတတ်ပြီး ကြိုးစားလုပ်ကိုင်လိုစိတ်လည်း ကျဆင်းလာတတ်တယ်လို့ဆိုတယ်၊

လေ့လာမှုတစ်ခုက အကယ်ဒမီရတဲ့ မဟာလိဂ်ဒ်ရုပ်ရှင်သရုပ်ဆောင်တွေဟာ အကယ်ဒမီမရတဲ့ သရုပ်ဆောင်တွေထက် ပျမ်းမျှအသက်လေးနှစ်ပိုရှည်ပြီး နှစ်ထပ်ကွမ်းအော်စကာရသူတွေကတော့ အသက်ခြောက်နှစ်လောက်ပိုရှည်တယ်လို့ ဆိုတယ်၊ တစ်ခုခုကို ပြင်းပြင်းထန်ထန်ကြိုးစားလုပ်ကိုင်ရကျိုးနပ်ခြင်းက ကျွဲပြားခြားနားမှုတွေကို ဖြစ်စေပါတယ်၊ ဂုဏ်ယူကျေနပ်ရတာ၊ ဝီတိဖြစ်ရတာ၊ ငွေရှိုးမြင့်ခံရတာတွေ ကြုံတွေ့ရတယ်၊ မကြုံတွေ့ရဘူးဆိုတာဟာ မညီမျှမှုအခြေအနေတွေပါပဲ။

အနှစ်ချုပ်အတွေးအခေါ်

**ဥစ္စာဓနကွာဟမှုက နိုင်ငံတွေကို တည်ငြိမ်မှုမဲ့ဖြစ်စေလိမ့်မယ်**

# ၄၀ - ဂလိုဘယ်လိုက်ဇေးရှင်း

## Globalization

**အရင်းရှင်ဝါဒဆိုတဲ့ စကားရပ်ကို ဂုဏ်တင်ပေါ် ပြုပြီး သုံးတာမျိုးထက် ဗိနိုပ်မှုပုံစံမျိုး၊ စော်ကားတဲ့အသုံးမျိုး ပိုပြီးသုံးခဲ့ကြသလိုပါပဲ၊ ဂလိုဘယ်လိုက်ဇေးရှင်းဆိုတဲ့ စကားရပ်ကိုလည်း ၂၁ ရာစုကမ္ဘာ့စီးပွားရေးကို အမွှမ်းတင်ချီးကျူးဖို့ထက် ဝေဖန်ပြစ်တင်ဖို့ ပိုပြီး သုံးစွဲခဲ့ကြတာ ဖြစ်တယ်။ ဂလိုဘယ်လိုက်ဇေးရှင်းက မလေးရှားကအလုပ်သမားတွေကို မငြိမ်းချမ်းစေတဲ့ ... call centre တွေ၊ ဘာရာဇီးက သစ္စာတွင်း စီးပွားရေး လုပ်ငန်းတွေ၊ အိန္ဒိယတောင်ပိုင်းက call centre တွေ၊ ဘာရာဇီးက သစ္စာတွင်း တွေနဲ့ ကမ္ဘာတစ်လွှားက မက်ဒေါနယ်ဆိုင်ခွဲတွေ၊ စတားဘက်ခ်ကော်ဖီဆိုင်ခွဲတွေရဲ့ ပုံရိပ်တွေကို နှိုးဆွပေးခဲ့တယ်။**

အပေါ်ကအရာတွေအားလုံးဟာ ဂလိုဘယ်လိုက်ဇေးရှင်းရဲ့အကျိုးဆက်တွေပဲဖြစ်ပြီး ဒီဖြစ်ရပ်တွေကို ဖော်ပြဖို့ စကားလုံးဝေါဟာရသက်သက်ဖေါ်ပြချက်အရတော့ အင်မတန် အထင်မှားအမြင်မှားဖြစ်စရာဖြစ်ပါလိမ့်မယ်။ စီးပွားရေးပညာရပ်မှာတော့ ဂလိုဘယ်လိုက်ဇေးရှင်းဆိုတာ ကမ္ဘာကြီးရဲ့နယ်နိမိတ်တွေကို ကျော်ခွတည်ရှိနေတဲ့ ကုန်သွယ်ရောင်းဝယ်ရေးနဲ့ စီးပွားရေးအချိတ်အဆက်တွေကို ညွှန်းဆိုတဲ့စကားရပ်ပါပဲ။

### ရှေးပဝေသဏီကတည်းကလား

အမေရိကကုန်းမြေကို ကိုလံဘတ်စတွေ့ခဲ့တဲ့ ၁၄၉၂ ခုနှစ်ကတည်းက ဂလိုဘယ်လိုက်ဇေးရှင်းရဲ့အရေးပါမှုက ကြီးထွားလာခဲ့တယ်။ ဒါပေမဲ့ ဥရောပနဲ့ အရှေ့တိုင်းကတော့ ဒီ့အရင်ကတည်းက နိုင်ငံတကာကုန်သွယ်ရေးမှာ တက်တက်ကြွကြွ ရှိနေခဲ့ပြီးဖြစ်တယ်၊ ၁၉၀၀ နှစ်တွေကတည်းက ဒီစကားလုံးက ပျံ့နှံ့တည်ရှိနေခဲ့တာဖြစ်ပြီး စစ်အေးဆိုက်ခဲ့ ... ဆယ်စုနှစ်တွေကိုတော့ အဆုံးသတ်ချိန်၊ ဘာလင်တံတိုင်းပြိုကျသွားပြီးနောက်ပိုင်း ...

**အချိန်ပြဇယား:**

| ၁၈၀၀ နှစ်များ | ၁၉၁၄ | ၁၉၈၀ နှစ်များ | ၁၉၈၉ | ၂၀၀၇ |
|---|---|---|---|---|
| ဂလိုဘယ်လိုက်ဇေးရှင်း ပထမခေတ် | ပထမကမ္ဘာစစ်က ပထမခေတ်ကို အဆုံးသတ်စေခဲ့ | စီးပွားရေးဆိုင်ရာ ဂလိုဘယ်လိုက်ဇေးရှင်းဖြစ်စဉ်အသစ် ပထမဆုံးလှုပ်ရှားမှုများ | Tim Berners-Lee က အင်တာနက်ကွန်ရက် World Wide Web ကို တီထွင်ခဲ့ပြီးခ | ကမ္ဘာ့အနှံ့ ရင်းနှီးမြှုပ်နှံမှုနဲ့ ကုန်သွယ်ရေး စီးဆင်းမှုတွေဟာ စံချိန်တင် ထိပ်ဆုံးရောက်ခဲ့တယ်လို့ ကုလသမဂ္ဂအစီရင်ခံစာက ဖော်ပြခဲ့ |



ဂလိုဘယ်လိုက်ဇေးရှင်းရဲ့ အထွတ်အထိပ်ရောက်ဖြစ်တဲ့ကာလလို့ အသိအမှတ်ပြုခဲ့ကြတာ ဖြစ်ပေမယ့် နိုင်ငံတကာကုန်သွယ်ရေး၊ ကုန်သွယ်ရောင်းဝယ်ရေးနဲ့ လူတွေတစ်နေရာက တစ်နေရာကို ရွှေ့ပြောင်းနေထိုင်ကြတဲ့ ပထမဆုံးခေတ်နဲ့တော့ အဲဒီတုန်းက အလုပ်အကိုင်တွေ ... ဆိုရမယ်၊ တကယ်တော့ ဒီချီးကျူးထောမနာပြုမှုက ဝိတိုရိယခေတ်ကို အရောက်သွားရမှာ ဖြစ်ပါတယ်၊ ၁၉ ရာစုနှောင်းပိုင်းကာလ၊ ၁၉၁၄ ခုနှစ်မတိုင်မီ ပြိတိသျှအင်ပါယာ ... အထွတ်အထိပ်ရောက်ရှိနေမှာ ဂျွန်မေးနတ်ကိန်းက အခုလိုဖေါ်ပြခဲ့တယ်။

> "လန်ဒန်မှာနေတဲ့ သူတစ်ယောက်ဟာ မနက်စာလက်ဖက်ရည်လေးသောက်ရင်း ကမ္ဘာကြီးတစ်ခုလုံးက ထွက်ရှိတဲ့ ကုန်ပစ္စည်းအမျိုးမျိုးကို တယ်လီဖုန်းဆက်ပြီး မှာယူနိုင်ပါတယ်၊ သူတို့ရဲ့ကုန်ပစ္စည်းဖြန့်ဝေမှုဟာ သူ့ရဲ့အိမ်တံခါးဝအထိ ရောက်လာမယ်လို့လည်း လက်တွေ့ကျကျမျှော်လင့်လို့ရနေပြီဖြစ်ပါတယ်၊ တစ်ချိန်တည်းမှာပဲ အလားတူနည်းလမ်း မျိုးကိုသုံးပြီး သူ့ရဲ့ဥစ္စာဓနတွေကို သဘာဝအရင်းအမြစ်တွေမှာ၊ ကမ္ဘာ့နေရာအနှံ့က လုပ်ငန်းအသစ်တွေမှာ စွန့်စားမြှုပ်နှံမှုတွေလုပ်ပြီး ဒီလုပ်ငန်းတွေရဲ့ အကျိုးအမြတ်၊ အသီးအပွင့်တွေကို ဝေမျှခံစားနိုင်နေပြီဖြစ်ပါတယ်။"

ဒီခေတ်ကြီးဟာ ပထမကမ္ဘာစစ်သက်သက်ကြောင့် အဆုံးသတ်ခဲ့တာမဟုတ်ဘဲ၊ မဟာစီးပွား ပျက်ကပ်နောက်ပိုင်း၊ ကိုယ်ကျိုးစီးပွားကာကွယ်ရေးဝါဒ ခေတ်စားချိန်မှာ အဆုံးသတ်သွားခဲ့ရတာပါ၊ ခေတ်သစ်ဂလိုဘယ်လိုက်ဇေးရှင်းဖြစ်စဉ်ကြီးကိုလည်း အလားတူစိတ်မချမ်းမြေ့စရာအဆုံးသတ်နဲ့ ကြုံတွေ့ရမှာကို လူအများက စိုးရိမ်ထိတ်လန့်ကြတယ်။

### နောက်ကွယ်က သော့ချက်အကြောင်းတရားများ

ဂလိုဘယ်လိုက်ဇေးရှင်းနောက်ကွယ်မှာ သော့ချက်အကြောင်းတရား ငါးချက်ရှိတယ်။

လွတ်လပ်တဲ့ကုန်သွယ်ရေး၊ ကမ္ဘာတစ်လွှားကအစိုးရတွေဟာ သွင်းကုန်၊ ပို့ကုန်တွေအပေါ် အကောက်ခွန်ကောက်ခံမှုတွေနဲ့ ကုန်သွယ်ရေးအတားအဆီးများစွာကို ဖြိုဖျက်ခဲ့ကြပြီးဖြစ်တယ်၊ ဥပမာ - ၁၉၈၀ နှောင်းပိုင်းနှစ်တွေနဲ့ ၁၉၉၀ အစောပိုင်းနှစ်တွေမှာ လွတ်လပ်တဲ့ဈေးကွက်ဆိုင်ရာ

မြန်မြန်ပြောင်းလဲမှုတွေကို သဘောတူလက်ခံကြပြီးတဲ့နောက်ပိုင်းမှာ ပို့ကုန်ဈေးကွက်ပေါ်က တားဆီးကန့်သတ်မှုပေါင်းများစွာကို တရုတ်နိုင်ငံကဖယ်ရှားပေးခဲ့တယ်။ တရုတ်နိုင်ငံရဲ့ ရေလှုဦးရေနဲ့ နိမ့်ကျတဲ့ လုပ်ခလစာနှုန်းတွေကြောင့် ကုန်ပစ္စည်းတွေကို ဈေးပေါပေါနဲ့ ထုတ်လုပ်နိုင်တယ်။ အဲဒါကြောင့် တရုတ်နဲ့ သူ့အိမ်နီးချင်းနိုင်ငံတွေကထွက်တဲ့ ဈေးပေါတဲ့ကုန်ပစ္စည်းတွေဟာ ချမ်းသာတဲ့နိုင်ငံတွေဆီကို စုပြုံစီးဝင်လာခဲ့တယ်။

**ပြင်ပအရင်းမြစ်ရှာဖွေခြင်း။** ကုမ္ပဏီတွေဟာ သူတို့ရဲ့ကုန်ပစ္စည်းထုတ်လုပ်မှုတွေနဲ့ ဝန်ဆောင်မှုလုပ်ငန်းတွေကို နိုင်ငံခြားက ပိုပြီးဈေးပေါတဲ့ဒေသတွေဆီကို ရွှေ့ပြောင်းလုပ်ကိုင်ကြခြင်းအားဖြင့် ငွေကြေးကုန်ကျမှုတွေကို ပိုပြီးသက်သာစေနိုင်ခဲ့တယ်၊ ထုတ်လုပ်သူတွေဟာ ယူအက်စ်နဲ့ ယူကေမှာရှိတဲ့ သူတို့ရဲ့စက်ရုံတွေကို ပိတ်သိမ်းပြီး တရုတ်၊ မက္ကဆီကိုနဲ့ တခြားလုပ်ခ ဈေးချိုတဲ့ နိုင်ငံတွေဆီကို ပြောင်းရွှေ့ခဲ့ကြတယ်၊ အံ့ဩစရာကောင်းတာကတော့ လုပ်ငန်းခွင် အခြေအနေက ညှိုးနွမ်းလွန်းတာပါပဲ။ ဝန်ဆောင်မှုကုမ္ပဏီပေးတဲ့တွေကလည်း သူတို့ရဲ့ call centre တွေနဲ့ အဓိကလုပ်ငန်းတချို့ကိုတောင်မှ အိန္ဒိယနဲ့ တခြားအင်္ဂလိပ်စကားပြော ကျွမ်းကျင်သူတွေပေါတဲ့ နိုင်ငံတွေဆီကို ရွှေ့ပြောင်းခဲ့ကြတယ်၊

**ဆက်သွယ်ရေးနည်းပညာတော်လှန်ရေး။** အဓိက တော်လှန်ရေးကြီးနှစ်ရပ်က နိုင်ငံတကာ ကုန်သွယ်ရေးရဲ့ လည်ပတ်မှု အရှိန်ကောင်းလာစေဖို့ ချောဆီထိုးပေးခဲ့တယ်။ ပထမတော်လှန်ရေးကို "ကွန်တိန်နာရိုက်ဇေးရှင်း" လို့ခေါ်တယ်။ ကမ္ဘာအနှံ့ကုန်စည်တွေ ပို့ဆောင်ရာမှာ စံချိန်မီအရွယ်အစားရှိတဲ့ ကွန်တိန်နာတင်သင်္ဘောကြီးတွေနဲ့ ပို့ဆောင်တဲ့ နည်းလမ်းကိုသုံးပြီး ကုန်သွယ်လာတာကြောင့် ဝရိတ်စကတွေလျော့ကျလာသလို၊ ခရီးလည်းပိုပြီးတွင်ကျယ်လာတယ်။ ဒုတိယတော်လှန်ရေးကတော့ broadband နည်းပညာကြောင့်ပဲ။ ၁၉၉၀ နှစ်တွေမှာ အင်တာနက်သုံးစွဲမှု တစ်ဟုန်ထိုး တိုးတက်လာတာကြောင့် အင်ဂျင်နီယာတွေဟာ နိုင်ငံတကာဖုန်းမျှင်ဆက်သွယ်ရေးကြိုး (fibre-optic) ကွန်ရက်သစ်တည်ဆောက်မှုမှာ ဘီလီယံနဲ့ချီပြီး ငွေကြေးသုံးစွဲခဲ့ကြတယ်၊ သိပ်မကြာခင်မှာ ဒေါ့ကွန် (dot-com) စန်းပွင့်မှုပျက်ပြယ်သွားခဲ့ပေမယ့်၊ သတင်းအချက်အလက် စီးဆင်းမှုကမ္ဘာလုံးဆိုင်ရာ ပင့်ကူမျှင်ကွန်ရက် (global web) ကြီးက အင်တာနက်ကို ဈေးသက်သက်သာသာနဲ့ လျင်လျင်မြန်မြန် သုံးစွဲလာနိုင်စေတယ်။

**ပြေလျှော့ပေးခြင်း။** စစ်အေးကာလအတွင်းမှာ နိုင်ငံခြားနဲ့ အဆက်အသွယ်မလုပ်ဘဲ တံခါးပိတ်ခဲ့ကြတဲ့နိုင်ငံတွေဟာ ပြင်ပကမ္ဘာနဲ့ ပြန်လည်အဆက်အသွယ်ပြုလာကြတယ်၊



ဒီလိုလုပ်လာကြခြင်းက အနောက်တိုင်းကုမ္ပဏီတွေကို ဈေးကွက်သစ်တွေထဲဝင်ရောက်ဖို့ တွန်းအားပေးခဲ့တယ်။ အရင်းအနှီးထိန်းချုပ်မှုတွေကို ဖယ်ရှားလိုက်ခြင်းက အရင်ကမလုပ်ခဲ့ဖူးတဲ့ နည်းလမ်းတွေနဲ့ ဒီစီးပွားရေးနိုင်ငံသစ်လေးတွေရဲ့အတွင်းနဲ့အပြင်ကို ငွေကြေးတွေကို လွတ်လွတ်လပ်လပ်စီးဆင်းသွားစေတယ်၊ ဒီအခြေအနေမှာ ဖွံ့ဖြိုးပြီးနိုင်ငံတွေကအစိုးရတွေဟာ အလုပ်သမားဥပဒေတွေကို လျှော့ပေါ့ပေးခဲ့တာကြောင့် စီးပွားရေးလုပ်ငန်းတွေအနေနဲ့ အလုပ်သမား ငှားရမ်းတာနဲ့ အလုပ်ဖြုတ်တာတွေကို ပိုပြီးလွယ်လွယ်ကူကူဆောင်ရွက်လာနိုင်တယ်။

**ဥပဒေနှိုင်းဆိုင်ရာသဘောတာဖြစ်စေခြင်း။** ကမ္ဘာ့နိုင်ငံတွေဟာ သူတို့ရဲ့ပစ္စည်းဥစ္စာပိုင်ဆိုင်ခွင့်အခွင့်အရေးနဲ့ ဉာဏပစ္စည်း ပိုင်ဆိုင်မှုဆိုင်ရာဥပဒေတွေကို တန်းညှိကြဖို့ကြိုးစားကြတာ တွေ့ရတယ်။ အမေရိကန်ပြည်ထောင်စုက မူပိုင်ခွင့်မှတ်ပုံ တင်ထားမှုကို တရုတ်နိုင်ငံမှာလည်း လက်ခံအသိအမှတ်ပြုရမှာဖြစ်တယ်။ အပြန်အလှန်အားဖြင့်လည်း ဒီလိုသဘောရှိရမှာ ဖြစ်တယ်။ အနာဂတ်အဆီအဝဝ်တွေမှာတော့ ကုန်ပစ္စည်းအရည် အသွေးဆိုင်ရာ နိုင်ငံတကာစံနှုန်းသတ်မှတ်မှုတွေ လုပ်ဆောင်ရမှာဖြစ်တယ်၊ တရုတ်နိုင်ငံနဲ့ တချို့နိုင်ငံတွေက ထုတ်လုပ်လိုက်တဲ့ကုန်ပစ္စည်းတွေဟာ အတုထုတ်လုပ်တာတွေ ဖြစ်ပြီး အန္တရာယ်ဖြစ်စေတဲ့ ချို့ယွင်းချက်အပြစ်အနာအဆာတွေကို တွေ့ရတာကြောင့် ဒီလိုအတုအပ ထုတ်လုပ်မှုတွေကို ရှောင်ရှားဖို့လိုအပ်မှာဖြစ်ပါတယ်။

> "ဂလိုဘယ်လိုက်ဇေးရှင်းဆိုတာ လောကတံခါး မရှိတာတရားပဲ၊ ဒါပေမဲ့ သူ့ရဲ့နှုန်းမှုကိုတော့ လျှော့တွက်ခဲ့ကြတယ်လို့ ကျွန်တော်ထင်တယ်။"
>
> ကိုဖီအန်နန်

## ဂလိုဘယ်လိုက်ဇေးရှင်းကပေးတဲ့ အကျိုးအမြတ်

ဂလိုဘယ်လိုက်ဇေးရှင်းက ကမ္ဘာအနှံ့က သန်းပေါင်းနဲ့ချီတဲ့သူတွေကို ပိုပြီးသိသိသာသာချမ်းသာလာအောင်လုပ်ပေးခဲ့တယ်ဆိုတာ သံသယဖြစ်စရာမရှိပါဘူး။ ဘရာဇီး၊ အိန္ဒိယနဲ့ တရုတ်တို့လို နိုင်ငံတွေဟာ ပြည်ပပို့ကုန်တင်ပို့မှုမှာ အလုံးအရင်းနဲ့ ခုန်တက်လာခဲ့တယ်။ ဒါ့အပြင် ပြည်ပပို့ကုန် တင်ပို့သူအသစ်တွေရဲ့ဝင်ရောက်လာခြင်းက ကမ္ဘာအနှံ့မှာ ၁၉၉၇ ခုနှစ်ကစပြီး နောက်ပိုင်း ဆယ်စုနှစ်တစ်ခုနီးပါးကြာအောင် ငွေကြေးဖောင်းပွမှုကို လျော့ကျစေခဲ့တယ်၊ အကြောင်းကတော့ ကုမ္ပဏီတွေအနေနဲ့ ဝရိတ်စကတွေလျှော့ချဖို့ အခွင့်အရေးတွေရလာပြီး သူတို့ရဲ့စားသုံးသူ ဖောက်သည်တွေကို ဈေးသက်သက်သာသာနဲ့ ဝယ်ယူနိုင်အောင်လုပ်ဆောင်ပေးဖို့ အခွင့်အရေးရခဲ့တာကြောင့်ပဲဖြစ်တယ်။

တကယ်တော့ ၂၀၀၇ ခုနှစ်အထိတိုင်အောင် ၁၅ နှစ်လောက်ကြာရှည်ခဲ့တဲ့ "မဟာတည်ငြိမ်မှုကြီး" အပေါ် ဂလိုဘယ်လိုက်ဇေးရှင်းဖြစ်စဉ်က အဓိကတာဝန်ရှိတယ်ဆိုတာကို ပြဆိုဖို့ သက်သေအထောက်အထားတွေအများကြီးပါပဲ။ ဒီကာလအတွင်းမှာ ကမ္ဘာ့စီးပွားရေးဟာ ခါတိုင်းကြုံခဲ့ရတာထက်ပိုပြီး လျင်လျင်မြန်မြန်တိုးတက်ခဲ့ပြီး ပိုပြီးလည်း ကာလရှည်ကြာခဲ့တယ်၊ ငွေကြေးဖေါင်းပွမှုက နိမ့်ကျနေခဲ့ပြီး တည်ငြိမ်နေခဲ့တယ်။ ဒီနောက်မှာ ဘဏ္ဍာရေးအကျပ်အတည်းကြီးလိုက်လာခဲ့တာမှန်ပေမယ့် ဒါဟာ တခြားအကြောင်းအရာတွေကြောင့် အဓိကဖြစ်ရတာဖြစ်တယ် (အခန်း ၃၅ ကိုကြည့်ပါ)၊

## ဂလိုဘယ်လိုက်ဇေးရှင်းအပေါ် ဝေဖန်မှုများ

ဂလိုဘယ်လိုက်ဇေးရှင်းဖြစ်စဉ်အပေါ်သက်ဝင်ယုံကြည်မှုတွေ ကမ္ဘာတစ်လွှားပိုပြီး လျင်လျင်မြန်မြန် ပျံ့နှံ့လာလေလေ၊ ဝေဖန်သံတွေကလည်း နားကြားပြင်းကတ်လောက်အောင် ပိုပြီးကျယ်လောင်လာလေပါပဲ။ အဓိကအင်စတီကျူးရှင်းပေါင်းစုံရဲ့ အစည်းအဝေးတွေက ထောင်ပေါင်းများစွာသော ဆန္ဒပြသူတွေကိုပုံမှန်ဆွဲဆောင်ထားခဲ့ပါတယ်။ ၂၀၀၃ ခုနှစ်မှာ ကျင်းပခဲ့တဲ့ ကမ္ဘာ့ကုန်သွယ်ရေးအဖွဲ့ကြီးရဲ့အစည်းအဝေးကို လယ်ယာစိုက်ပျိုးရေးအထောက်အပံ့တွေဖယ်ရှားလိုက်လို့ တောင်ကိုရီးယားလယ်သမားတစ်ဦး ကိုယ့်ကိုယ်ကိုယ်သတ်သေလိုက်ခြင်းက ရုပ်ပျက်ဆင်းပျက်ဖြစ်စေခဲ့တယ်။ Naomi Klein၊ Joseph Stiglitz နဲ့ Noam Chomsky တို့အပါအဝင် ဂလိုဘယ်လိုက်ဇေးရှင်းဆန့်ကျင်သူတွေက ဂလိုဘယ်လိုက်ဇေးရှင်းအပေါ် တက်တက်ကြွကြွ ထောက်ခံသူတွေကို နီယိုလစ်ဘရယ်လစ်တွေလို့ မကြာခဏတံဆိပ်ကပ်ခဲ့ကြတယ်။ သူတို့ဟာ ဒီဖြစ်စဉ်အပေါ်မှာ ရှုထောင့်သုံးရပ်ကနေ တိုက်ခိုက်ဝေဖန်ခဲ့ကြတယ်။

**စီးပွားရေး ။** သူတို့က ဂလိုဘယ်လိုက်ဇေးရှင်းဖြစ်စဉ်ဟာ ကမ္ဘာ့အနှံ့က ထုတ်လုပ်လိုက်တဲ့ ဥစ္စာဓနစုစုပေါင်းကို တွန်းတင်ပေးခဲ့ပေမယ့် ဒီဥစ္စာဓနတွေကို အချိုးကျကျမျှဝေနိုင်မှု မရှိခဲ့ဘူးလို့ဆိုတယ်။ တကယ့်ကိုပဲ မညီမျှမှုအဆင့်အတန်းက ၁၉၃၀ ကတည်းကစပြီးကြည့်ရင် အမြင့်ဆုံးအခြေအနေကို ရောက်ခဲ့တယ်လို့ဆိုတယ် (အခန်း ၃၉ ကိုကြည့်ပါ)။ ကမ္ဘာ့ကုန်သွယ်ရေးရဲ့ကျေးဇူးကြောင့် တချို့လူတွေကို ဘီလီယံနာတွေဖြစ်လာစေခဲ့ပေမယ့် အဆင်းရဲဆုံးနိုင်ငံတွေက လူတွေကတော့ အလွန်အမင်းဆင်းရဲတဲ့အခြေအနေမှာပဲ ကျန်နေရစ်တုန်းပဲလို့ သူတို့က ဝေဖန်ခဲ့တယ်။

**လူ့အခွင့်အရေး ။** အဝတ်အထည်နဲ့ ဖိနပ်မျိုးစုံထုတ်လုပ်တဲ့သူတွေဟာ အလုပ်သမားတွေကို အလွန်နည်းပါးတဲ့ လုပ်ခလစာပဲပေးပြီး စိတ်ပျက်စရာကောင်းတဲ့ လုပ်ငန်းခွင်အခြေအနေထဲမှာ အချိန်အကြာကြီးခိုင်းစေမှုတွေအပေါ် အပြင်းအထန်ဝေဖန်ခံခဲ့ကြရတယ်။



**ယဉ်ကျေးမှု ။** နိုင်ငံစုံကော်ပိုရေးရှင်းကြီးတွေရဲ့ ဩဇာလွှမ်းမိုးမှုမြင့်တက်လာခြင်းနဲ့ အနောက်တိုင်းကုန်အမှတ်တံဆိပ်တွေရဲ့ လွှမ်းမိုးကြီးစိုးမှုမြင့်တက်လာနေခြင်းက ဒေသခံတွေရဲ့ ယဉ်ကျေးမှုဆိုင်ရာအမှတ်အသားသရုပ်သကန်တွေကို ဆက်လက်ထိန်းသိမ်းဖို့ အခက်အခဲဖြစ်စေပြီး လွတ်လပ်ပြီးအမှီအခိုကင်းတဲ့ ဈေးဆိုင်ငယ်လေးတွေနဲ့ ထုတ်လုပ်သူတွေကို ဘေးဖယ်ထုတ်လိုက်သလိုဖြစ်စေတယ်လို့ ဝေဖန်သူတွေက ထောက်ပြခဲ့ကြတယ်။

## ငြိမ်းချမ်းရေးနဲ့ ဒီမိုကရေစီခေတ်လား

ဂလိုဘယ်လိုက်ဇေးရှင်းအပေါ် ဝေဖန်မှုတွေမျိုးစုံရှိနေပေမယ့် အဘက်ဘက်က ပြန်ကြည့်လိုက်ရင် ဂလိုဘယ်လိုက်ဇေးရှင်းဖြစ်စဉ်ကို တွေ့ကြုံလက်ခံခဲ့တဲ့တိုင်းပြည်တွေမှာ လူနေမှုအဆင့် သိသိသာသာ မြင့်မားလာခဲ့တာကို တွေ့ရမှာဖြစ်တယ်၊ အရင်းရှင်ဝါဒမှာလိုပဲ၊ အကျိုးဖြစ်ထွန်းမှုတွေမှာတော့ အချိုးညီညာမဖြစ်ခဲ့ဘူးပေါ့။ ဒါ့အပြင် လုပ်လက်တန်းစားနဲ့ ပညာရှင်လုပ်တန်းစားတွေရဲ့ကံကြမ္မာတွေကို မြှင့်တင်ပေးနိုင်တဲ့ အချက်ကလည်း ဒီမိုကရေစီပျံ့နှံ့မှုကို အထောက်အကူဖြစ်စေတယ်လို့ ဆိုရမှာဖြစ်တယ်။ လုပ်လက်တန်းစားတွေရဲ့ ကြီးစိုးလွှမ်းမိုးလာမှု တိုးတက်လာခြင်းက ဒီမိုကရက်တစ်တန်ဖိုးတွေကို လူကြိုက်များစေဖို့ ပံ့ပိုးပေးတာကြောင့် တရုတ်နိုင်ငံမှာ ကွန်မြူနစ်ပါတီအနေနဲ့ အာဏာဆက်လက်ဆုပ်ကိုင်ထားဖို့ အကျပ်အတည်းဖြစ်စေလိမ့်မယ်လို့ နိုင်ငံရေးဆိုင်ရာ မဟာဗျူဟာမြောက်တွေးခေါ်သူတွေက သံသယရှိခဲ့ကြတယ်။

ဂလိုဘယ်လိုက်ဇေးရှင်းအပေါ် နောက်ထပ်ထောက်ခံမှုတစ်ခုက နိုင်ငံတွေကြားမှာ စီးပွားရေးအရ ဆက်ဆံမှုတွေပိုပြီး ခိုင်မာလာခြင်းဟာ တစ်နိုင်ငံနဲ့တစ်နိုင်ငံ စစ်ခင်းမှုကို တားမြစ်ပေးလိမ့်မယ်လို့ ဆိုတယ်။ ဂလိုဘယ်လိုက်ဇေးရှင်း ထောက်ခံသူ၊ အမေရိကန်ဂျာနယ်လစ်၊ The World is Flat စာအုပ်ရေးသားသူ သောမတ်စ်ဖရီးမင်းက မက်ဒေါနယ်ဆိုင်ရှိတဲ့ တိုင်းပြည်နှစ်ခု ဘယ်တုန်းကမှ စစ်မဖြစ်ခဲ့ဘူးတာ အမှန်ပဲလို့ ထောက်ခံခဲ့တယ်။ ဒါပေမဲ့ ၂၀၀၈ ခုနှစ်မှာ ရုရှားက ဂျော်ဂျီယာကို စစ်ပွဲဆင်နွှဲလိုက်တဲ့အခါ ဒီအဆိုကို မှားယွင်းသွားစေခဲ့တယ်။ ပထမကမ္ဘာစစ်နဲ့ [illegible] ချုပ်ခဲ့ရတဲ့ ပထမဂလိုဘယ်လိုက်ဇေးရှင်းခေတ်ကတော့ ကုန်သွယ်ရေးနဲ့ [illegible] ကမ္ဘာကြီးကို အပြီးတိုင်အပြောင်းအလဲဖြစ်စေမယ်လို့ ဘယ်တော့မှ ယူဆလို့ မရနိုင်ကြောင်း သင်ခန်းစာပေးခဲ့တယ်။

### အနှစ်ချုပ်အတွေးအခေါ်

**ဂလိုဘယ်လိုက်ဇေးရှင်းဆိုတာ အရင်းရှင်ဝါဒကို ပိုပြီးလှုပ်ရှားထက်မြက်စေတဲ့အရာ**

# ၄၁ - အားလုံးပါဝင်ရေးဝါဒ

## Multilateralism

**ထောင်စုနှစ်အကူးအပြောင်းနှစ်တွေမှာ ကမ္ဘာ့စီးပွားရေးပါဝါမှာ မကြုံစဖူး အကြီးမားဆုံးအရွေ့တစ်ခုကို ကြုံတွေ့လိုက်ရတယ်။ ကမ္ဘာ့စီးပွားရေးရဲ့ အပြောင်းအလဲဖြစ်စဉ်တွေနဲ့ဆိုင်တဲ့ အကြောင်းရင်းတွေဟာ အရင်ကြုံခဲ့ရတာတွေထက် ပိုပြီးမြန်မြန် စတင်ရွေ့လျားလာခဲ့တယ်။ တရုတ်နဲ့ အိန္ဒိယတို့ ဦးဆောင်တဲ့ပြိုင်ဘက်အသစ်တွေ ပေါ်ထွက်လာတာကြောင့် အမေရိကန်ပြည်ထောင်စုဟာ ကမ္ဘာ့ပြိုင်ဘက်ကင်း စူပါပါဝါ အနေအထားကနေ ဆုံးရှုံးသွားပြီလားလို့တောင် ထင်ရာဖြစ်လာခဲ့တယ်။ အတိတ်ကာလမှာ ဒီလိုအခိုက်အတန့်တွေဟာ မကြာခဏဆိုသလို ပထဝီနိုင်ငံရေး မတည်ငြိမ်မှုတွေကို မီးစပျိုးပေးခဲ့တယ်။ ဒါပေမဲ့ ဒီတစ်ကြိမ်ကတော့ အားလုံးပါဝင်ရေးဝါဒက ပဋိပက္ခတွေကို တားဆီးပေးလိမ့်မယ်လို့ စီးပွားရေးပညာရှင်တွေက မျှော်လင့်ခဲ့ကြတယ်။**

အားလုံးပါဝင်ရေးဝါဒဆိုတာအရေးကြီးတဲ့ ဆုံးဖြတ်ချက်တွေချမှတ်ရာမှာ နိုင်ငံတစ်နိုင်ငံက သူ့ဘာသာသူတစ်ဦးတည်း ဆုံးဖြတ်ချက်ချပြီး လုပ်ဆောင်တာမျိုး၊ ဒါမှမဟုတ် သူမိတ်ဖက်နိုင်ငံနဲ့ နှစ်နိုင်ငံပေါင်းပြီး ဆုံးဖြတ်ချက်ချလုပ်ဆောင်တာမျိုးထက် တခြားအဓိကနိုင်ငံတွေအားလုံးနဲ့ ပူးပေါင်းဆောင်ရွက်တာမျိုးကို ဆိုလိုတာဖြစ်တယ်။ ဒါဟာ အားလုံးသိပြီးသား အမြင်လို့ ထင်ရပေမယ့် ဂလိုဘယ်လိုက်ဇေးရှင်းခေတ်ကြီးမှာတောင်မှ စီးပွားရေးဆိုင်ရာအမျိုးသားရေးဝါဒက အားကောင်းတဲ့အင်အားတစ်ရပ် ဖြစ်နေတုန်းပါပဲ။

**အချိန်ပြဇယား:**

**၁၉၄၄** ဘရိုက်တန်ဝုဒ်ကွန်ဖရင့် - အိုင်အမ်အက်ဖ်နဲ့ ကမ္ဘာ့ဘဏ်ကိုတည်ထောင်

**၁၉၄၅** ကုလသမဂ္ဂအဖွဲ့ကြီးကို တည်ထောင်



နိုင်ငံတစ်နိုင်ငံကအကောက်ခွန်တွေတိုးမြှင့်ကောက်ခံလိုက်တဲ့အခါ၊ ဒါမှမဟုတ် သူ့ရဲ့ ငွေကြေးတန်ဖိုးကို တမင်ဖေါင်းပွအောင်လုပ်လိုက်တဲ့အခါ ဒီရဲ့အကျိုးဆက်က တခြားနိုင်ငံတွေကို အများအပြားပျက်ဆီးဆုံးရှုံးစေနိုင်တာ မကြာခဏဆိုသလို ကြုံတွေ့ရတယ်။ ဥပမာ - ၁၉၃၀ နှစ်တွေနဲ့ ထောင်စုနှစ်သစ်ရဲ့ပထမဆယ်စုနှစ်တွေမှာ ဖွံ့ဖြိုးပြီးနိုင်ငံတွေက သူတို့ရဲ့ငွေလဲနှုန်းကို အရှင်မျှောခွင့်ပေးထားပြီး အာရှနိုင်ငံတွေနဲ့ အရှေ့အလယ်ပိုင်းနိုင်ငံတွေက သူတို့ငွေကြေးကို ဒေါ်လာနဲ့အသေချိတ်ထားခဲ့တယ်။ ဒီအခြေအနေက ဖွံ့ဖြိုးဆဲနိုင်ငံတွေကို (သူတို့ရဲ့ပို့ကုန်တွေကို ဈေးသက်သာအောင် ထိန်းထားနိုင်တာကြောင့် နည်းနည်းတော့ ပိုပြီးမြန်မြန်ဆန်ဆန်တိုးတက်စေခဲ့ပေမယ့် ဒီအခြေအနေကပဲ ချမ်းသာတဲ့ကမ္ဘာမှာ ကြွေးမြီ အစုအပုံကြီးကိုဖြစ်ပေါ်စေခဲ့ပြီးနောက်ဆုံးမှာ ၂၀၀၈ ဘဏ္ဍာရေးအကျပ်အတည်းအထိဖြစ်စေခဲ့တယ်။

> ❝ ဈေးဝယ်မှုရဲ့ကောင်းကျိုးကြောင့် လူတစ်ယောက်ရဲ့ဖြုန်းတီးမှုဟာ တခြားသူတွေအားလုံးကိုအကျိုးပြုစေတယ်။ ❞
>
> **Frédéric Bastiat**
>
> ၁၉ ရာစုပြင်သစ်စီးပွားရေးပညာရှင်

ဒီပြဿနာတွေကို ရှောင်လွှဲဖို့ကြိုးပမ်းကြရင်းနဲ့ ကမ္ဘာ့အနှံ့က နိုင်ငံခေါင်းဆောင်တွေဟာ အားလုံးပါဝင်တဲ့ အင်စတီကျူးရှင်းတွေကို ဖွံ့ဖြိုးလာစေခဲ့တယ်။ ပထမဆုံးတစ်ခုက ပထမကမ္ဘာစစ်အပြီးမှာ အမေရိကန် သမ္မတဝီလဆင်စီစဉ်ခဲ့တဲ့ နိုင်ငံပေါင်းချုပ်အသင်းကြီးပဲ။ နောက်ပိုင်းမှာ ဒီအသင်းကြီးကို ကုလသမဂ္ဂအဖြစ်ပြောင်းလဲဖွဲ့စည်းခဲ့တယ်။ ဒုတိယကမ္ဘာစစ်ကြီး အပြီးမှာတော့ နိုင်ငံစုံပါဝင်တဲ့ စီးပွားရေးဆိုင်ရာ အင်စတီကျူးရှင်းကြီးတွေ တစ်သီကြီး ပေါ်ထွက်လာခဲ့တယ်။ ဒီအင်စတီကျူးရှင်းကြီးတွေဟာ မကြာသေးမီနှစ်တွေမှာ ခေတ်သစ်စီးပွားရေးနိုင်ငံတွေကြားက အပြန်အလှန်ဆက်ဆံရေးတွေကို လွှမ်းမိုးဖို့ဖြစ်လာခဲ့တယ်။

### ဘရိုက်တန်ဝုဒ် ဖလောင်းရှိပ်အောက်ကနိုင်ငံများ

၁၉၄၄ ခုနှစ်မှာ အမေရိကန်က မောင့်ဝါရှင်တန်တိုတယ်မှာကျင်းပတဲ့ဘရိုက်တန်ဝုဒ်ကွန်ဖရင့်မှာ

**၁၉၈၉** ဘာလင်တံတိုင်းပြိုကျ

**၂၀၀၈** G7 နေရာမှာ G20 အစားထိုးနေရာယူ

ရှန်ဖေးနတ်တိန်းရဲ့အယူအဆကို လက်ခံတဲ့ ကမ္ဘာတစ်ဝန်းက နိုင်ငံရေးသမားတွေတက်ရောက်ချိုး စစ်ပြီးခေတ်ကမ္ဘာကြီးအတွက် ဘဏ္ဍာရေးနဲ့ စီးပွားရေးဆိုင်ရာ တည်ဆောက်မှုပုံစံသစ်တစ်ရပ်ကို ဖန်တီးဖို့ စည်းဝေးတိုင်ပင်ခဲ့ကြတယ်။ ပုံသေငွေလဲနှုန်းစနစ်နဲ့အတူ အဓိက အင်စတီကျူးရှင်းကြီး နှစ်ရပ်ကို တည်ထောင်ခဲ့ကြတယ်၊ နိုင်ငံတကာငွေကြေးရန်ပုံငွေအဖွဲ့ (အိုင်အမ်အက်ဖ်)နဲ့ ဒီနေ့ခေတ်ကမ္ဘာဘဏ်ဖြစ်လာတဲ့ နိုင်ငံတကာပြန်လည်တည်ဆောက်ရေးနဲ့ ဖွံ့ဖြိုးရေးဘဏ် (အိုင်ဘီအာဒီ)တို့ပဲဖြစ်တယ်။ သူတို့ဟာ ကုန်သွယ်ရေးနှင့်အကောက်ခွန်ဆိုင်ရာ အထွေထွေသဘောတူညီချက်အဖွဲ့ (GATT) ကိုလည်း တည်ထောင်ခဲ့ကြပြီး နောက်ပိုင်းမှာဒီအဖွဲ့ကို ကမ္ဘာ့ကုန်သွယ်ရေးအဖွဲ့ (WTO)အဖြစ်အသွင်ပြောင်းလဲခဲ့တယ်၊

## ဘီ၊ အာ၊ အိုင်၊ စီ လေးနိုင်ငံအုပ်စု

ကမ္ဘာမှာ စီးပွားရေးဖွံ့ဖြိုးလာနေတဲ့ အလားအလာအရှိဆုံးနိုင်ငံလေးနိုင်ငံအဖွဲ့ ဖြစ်တယ်။ ဘရာဇီး၊ ရုရှား၊ အိန္ဒိယနဲ့ တရုတ်နိုင်ငံ တွေပဲ၊ ၂၁ ရာစုစီးပွားရေးကို G7 အဖွဲ့က လွှမ်းမိုးကြီးစိုးခဲ့တယ်ဆိုရင် ၂၁ ရာစုစီးပွားရေးကို ဘီ၊ အာ၊ အိုင်၊ စီနိုင်ငံတွေက သေချာပေါက် လွှမ်းမိုးလိမ့်မယ်၊ အဲဒီနိုင်ငံတွေရဲ့ များပြားလှတဲ့ လူဦးရေ၊ မယုံနိုင်လောက်စရာအလုပ်အကိုင် ရလို့မှုနဲ့ အံ့မခန်းတိုးတက်မှုတွေက မကြာသေးမီနှစ်တွေမှာ ကမ္ဘာ့စီးပွားရေး တိုးတက်မှုရဲ့ တစ်ဝက်လောက်ကို တာဝန်ယူဖို့ အသင့်ဖြစ်နေပြီလို့ ဆိုရမယ်၊ ဂိုးမန်းဆက်ရှ် ရင်းနှီးမြှုပ်နှံမှုဘဏ်ရဲ့အဓိကစီးပွားရေးပညာရှင် ဂျင်အိုနေးလ်က တရုတ်နိုင်ငံဟာ အလျင်အမြန် တိုးတက်လာနေပြီး ၂၁ ရာစုအလယ်လောက်မှာ ကမ္ဘာ့အကြီးဆုံးစီးပွားရေးနိုင်ငံအဖြစ် အမေရိကန်ပြည်ထောင်စုကို ကျော်တက်သွားလိမ့်မယ်လို့ ဆိုတယ်။

ဘရာဇီး၊ ရုရှား၊ အိန္ဒိယနဲ့ တရုတ် လေးနိုင်ငံ ပေါင်းစည်းလိုက်ရင် ကမ္ဘာ့လူဦးရေရဲ့ ၄၀ % ရှိပြီး ကမ္ဘာ့ကုန်းမြေရဲ့လေးပုံတစ်ပုံ ကျော်ရှိတယ်။ အဲ့ဒီနိုင်ငံတွေရဲ့ စီးပွားရေးဟာ ၁၀ ရာခိုင်နှုန်းနဲ့ ပုံမှန်တိုးတက်နေပြီး ဒီ့ထက်တောင်ပိုကောင်းဦးမှာပါတယ်၊ အနောက်အုပ်စုစီးပွားရေးက အဲ့ဒီနိုင်ငံတွေရဲ့ အမြန်နှုန်းနဲ့ယှဉ်ရင် လေးပုံတစ်ပုံ လောက်ပဲရှိတယ်။ ကမ္ဘာ့အလုပ်ရုံ ဆွေးနွေးပွဲတွေအရ အဲ့ဒီလေးနိုင်ငံဟာ နေ့စဉ် ဒေါ်လာဘီလီယံပေါင်းများစွာ ပို့ကုန်တွေ ထုတ်လုပ်တင်ပို့နေတယ်လို့ ဆိုတယ်၊



အာကာရှင်နိုင်ငံအနည်းငယ်ကလွဲလို့ ကမ္ဘာ့နိုင်ငံတွေအားလုံးပါဝင်နေတဲ့ ဒီအင်စတီကျူးရှင်းကြီးတွေဟာ ကမ္ဘာ့စီးပွားရေးအခြေအနေနဲ့ နိုင်ငံတွေအချင်းချင်းကြားက အပြန်အလှန်အကျိုးပြုပုံနည်းလမ်းတွေကို ဖော်ဆောင်နေကြဆဲဖြစ်တယ်၊

အိုင်အမ်အက်ဖ်က ကမ္ဘာ့ဘဏ်ဟုဘဏ်လို ဆောင်ရွက်တယ်၊ သူက အဖွဲ့ဝင်နိုင်ငံတွေဆီက အရင်းအမြစ်တွေကို စုစည်းထားပြီး လက်ငင်းတရင်း။ ဒါမှမဟုတ် ငွေလုံးငွေရင်းစာရင်း လိုငွေပြအကျပ်အတည်း ခံထားနေရတဲ့ နိုင်ငံတွေကို ငွေထုတ်ချေးပေးတယ် (အခန်း ၂၄ ကိုကြည့်ပါ)၊ အိုင်အမ်အက်ဖ်ဟာ နောက်ဆုံးအားထားရာ ငွေထုတ်ချေးပေးသူ ဖြစ်ပေမယ့် ဘဏ်တွေ၊ ကုမ္ပဏီတွေကို မဟုတ်ဘဲ၊ နိုင်ငံတွေကို ထုတ်ချေးတာဖြစ်တယ်၊ သူ့ရဲ့ဒုတိယအခန်းကဏ္ဍက ကမ္ဘာ့နိုင်ငံတွေအနေနဲ့ အနာဂတ်ကာလတွေအတွက် ပြဿနာကို ငြိမ်းချမ်းနေတာမျိုးမဟုတ်ဘဲ၊ အပြော်အမြင်ရှိရှိနဲ့ သူတို့စီးပွားရေးကို လည်ပတ်လုပ်ကိုင်နေတယ်ဆိုတာ သေချာစေဖို့ဖြစ်တယ်။ ဒါပေမဲ့ စည်းကမ်းချိုးဖောက်တဲ့ နိုင်ငံတွေကို အရေးယူဖို့ ပါဝါမရှိတာကြောင့် အတိတ်ကာလမှာ ညီဖွင်းတဲ့ စီးပွားရေးဆိုင်ရာ ဆုံးဖြတ်ချက်တွေကို ချမှတ်လုပ်ကိုင်နေတဲ့နိုင်ငံတချို့ကို မတားဆီးနိုင်ခဲ့ဘူး၊

ကမ္ဘာ့ကုန်သွယ်ရေးအဖွဲ့ကြီးဟာ ကုန်သွယ်ရေးအတားအဆီးတွေဖယ်ရှားဖို့ နိုင်ငံတွေသဘောတူဆွေးနွေးကြတဲ့ ဖိုရမ်တစ်ခုဖြစ်သလို၊ နိုင်ငံတစ်နိုင်ငံအနေနဲ့ သူတို့ရဲ့ ကုန်ပစ္စည်းတွေအပေါ် တခြားနိုင်ငံက တရားမဝင်အကောက်ခွန်ပိုကောက်တာ၊ ကိုတာသတ်မှတ်တာတွေလုပ်နေတယ်လို့ သံသယဖြစ်တဲ့အခါမျိုးတွေမှာ အဆုံးအဖြတ်ပေးတဲ့အဖွဲ့လည်းဖြစ်တယ်။ ဒီအဖွဲ့ကြီးက ကမ္ဘာတစ်လွှားမှာရှိတဲ့ ကုန်သွယ်ရေးအတားအဆီးတွေလျှော့ချဖို့ကို ထောက်ခံအားပေးတယ်၊

ကမ္ဘာ့ဘဏ်ကိုတော့ ကမ္ဘာ့အဆင်းရဲဆုံးတိုင်းပြည်တွေကို အထောက်အပံ့ပေးဖို့ ပုံစံချစီစဉ်ထားတာဖြစ်တယ်။ ဒုက္ခရောက်နေတဲ့ စီးပွားရေးတွေကို ငွေသားတွေထုတ်ချေးပေးခြင်း၊ တစ်ခါတစ်ရံပေးလှူခြင်းအားဖြင့်

ကမ္ဘာ့ဘဏ်ရဲ့ရည်ရွယ်ချက်က ကမ္ဘာ့စီးပွားရေးကို ပိုပြီးကြွယ်ဝချမ်းသာလာအောင်နဲ့ ပိုပြီးတည်ငြိမ်မှုရှိလာအောင်လုပ်ဖို့ဖြစ်တယ်။ ဒါပေမဲ့ သူ့ငွေထုတ်ချေးလိုက်တဲ့ နိုင်ငံတွေအပေါ် ခက်ခဲကြမ်းတမ်းတဲ့ စည်းမျဉ်းတွေ ချမှတ်မှုအပေါ် အိုင်အမ်အက်ဖ်လိုပဲ ဝေဖန်ခံရမှုတွေနဲ့ ကြုံတွေ့လာရတယ်။

## အများသဘောတူညီချက်မဟုတ်

၁၉၉၀ နှစ်တွေတစ်လျှောက်လုံးမှာ အိုင်အမ်အက်ဖ်နဲ့ ကမ္ဘာ့ဘဏ်က တခြားသောစီးပွားရေးနိုင်ငံတွေကို သူတို့စိတ်ကြိုက်ပုံသွင်းပေးမယ့် ပေါ်လစီတွေချမှတ်ဖို့ကြိုးပမ်းခဲ့ကြတယ်။ ဒီလုပ်ဆောင်မှုတွေကို ဝါရှင်တန်သဘောတူညီချက်လို့လူသိများခဲ့တယ်။ ဘဏ်ချက်လိုငွေတွေ လျှော့ချဖို့နဲ့ ပြည်တွင်းဈေးကွက်အပေါ်အတားအဆီးတွေ ရုတ်သိမ်းပေးဖို့အပါအဝင် ဒီညွှန်ကြားချက်တွေကို ဟားဗတ်စီးပွားရေးပညာရှင် Dani Rodrik က "တည်ငြိမ်ရေး ပုဂ္ဂလိကပိုင်ပြုလုပ်ရေးနဲ့ ဖြေလျှော့ရေး" လို့ ခေါ်ခဲ့တယ်။ ပြဿနာက အဲဒီနိုင်ငံတွေက ဈေးကွက်တွေဖွင့်လိုက်တဲ့အခါ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုတွေကနေ ဒလဟောစုပြုံဝင်လာတဲ့ ငွေသားတွေကို နိုင်ငံအများအပြားက နိုင်နိုင်နင်းနင်းမကိုင်တွယ်နိုင်တာပဲဖြစ်တယ်။

စစ်အေးကာလအဆုံးသတ်ချိန်နဲ့ ၂၀၀၈ ဘဏ္ဍာရေးအကျပ်အတည်းနောက်ပိုင်းမှာကတည်းက ဒီအင်စတီကျူးရှင်းတွေဟာ ကမ္ဘာ့နေရာအနှံ့မှာ စီးပွားရေးအကျပ်အတည်းတွေ ထပ်ကာထပ်ကာပြန်ဖြစ်မလာအောင် မတားဆီးနိုင်တဲ့အပေါ် ဝေဖန်မှုအများအပြားနဲ့ ရင်ဆိုင်ခဲ့ကြရတယ်။ အမေရိကန်ရဲ့ ဒီအင်စတီကျူးရှင်းတွေအပေါ် သဘောထားက ပိုပြီးအေးတိအေးစက်ဖြစ်လာခဲ့တယ်။ အထူးသဖြင့် အိုင်အမ်အက်ဖ်နဲ့ ကမ္ဘာ့ဘဏ်တွေကို ကြီးမားတဲ့ပြုပြင်ပြောင်းလဲမှုတွေလုပ်ဖို့ တောင်းဆိုခဲ့တယ်။

စိုးရိမ်ပူပန်မှုတွေများစွာထဲကတစ်ခုကတော့ အိုင်အမ်အက်ဖ်အနေနဲ့ လျင်လျင်မြန်မြန်တိုးတက်လာနေတဲ့ ကမ္ဘာ့စီးပွားရေး ပါဝါသစ်တွေကို လုံလုံလောက်လောက်ကိုယ်စားပြုမှုမရှိတာကိုပဲဖြစ်တယ်။ မကြာသေးမီအချိန်ကအထိ ကမ္ဘာ့ဒုတိယအကြီးဆုံးစီးပွားရေးနိုင်ငံဖြစ်လာနေတဲ့ တရုတ်နိုင်ငံဟာ



အိုင်အမ်အက်ဖ်အဖွဲ့မှာ ဘယ်လ်ဂျီယံနိုင်ငံနဲ့ မဲအရေအတွက် အတူတူပဲ မဲပေးခွင့်ရနေသေးတာတွေ့ရတယ်။

## G7 မှ G20 သို့

ကမ္ဘာ့အဓိကစက်မှုစီးပွားရေးနိုင်ငံ ၇ နိုင်ငံဖြစ်တဲ့ G7 အုပ်စုကိုလည်း အလားတူဝေဖန်မှုတွေပြုလုပ်လာကြတယ်။ အမေရိကန်၊ ဂျပန်၊ ဂျာမနီ၊ ယူနိုက်တက်ကင်းဒမ်း၊ ပြင်သစ်၊ အီတလီနဲ့ ကနေဒါနိုင်ငံတို့ပါဝင်တဲ့ ဒီအုပ်စုဟာ ၁၉၇၀ နှစ်တွေနဲ့ ၁၉၉၀ နှစ်တွေကြားမှာ ကမ္ဘာ့အဓိကအင်အားကြီးနိုင်ငံတွေအဖြစ် မှတ်တဲ့ကိုယ်စားပြုမှုရှိခဲ့တယ်။ နိုင်ငံတကာစီးပွားရေးထိပ်သီးဆွေးနွေးပွဲတွေကျင်းပတဲ့အခါတိုင်း G 7 အုပ်စုက အမြဲတမ်းလွှမ်းမိုးထားခဲ့တယ်။ G 7 အဖွဲ့ဝင်နိုင်ငံတွေ အချင်းချင်းပူးပေါင်းပြီး အရေးပါတဲ့ဆုံးဖြတ်ချက်ကြီးတွေချမှတ်ခဲ့တယ်။

ဒါပေမဲ့ ၂၀၀၈ ခုနှစ်မှာ အမေရိကန်သမ္မတဂျော့ချ်ဒဗလျူ ဘုရှ်က ကြီးထွားလာနေတဲ့ ဘဏ္ဍာရေးအကျပ်အတည်းတွေကို ဆွေးနွေးဖို့ ထိပ်သီးအစည်းအဝေးတစ်ရပ် ခေါ်လိုက်တဲ့အခါ တရုတ်၊ ဘရာဇီး၊ ရုရှားနဲ့ အိန္ဒိယတို့လို နိုင်ငံတွေကိုပါ ထည့်သွင်းဖို့ လိုအပ်လာပြီဆိုတာ ရှင်းရှင်းလင်းလင်းဖြစ်လာတယ်။ ဒီလိုနဲ့ G 7 အုပ်စုနေရာမှာ ကမ္ဘာ့အကြီးဆုံးစီးပွားရေးနိုင်ငံတွေ ပါဝင်တဲ့ ပိုမိုကျယ်ပြန့်တဲ့အုပ်စု G 20 က အစားထိုးနေရာယူခဲ့တယ်။ အချင်းချင်းကျယ်ကျယ်ပြန့်ပြန့် ပူးပေါင်းလုပ်ကိုင်ကြခြင်းအားဖြင့် အဖွဲ့ဝင်နိုင်ငံတွေ (၁၉ နိုင်ငံ + ဥရောပသမဂ္ဂ) အနေနဲ့ စီးပွားရေးစူပါပါဝါတစ်နိုင်ငံတည်းရှိတဲ့ ကမ္ဘာကြီးကနေ နှစ်နိုင်ငံ၊ သုံးနိုင်ငံရှိတဲ့ ကမ္ဘာကြီးဆီကို ပြောင်းရွှေ့လာတဲ့ အရွေ့အပြောင်းကို ကိုင်တွယ်ဖြေရှင်းနိုင်လိမ့်မယ်လို့ မျှော်လင့်ကြတယ်။

### အနှစ်ချုပ်အတွေးအခေါ်

**နိုင်ငံတွေဟာ အတူတကွ ပူးပေါင်းလုပ်ကိုင်ကြခြင်းအားဖြင့် ပိုပြီးစွမ်းဆောင်နိုင်တယ်**

# ၄၂ - ကိုယ်ကျိုးစီးပွားကာကွယ်ရေးဝါဒ

## Protectionism

**၁၉၈၀ နှစ်တွေမှာ အမေရိကန်နိုင်ငံသားတွေဟာ ဂျပန်နိုင်ငံရဲ့ ကမ္ဘာ့စီးပွားရေးအပေါ် ပိုပြီးလွှမ်းမိုးလာနေတာကို စိုးရိမ်ပူပန်လာတာကြောင့် ကွန်ဂရက်အဖွဲ့ဝင်တွေက ဆီးနိတ်ရဲ့ မြေလှမ်းတွေနဲ့ဝတ်သက်ပြီး သတင်းစာရှင်းလင်းပွဲတစ်ရပ်ဖြုလုပ်ကာ တိုရှီဘာရေဒီယိုကို အပိုင်းပိုင်း ခြစ်အောင်ထုရိုက်ပြခဲ့တယ်။ ၁၉၉၀ နှစ်တွေမှာ မက္ကဆီကိုနဲ့ ကုန်သွယ်မှုအတားအဆီးတွေ ဖယ်ရှားလိုက်ပြီးနောက် အမေရိကန်အလုပ်အကိုင်တွေ တောင်ပိုင်းကို ရွှေ့သွားတာကြောင့် နိုင်ငံရေးသမားတွေက ခြိမ်းခြောက်ထန်ထန်သတိပေးခဲ့ကြတယ်။ ဒီနောက်ဆယ်စုနှစ်တစ်စုလောက် အကြာမှာ ဥပဒေပြုအမတ်တွေဟာ အမေရိကန်ရေနံကုမ္ပဏီနဲ့ အရှေ့အလယ်ပိုင်း မဟာမိတ်တွေ အပေါ် တရုတ်လူမျိုးတွေ ထိန်းချုပ်ဖို့ ကြိုးပမ်းလာမှုတွေကို တားဆီးပိတ်ပင်ခဲ့ကြရတယ်။ ခေတ်သစ်ဂလိုဘယ်လိုက်ဇေးရှင်းခေတ်ကြီးမှာ ဒီလိုအရှပ်ဆိုးတဲ့ ကိုယ်ကျိုးစီးပွားကာကွယ်ရေး ဝါဒကို အခွန်ရှည်ကြာစွဲကိုင်ထားနေသေးတာ ဘာကြောင့်များပါလိမ့်လို့ စဉ်းစားစရာပါပဲ။**

> ကိုယ်ကျိုးစီးပွားကာကွယ်ရေးဝါဒဆိုတာ ပြည်ပကတင်သွင်းလာတဲ့ ကုန်ပစ္စည်းတွေ အပေါ် အခွန်ကောက်ခံတာ၊ အတားအဆီးတွေချမှတ်တာ၊ နိုင်ငံခြားလွှမ်းမိုးထိန်းချုပ်မှုကို တားကွယ်တာဖြစ်ပြီး ကုန်သွယ်မှုနဲ့အတူ ဖြစ်တည်လာခဲ့တာပါ။ အစောဆုံးနည်းလမ်း တစ်ခုကအုပ်စိုးသူတွေဟာ ကုန်သွယ်မှုအပေါ် သွင်းကုန်ခွန်ကောက်ခံခဲ့တာဖြစ်ပြီး တချို့ကောက်ခံမှုတွေဟာ ရှေးခေတ်ကာလတွေကတည်းကရှိခဲ့တာဖြစ်တယ်။

အဲ့ဒီခေတ်က စီးပွားရေးကိုကာကွယ်တဲ့နည်းလမ်းတွေထဲမှာ သွင်းကုန်ပစ္စည်းတွေရဲ့ တန်ဖိုးနဲ့အရေအတွက် " T " အပေါ်ကိုတာသတ်မှတ်တာ၊ ထုတ်လုပ်သူတွေ၊ပို့ကုန်တင်ပို့ သူတွေကိုထောက်ပံ့ငွေပေးအပ်တာ၊ မလိုအပ်ဘဲ ပိုရှုပ်ထွေးတဲ့ ဗျူရိုကရေစီယန္တရားတွေကို

**အချိန်ပြဇယား:**

| ၁၇၉၈ ဝန်းကျင် | ၁၉၃၀ |
|---|---|
| အမေရိကန်သမ္မတဂျော့ချ်ဝါရှင်တန်က မှာကာနဲ့ကုန်သွယ်ရာမှာ အခကာအခကောက်ခွန်ကောက်ခံခဲ့ | ပြည်ပကုန်သွယ်ရေးအတားအဆီးတွေကို မြင့်တက်စေခဲ့တဲ့ Smoot-Hawley Act ဥပဒေပြဋ္ဌာန်းမှုအပါအဝင် ကိုယ်ကျိုးကြည့် အကောက်ခွန်ဝါဒကို ယူအက်စ်က လက်ခံကျင့်သုံး |



ဖြတ်သန်းစေတာတွေပါဝင်တယ်။ အဲ့ဒီထဲမှာ နာမည်ဆိုးနဲ့ ကျော်ကြားတဲ့ ဥရောပရဲ့လယ်ယာစိုက်ပျိုးရေး ပေါ်လစီအရ လယ်သမားတွေကို ထောက်ပံ့ငွေပေးတာမျိုးတွေပါဝင်သလို၊ ငွေတန်ဖိုးနိမ့်ကျ နေအောင် ငွေလဲနှုန်းကို လိုသလိုကစားပြီး သွင်းကုန်ထက် ပို့ကုန်အပေါ် ပိုအာရုံစိုက်အောင် လုပ်ဆောင်တာတွေလည်း ပါဝင်တယ်။ နောက်ထပ် ကိုယ်ကျိုးစီးပွားကာကွယ်ရေးပုံစံတစ်မျိုးကို ၂၀၀၈ ခုနှစ်မှာ စတင်ဖြစ်ပွားခဲ့တဲ့ ဘဏ္ဍာရေးနဲ့ စီးပွားရေးအကျပ်အတည်းမှာ မြင်တွေ့ခဲ့ရတယ်။ ဘဏ်တွေဟာ သူတို့နိုင်ငံက ကုမ္ပဏီတွေကိုသာ ငွေထုတ်ချေးပေးတဲ့နည်းလမ်းမျိုးဖြစ်တယ်။ ၂၀၀၉ ခုနှစ်မှာ ဗြိတိသျှ ဝန်ကြီးချုပ်ဂေါ်ဒွန်ဘရောင်းက ဒီအပြုအမူကို ဘဏ္ဍာရေးဆိုင်ရာအဓိုးရကုန်သွယ်ဝါဒလို့ ဆိုတယ်။ ဒါပေမဲ့ ပြည်ပကဖေါက်သည်တွေထက် ဗြိတိသျှလူမျိုးတွေကို ငွေသားသင်ပြီးထုတ်ချေးရာမှာ ဦးစားပေးဖို့ ယူကေဘဏ်တွေကို တိုက်တွန်းခဲ့တာကြောင့် သူမှာလည်း အပြစ်ရှိတာပါပဲ။

### ထောက်ခံမှုနှင့် ကန့်ကွက်မှုများ

စီးပွားရေးပညာရှင်အားလုံးနီးပါးက ကိုယ်ကျိုးစီးပွားကာကွယ်ရေးဝါဒကို ရှုံ့မှုန်ကြပြီး လွတ်လပ်တဲ့ ကုန်သွယ်ရေးကို လိုလားကြတာဖြစ်တယ်။ ဒီလိုကုန်သွယ်မှုအတားအဆီးတွေ တည်ဆောက်ခြင်းက ရေရှည်မှာ ကျွန်တော်တို့အားလုံးကို ပိုပြီးဆင်းရဲစေမယ်၊ ခါးသီးတဲ့ နိုင်ငံရေးပဋိပက္ခတွေဖြစ်စေမယ်၊ စစ်ပွဲတွေကို အစပျိုးပေးလိုက်သလိုတောင်ဖြစ်စေမယ်လို့ သူတို့ကသတိပေးခဲ့ကြတယ်။ စီးပွားရေး မူဝါဒတွေအားလုံးထဲမှာ ဒါကဗျက်စီးဆုံးရှုံးရမှုအများဆုံးမူဝါဒပဲလို့လည်း သတိပေးခဲ့ကြတယ်။

ဒီလိုပြင်းခုံမှုတွေကို နိုင်းရအကျိုးသီအိုရီက ထောက်ခံအားပေးခဲ့တယ် (အခန်း ၇ ကိုကြည့်ပါ)။ ဒီသီအိုရီက တခြားနိုင်ငံတွေနဲ့ ကုန်သွယ်ရာမှာ သေချာတဲ့ထုတ်ကုန်တွေကို အထူးပြု ထုတ်လုပ်ခြင်းက နိုင်ငံတစ်နိုင်ငံချင်းစီကို ဘယ်လိုပိုပြီးကြွယ်ဝချမ်းသာလာစေနိုင်တယ်ဆိုတာ ပြသခဲ့တယ်၊ သူတို့ရဲ့အိမ်နီးချင်းနိုင်ငံတွေထက် ကုန်ပစ္စည်းထုတ်လုပ်မှုမှာ အားနည်းရင်တောင်မှ ဒီနည်းက ပိုပြီး အကျိုးစီးပွားရှိတယ်ဆိုတာ ပြသခဲ့တယ်။

ဒါပေမဲ့ နိုင်ငံရေးအရတော့ ပြဿနာတွေက ပိုပြီးရှုပ်ထွေးပါတယ်၊ ဥပမာ - အမေရိကန်စက်ရုံတစ်ရုံဟာ ပြည်ပက ပြိုင်ဆိုင်သူတွေက ပိုပြီးဈေးသက်သက်သာသာထုတ်လုပ်နိုင်တာကြောင့် စက်ရုံပိတ်ရမယ်

| ၁၉၉၅ | ၂၀၀၈ |
|---|---|
| ကမ္ဘာ့ကုန်သွယ်ရေးအဖွဲ့ကြီးက ကုန်သွယ်မှုအတားအဆီးတွေကို ဖန်တီးတာဖယ်ရှားရေး ဥရုဂွေးအကျော့ ဆွေးနွေးပွဲတွေကို အဆုံးသတ်ခဲ့ | ဒိုဟာအကျော့ ကုန်သွယ်ရေး ဆွေးနွေးပွဲကို ရပ်ဆိုင်း |

အခြေအနေနဲ့ရင်ဆိုင်နေရတယ် ဆိုပါစို့။ စီးပွားရေးပညာရှင်တစ်ယောက်အဖို့တော့ ရေးတွက်က ရှင်းလင်းတဲ့ သဘောတရားကိုပြတာပဲ၊ အမေရိကန်စက်ရုံဟာ ဆက်လက်ယှဉ်ပြိုင်နိုင်စွမ်းမရှိတော့လို့ စက်ရုံကိုပိတ်သင့်တယ်လို့ဆိုလိမ့်မယ်၊ တစ်ဖက်မှာ ကိုယ်ကျိုးစီးပွားကာကွယ်ရေးဝါဒီတစ်ယောက် အဖို့တော့ အလုပ်အကိုင်တွေမဆုံးရှုံးရအောင် ဒီကဏ္ဍမှာထောက်ပံ့ငွေတွေပေးအပ်ဖို့နဲ့ အခွန်ကုန်ဖွင့် တင်သွင်းမှုတွေအပေါ်အကောက်ခွန်တွေတိုးမြှင့်ကောက်ခံဖို့ အကြံပြုပါလိမ့်မယ်။ ဒီခွဲးချယ်မှုက အလုပ်သမားတွေကြားမှာ ပိုပြီး လူကြိုက်များပြီး ထောက်ခံမှုရမယ့်ရွေးချယ်မှုပဲ၊ စီးပွားရေးပညာအရ

## ထစ်ငေါ့ပြီးထစ်ငေါ့

ကမ္ဘာ့ကုန်သွယ်ရေးအဖွဲ့ချုပ် (WTO) ဟာ ကိုယ်ကျိုးစီးပွားကာကွယ်ရေးဝါဒကို တိုက်ဖျက်ရာမှာ ဦးစီးဦးဆောင်လုပ်ဖို့ ဖွဲ့စည်းထားတဲ့အဖွဲ့ကြီးဖြစ်တယ်။ စစ်ပြီးခေတ်နောက်ပိုင်း ကုန်သွယ်ရေးနဲ့ အကောက်ခွန်ဆိုင်ရာ အထွေထွေသဘောတူညီချက်အဖွဲ့ (GATT) ကနေ ပြောင်းလဲဖွဲ့စည်းလိုက်တဲ့ ဒီအဖွဲ့ကြီးရဲ့ အဓိကအခန်းကဏ္ဍက ကုန်သွယ်ရေးမှာ အကောက်ခွန်တွေ၊ အတားအဆီးတွေကို ဘယ်လိုဖယ်ရှားကြမယ်ဆိုတာ နိုင်ငံတွေအတူတကွ ဆွေးနွေးကြစေဖို့ပဲဖြစ်တယ်။ အတားအဆီးတွေကို တစ်နိုင်ငံချင်းဖယ်ရှားတာမျိုးထက် နိုင်ငံတကာအပေါ်သက်ရောက်မှုရှိမယ့် အကောက်ခွန် ဖယ်ရှားမှုမျိုးတွေက နိုင်ငံအားလုံးအကျိုးအမြတ်ရှိနိုင်တာကြောင့် စကားဝိုင်းဆွေးနွေးပွဲတွေဟာ ကမ္ဘာလုံးဆိုင်ရာကျယ်ကျယ်ပြန့်ပြန့်ဖြစ်ဖို့လိုအပ်ပါတယ်၊

၁၉၉၀ အစောပိုင်းနှစ်တွေမှာ WTO အဖွဲ့ကြီးဟာ ဘက်ပေါင်းစုံပါဝင်တဲ့စကားဝိုင်းဆွေးနွေးပွဲတွေနဲ့ ဥရုဂွေးအကျော့ဆွေးနွေးပွဲကို အပြီးသတ်နိုင်ခဲ့တယ်။ ဥရုဂွေးအကျော့ဆွေးနွေးပွဲဟာ ကမ္ဘာ့အနံ့က အဓိကကုန်သွယ်မှုအတားအဆီးတွေကို တစ်စတစ်စနဲ့ နှစ်တကျဖြတ်သိမ်းရာမှာ အောင်မြင်မှုရခဲ့ ပြီးနောက်လာမယ့်ဆယ်စုနှစ်တွေ တစ်လျှောက်လုံးမှာ စီးပွားရေးတိုးတက်မှုကို အထောက်အကူ ဖြစ်စေတယ်လို့ ချီးကျူးခံခဲ့ရတယ်။ ဒါပေမဲ့ ၂၀၀၁ မှာ စတင်ခဲ့တဲ့ ဒိုဟာအကျော့ဆွေးနွေးပွဲမှာ နိုင်ငံတွေအချင်းချင်း သူတို့ရဲ့ တည့်ဝင်ဖြည့်ဆည်းပေးရမှုတွေအပေါ် စကားများခဲ့ကြလို့ အနှောင့်အယှက် တွေ အများကြီးကြုံခဲ့ရတယ်။ ၂၀၀၈ နွေရာသီမှာ အမေရိကန်ရဲ့စိုက်ပျိုးစရိတ်အမတော်ကြေးလျှော်ကို ပြင်ဆင်နေတဲ့ပြဿနာအပေါ် အမေရိကန်နဲ့ တရုတ်၊ အိန္ဒိယ၊ ဘရာဇီးနိုင်ငံတွေနဲ့ သဘောထားကွဲလွဲခဲ့တာ ကြောင့် ဆွေးနွေးပွဲတွေရပ်ဆိုင်းသွားခဲ့တယ်၊ တချို့က ဆွေးနွေးပွဲတွေပြန်လာမယ်လို့ မျှော်လင့်နေကြ ပေမယ့် အများကတော့ အရအချိန်မှာ သူတို့ဟာ အသေကောင်တွေလိုပါပဲလို့ သတိပေးခဲ့ကြတယ်၊



တော့ ဒါဟာပြဿနာကို ကောပန်းဖုံးကွယ်လိုက်တာသာဖြစ်ပြီး မကြာခင်မှာပဲ ဒီပြဿနာက သေချာပေါက် ပြန်ပေါ်လာမှာပါပဲ၊ စီးပွားရေးပညာရှင်တွေကတော့ အလုပ်ပြုတ်သွားတဲ့ သူတွေဟာ ပိုပြီးပြိုင်ဆိုင်နိုင်စွမ်းရှိတဲ့ လုပ်ငန်းသစ်တွေမှာ အလုပ်အကိုင်သစ်တွေ ရှာဖွေတာက ပိုကောင်းတယ်လို့ ဆိုတယ်။

ကိုယ်ကျိုးစီးပွားကာကွယ်ရေးဝါဒဟာ ထောက်ခံသူများများရဖို့ လွယ်ကူတဲ့ ပေါ်လစီတစ်ရပ်ဖြစ်ရုံတင် မကဘူး၊ အပေါ်ယံအောင်မြင်မှုရဲ့ လက္ခဏာလည်းဖြစ်တယ်။ အစိုးရတစ်ရပ်ဟာ သွင်းကုန်ခွန်စည်းကြပ် လိုက်တဲ့အခါ နိုင်ငံတွင်းကို အပိုငွေကြေးတွေဝင်လာပြီး အစပိုင်းမှာ ဘဏ္ဍာငွေတိုးပွားလာနိုင်ပါတယ်၊ ပြည်ပကလာတဲ့ကုန်ပစ္စည်းတွေထက် ပြည်တွင်းထုတ်ကုန်တွေကို ပိုပြီးသုံးစွဲဖို့ စားသုံးသူတွေကို တိုက်တွန်းသလိုဖြစ်နေတာကြောင့် ပြည်တွင်းကုမ္ပဏီတွေအနေနဲ့လည်း စီးပွားရေးဝန်းမွှင့်လာပြီး ပျော်ရွှင်ကြရတယ်၊ မျိုးချစ်စိတ်တိမ်းညွှတ်မှုကို ပိုပြီးဆွဲဆောင်လာနိုင်တာကြောင့် ကိုယ်ကျိုးစီးပွားကာကွယ်ရေးဝါဒဟာ ဝွမ်းအင်၊ သံမဏိ၊ ကား၊ တွန်မြူတာစတဲ့ထုတ်လုပ်မှုမှန်သမျှမှာ အဖိုးအခိုကင်းကင်းနဲ့ လှုံ့ဆော်ချက်ချသယောင်ထင်လာရတယ်။ ပြည်တွင်းလုပ်ငန်းတစ်ခုကို နိုင်ငံတကာကပြိုင်ဘက်ကုမ္ပဏီတစ်ခုက သိမ်းသွားလိုက်တဲ့အခါ နိုင်ငံဟာ ပိုပြီးဆင်းရဲသွားတယ်လို့ မြင်နေကျအတိုင်းသိမြင်နားလည်ထားမှုသဘောထားကလည်း အရေးပါတဲ့အမြင်ပါပဲ။

ဒါပေမဲ့ ပြဿနာက ဒီလိုပြင်းခုံမှုတွေမှာ ကြီးမားတဲ့ဦးဆောင်မှုအမှားရှိနေတာပါပဲ။ ထပ်ခါထပ်ခါ လေ့လာမှုတွေက ရေရှည်မှာ ကိုယ်ကျိုးစီးပွားကာကွယ်ရေးဝါဒဟာ သွင်းကုန်ခွန်ကောက်ခံတဲ့ နိုင်ငံကိုရော၊ သွင်းကုန်တင်သွင်းတဲ့နိုင်ငံကိုပါ ပိုပြီးဆင်းရဲသွားစေတယ်ဆိုတာပြသခဲ့ပြီးဖြစ်ပါတယ်၊

## သမိုင်းသင်ခန်းစာများ

၁၉၃၀ နှစ်တွေမှာ ကိုယ်ကျိုးစီးပွားကာကွယ်ရေးဝါဒကို ဦးဆောင်စေမယ့်အရာတွေပေါ်လာခဲ့တာဟာ အထိရောက်ဆုံး ဥပမာပါပဲ။ မဟာစီးပွားပျက်ကပ်တာလကြီးမှာ အမေရိကန်အပါအဝင် ကမ္ဘာ့အနှံ့က နိုင်ငံတွေဟာ ပြည်တွင်း အလုပ်အကိုင်လုံခြုံမှုရှိစေဖို့နဲ့ သူတို့ရဲ့ စီးပွားရေးတွေ အလျှင် အမြန် နာလန်ပြန်ထူလာစေဖို့ ယုံကြည်ချက်နဲ့ ကုန်သွယ်မှု အတားအဆီးကြီးတွေကိုတည်ဆောက်ခဲ့ကြတယ်၊ ဒီပေါ်လစီတွေကို သူတောင်းစားအိမ်နီးချင်းပေါ်လစီတွေလို့ ခေါ်ခဲ့ကြတယ်။ အကြောင်းက နိုင်ငံခြားကုန်သွယ်ရေးကို

> ❝ ကုန်ပစ္စည်းတွေနယ်စပ်ကို ဖြတ်မကျော်နိုင်တော့တဲ့အခါ၊ စစ်တပ်တွေကဖြတ်ကျော်ကြလိမ့်မယ်။ ❞
>
> **Frédéric Bastiat**
>
> ၁၉ ရာစု ပြင်သစ်စီးပွားရေးပညာရှင်

ဖိနှိပ်နေရတဲ့ တိုင်းပြည်တွေကို သေရေးရှင်ရေး အကျပ်အတည်းတွေကြားမှာ ထားရစ်ခဲ့တာ ကြောင့်ပဲဖြစ်တယ်၊ နိုင်ငံတစ်နိုင်ငံပြီးတစ်နိုင်ငံ ဟာ သူတို့ရဲ့ကုန်သွယ်မှုအကောက်ခွန်တွေကို တုန့်ပြန်ထူထောင်လာကြလို့ ကမ္ဘာ့ကုန်သွယ် ရေးဟာ ရပ်တန့်သွားလုမတတ်ဖြစ်ခဲ့ရတယ်။ နိုင်ငံရေးတင်းမာမှုတွေ၊ ဆက်ဆံရေးပြတ် တောက်မှုတွေ ဖြစ်လာပြီး ဒုတိယကမ္ဘာ စစ်ကြီးကို မီးစပျိုးပေးခဲ့တယ်။

> စီးပွားရေးပညာရှင်တစ်ယောက်ရဲ့အဆိုတစ်ရပ်မှာ သေချာပေါက်ပါဝင်ရမယ့်အဆိုပြုချက်က 'နှိုင်းရအကျိုးနိယာမကိုကျွန်တော်ယုံကြည်တယ်' ဆိုတာနဲ့ 'လွတ်လပ်တဲ့ကုန်သွယ်ရေးကို ကျွန်တော်ယုံကြည်တယ်' ဆိုတာပါပဲ၊
>
> **Paul Krugman**
> နိုဗယ်ဆုရှင်၊ ကုန်သွယ်ရေးကျွမ်းကျင်သူ

ဒုတိယကမ္ဘာစစ်ကြီးနောက်ပိုင်းမှသာ နှိုင်းရအကျိုးသီအိုရီတစ်ကျော့ပြန်ရှေ့တန်းရောက်လာပြီး ကုန်သွယ်မှု အတားအဆီးတွေကို တဖြည်းဖြည်းဖယ်ရှားခဲ့တယ်၊ နိုင်ငံတစ်နိုင်ငံချင်းစီဟာ ကုန်ပစ္စည်းတွေကို အထူးပြုထုတ်လုပ်ခဲ့ကြတာကြောင့် ၁၉၅၀ နှစ်တွေနဲ့ ၁၉၆၀ နှစ်တွေမှာ ကမ္ဘာ့စီးပွားရေးဟာ အရှိန်ပြင်းပြင်းနဲ့ တိုးတက်မှုရလာခဲ့တယ်။ အရင်ကထက်စာရင် ပိုပြီးလွတ်လပ်တဲ့ကုန်သွယ်ရေးဖြစ်လာခဲ့တယ်၊

နောက်ထပ်ဥပမာတစ်ခုက တရုတ်နိုင်ငံပါ။ တရုတ်နိုင်ငံဟာ ၁၅ ရာစုမှာ ဖျက်လိုဖျက်ဆီး ကုန်သွယ်မှုဝါဒလစ်ဇ်ရဲ့ သားကောင်ဖြစ်ခဲ့ရတယ်၊ အဲ့ဒီခေတ်က တရုတ်နိုင်ငံဟာ ကမ္ဘာ့အတိုးတက်ဆုံးနဲ့ အချမ်းသာဆုံးစီးပွားရေးနိုင်ငံတွေထဲကတစ်နိုင်ငံပဲ၊ ဒါပေမဲ့ အုပ်စိုးသူတွေက စီးပွားရေးအရအမြော်အမြင် ကင်းတဲ့ ကိုယ်တိုင်လုံလောက်ရေးပေါ်လစီတစ်ရပ်ကို စတင်ချမှတ်ခဲ့တယ်။ ဒီပေါ်လစီအရ တရုတ်ဟာ တခြားကမ္ဘာနဲ့စီးပွားရေးနဲ့ယဉ်ကျေးမှုဆိုင်ရာနှောင်ကြိုးတွေကို ဖြတ်တောက်ပစ်ခဲ့တယ်။ ဒါကြောင့် သူ့ရဲ့ပြိုင်ဘက်ကင်းအထွတ်အထိပ်ရောက်နေမှုကို အလျင်အမြန်ဆုံးရှုံးခဲ့ရတယ်။ ၂၀ ရာစုနှောင်းပိုင်း ကျမှသာ အကောက်ခွန်နဲ့ကုန်သွယ်ရေး အတားအဆီးအများအပြားကို လျှော့ချခဲ့ပြီး တိုင်းပြည်ဟာ အလားအလာကောင်းတဲ့ စီးပွားရေးအင်အားကြီးနိုင်ငံဘဝကို ပြန်ရောက်လာခဲ့တယ်။

## အလုပ်အကိုင်ကာကွယ်ရေးတဲ့လား

တချို့လူတွေက ကြောက်ရွံ့စိုးရိမ်ကြပေမယ့် ကုန်သွယ်မှုအတားအဆီးတွေကို ဖယ်ရှားလိုက်ခြင်းက အလုပ်အကိုင်တွေကို ဆွဲထုတ်သွားလိမ့်မယ်ဆိုတာ သေချာပေါက်တော့ မဟုတ်ပါဘူး။ ဗြိတိန်နိုင်ငံရဲ့ အကြီးဆုံးနဲ့ အကျွမ်းကျင်ဆုံးကားစက်ရုံတွေထဲက တစ်ခုကို ဗြိတိန်ကုမ္ပဏီတစ်ခုက စီမံနေတာ



မဟုတ်ဘူး၊ ပြောရရင် ဥရောပကုမ္ပဏီတစ်ခုက စီမံနေတာတောင် မဟုတ်ဘဲ၊ ဂျပန်မော်တော်ကား ထုတ်လုပ်သူ နစ်ဆန်းကုမ္ပဏီက စီမံဆောင်ရွက်နေတာဖြစ်တယ်။ ဒီလုပ်ငန်းက အင်္ဂလန် အရှေ့မြောက်ပိုင်းက အလုပ်လက်မဲ့မြင့်မားတဲ့ဒေသမှာ ထောင်နဲ့ချီတဲ့အလုပ်သမားတွေကို အလုပ်အကိုင်တွေ ပေးထားတယ်၊ နိုင်ငံခြားကုမ္ပဏီတွေအနေနဲ့ အသုံးစရိတ်တွေလျှော့ချဖို့ လိုအပ်တဲ့အခါ ပြည်တွင်းကထက် ပြည်ပစက်ရုံတွေက အလုပ်အကိုင်တွေကို ပိုပြီးလျင်လျင်မြန်မြန် လျှော့ချလိမ့်မယ်ဆိုတဲ့ စိုးရိမ်ပူပန်မှုတွေရှိတာတော့ မှန်ပါတယ်၊ ဒါပေမဲ့ ဒါနဲ့ပတ်သက်တဲ့ တရင်းအယားသက်သေအထောက်အထားတော့ မရှိသလောက်ပါပဲ၊

အခြေခံကျတဲ့ပြဿနာက စီးပွားရေးစနစ်တစ်ရပ်မှာရှိနေတဲ့လုပ်ငန်းတွေကို နိုင်ငံခြားယှဉ်ပြိုင်မှုတွေ ကနေ ကာကွယ်ပေးနေတာဟာ ဒီလုပ်ငန်းတွေကို ယှဉ်ပြိုင်နိုင်စွမ်းလျော့ကျအောင်လုပ်နေတာပါပဲ၊ ဒီလိုလုပ်ခြင်းက စရိတ်စကလျှော့ချဖို့နဲ့ ထိရောက်ကျွမ်းကျင်မှုတိုးတက်လာစေဖို့ကို အဟန့်အတား ဖြစ်စေပါတယ်။ တကယ်တော့ ကုမ္ပဏီတစ်ခုကနေ စွမ်းဆောင်ရည်ညံ့ဖျင်းတဲ့ အမှုဆောင်အရာရှိချုပ်ကို ဖယ်ရှားဖို့ ရှယ်ယာဝင်တွေအတွက်ဘယ်လောက်ခက်ခဲတယ်ဆိုတာကို ထည့်စဉ်းစားရင် နိုင်ငံခြားက သိမ်းပိုက်မှုကို ကြောက်ရွံ့ရတဲ့ ခြိမ်းခြောက်မှုဟာ ဒီလုပ်ငန်းတိုးတက်မှုမှာ စီမံခန့်ခွဲမှုကို ကြိုးစားပမ်းစားလုပ်ကိုင်စေဖို့ အဓိကကျတဲ့စိန်ခေါ်မှုတစ်ရပ်ပါပဲ၊

## ကိုယ်ကျိုးစီးပွားကာကွယ်ရေးဝါဒ ပြန်ထောင်လာခြင်း

၂၀၀၈ ခုနှစ် ဘဏ္ဍာရေးအကျပ်အတည်းနောက်ပိုင်းမှာ နိုင်ငံတွေဟာ သူတို့ရဲ့ စီးပွားရေးကို ပြန်လည် ပြင်ဆင်ဖို့ကြိုးပမ်းလာကြတာကြောင့် ဒီကြိုးပမ်းမှုတွေဟာ ကမ္ဘာတစ်ဝန်း ကိုယ်ကျိုးစီးပွားကာကွယ်ရေး ဝါဒဆီကို ဦးတည်သွားမှာကို တချို့က စိုးရိမ်ကြတယ်၊ တကယ်တော့ စီးပွားရေးကပ်ဆိုက်ခြင်းနဲ့ ကြွေးမြီ လျှော့ချခြင်းဆိုင်ရာခြိမ်းခြောက်မှုတွေထက် ဒီခြိမ်းခြောက်မှုက နောက်လာမယ့် ဆယ်စုနှစ်ကျော် ကာလတွေအထိ ကမ္ဘာ့စီးပွားရေးအပေါ် အကြီးဆုံးခြိမ်းခြောက်မှုအဖြစ်ရှိနေလိမ့်မယ်လို့ ကျွမ်းကျင်သူ တွေက ယုံကြည်ကြတယ်။ သမိုင်းကဖော်ပြခဲ့သလိုပဲ၊ ကိုယ်ကျိုးစီးပွားကာကွယ်ရေးဝါဒတွေထဲကို ထိုးဖိုက် ကျဆင်းသွားဖို့ ထောင်ချောက်ဆင်ရတာလွယ်ကူလွန်းပါတယ်။ ဒါဟာ ကမ္ဘာ့ငြိမ်းချမ်းရေးနဲ့ တည်ငြိမ်ရေးအတွက် ကြောက်မက်ဖွယ်ရာအကျိုးဆက်တွေကိုတော့ ဖြစ်လာစေမှာဖြစ်တယ်။

### အနှစ်ချုပ်အတွေးအခေါ်

**ကမ္ဘာ့ငြိမ်းချမ်းရေးနဲ့ ချမ်းသာကြွယ်ဝမှုကို အကြီးမားဆုံး ခြိမ်းခြောက်မှု**

# ၄၇ - နည်းပညာတော်လှန်ရေးများ
## Technological revolutions

**ဒါကို အမှန်းတင်ဖို့ဖြစ်လာရတာက ၁၈ ရာစု အင်္ဂလန်ရဲ့ ဘဝအခြေအနေက တကယ်ကို ရိုးရှင်းခဲ့လို့ပါပဲ။ မိသားစုအများစုဟာ သာမန်ဝမ်းစာစုလုံ့ရုံ လူနေမှုအဆင့်အတန်းမှာပဲ ပိတ်မိနေခဲ့ကြတယ်။ လန်ဒန်မှာမွေးတဲ့ ကလေးလေးပုံသုံးပုံဟာ အသက်ငါးနှစ်မတိုင်ခင်မှာ သေဆုံးကြတယ်။ တကယ့်ကို မယုံနိုင်စရာပါပဲ။ ၁၇၅၀ ကနေ ၁၉ ရာစုအစောပိုင်းနှစ်တွေအထိ ကြားကာလတွေမှာ အရာရာတိုင်းအရင်းအမြစ်ကျကျပြောင်းလဲသွားခဲ့တယ်။ ပျမ်းမျှသက်တမ်းဟာ အလျှင်အမြန်တိုးတက်လာခဲ့ပြီး လူဦးရေနဲ့ချမ်းသာကြွယ်ဝမှုကလည်း တိုးတက်လာခဲ့တယ်။ ဘယ်စီးပွားရေးကာလအပိုင်းအခြားမှ စက်မှုတော်လှန်ရေးခေတ်ကာလလောက် အရေးမပါလောက်ဘူးလို့တောင်ဆိုရမယ်။**

နည်းပညာသစ်တပြောင်းလဲမှုရဲ့နောက်ကွယ်မှာ ရှိနေတယ်။ ရေနွေးငွေ့အင်ဂျင်တီထွင်မှုနဲ့ ကျောက်မီးသွေးလို ရုပ်ကြွင်းလောင်စာအသုံးချမှုတွေက လူမှုရေးနဲ့ အနုပညာအသိအမြင်တွေကို ပုံစံသင်ပြန်သွင်းရင်း လူတွေရဲ့နေထိုင်မှုပုံစံ၊ နည်းလမ်းတွေကို ရုတ်တရက်ပြောင်းလဲစေခဲ့တယ်။ အဲ့ဒီခေတ်ဟာ Wordsworth တို့ Turnerw တို့ရဲ့ခေတ်ပဲ၊ သူတို့နှစ်ယောက်စလုံးရဲ့ အနုပညာမြောက် ကြောက်ရွံ့ထိတ်လန့်ဖွယ်လက်ရာတွေရော၊ ငမ်းမြောက်ကြည်နူးဖွယ်လက်ရာတွေပါ သိမ်မွေ့လေးနက်တဲ့ အပြောင်းအလဲတွေမှာ အစားထိုးနေရာယူလာခဲ့ကြတယ်။ အဲ့ဒီကာလဟာ ပြင်သစ်တော်လှန်ရေး၊ အမေရိကန်လွတ်လပ်ရေးအောင်ပွဲတွေနဲ့အတူ နိုင်ငံရေးဆိုင်ရာလုံခြုံမှုမရှိတဲ့ကာလနဲ့ တစ်ထပ်တည်းကျနေခဲ့တယ်။

**အချိန်ဖြဂဏား:**

| ၁၆၀၀ | ၁၇၅၆ | ၁၇၇၉ |
|---|---|---|
| ဗြိတိသျှအရှေ့အိန္ဒိယကုမ္ပဏီကိုတည်ထောင် | ကွန်ကရစ်နည်းပညာသစ်ကို ထပ်မံဖော်ထုတ် | Shropshire မှာ သံမဏိတံတားတည်ဆောက်ဖို့ ဂျိမ်းစ်ဝပ်က ဘွင့်ဖွရေနွေးငွေ့အင်ဂျင်ကို အကောင်းဆုံးမွမ်းမံဖန်တီး |



ဒါပေမဲ့ ဒီအကျော်ကြားဆုံး၊ သိသာထင်ရှားတဲ့ပြောင်းလဲမှုကြီးဟာ သမိုင်းမှာ စီးပွားရေးတော်လှန်ပြောင်းလဲမှု သက်သက်တော့မဟုတ်ဘူး။ ရာစုနှစ်တွေတစ်လျှောက်မှာ လူသားမျိုးနွယ်ဟာ နည်းပညာသစ်တွေကိုတီထွင်ဖန်တီးနိုင်တာကြောင့် ရုတ်ချည်းဆိုသလို အဆိုင်းလိုက်၊ အကန့်လိုက် တိုးတက်သွားခဲ့တယ်။ မကြာခဏဆိုသလို ကြုံရတာက နှိုင်းစုန်ပုံကျော်လွှားတိုးတက်မှုတွေဟာ လုံးဝမမျှော်လင့်ထားခဲ့ဘဲ၊ လူသားတွေရဲ့ ကြွယ်ဝချမ်းသာမှုနဲ့ အပြန်အလှန်အကျိုးပြုမှုပုံစံတွေကို အရင်းအမြစ်ကျကျ တော်လှန်ပြောင်းလဲဖို့ အစပျိုးပေးခဲ့တယ်။

စီးပွားရေးသမိုင်းပညာရှင်တွေကတော့ ၁၈ ရာစုကာလကတည်းက စက်မှုတော်လှန်ရေးက တစ်ခုတည်းမဟုတ်ဘဲ သုံးခုရှိတယ်လို့ သတ်မှတ်ကြတယ်။ သူတို့က တစ်လည်လည်ဖြစ်နေတဲ့အရွေ့ဆိုတာမျိုးထက် အဆောက်အအုံဆိုင်ရာ အပြောင်းအလဲအဖြစ်မြင်ကြတယ်၊ တစ်နည်းပြောရရင် အတက်အကျသံသရာလည်နေတာမဟုတ်ဘဲ၊ အခြေခံအုတ်မြစ်ကျတဲ့ စီးပွားရေးအပြောင်းအလဲမျိုးလို့ ယူဆကြတာဖြစ်တယ်။

### ပထမစက်မှုတော်လှန်ရေး

ပထမစက်မှုတော်လှန်ရေးဟာ ရေနွေးငွေ့အင်ဂျင်တီထွင်မှုနဲ့ ၁၇၀၀ နှစ်တွေရဲ့ အလယ်ကာလတွေကနေ စတင်ခဲ့ပြီး ၁၉ ရာစုအစောပိုင်းအထိ ရှည်ကြာခဲ့တယ်။

> အရင်းရှင်စနစ်ရဲ့ အင်ဂျင်ကိုလည်ပတ်ရာမှာ အခြေခံကျတဲ့ တွန်းအားဟာ လူသုံးကုန်ပစ္စည်းအသစ်တွေ၊ ထုတ်လုပ်မှုနဲ့ သယ်ယူပို့ဆောင်ရေးနည်းလမ်းသစ်တွေ၊ အရင်းရှင်စီးပွားရေးလုပ်ငန်းတွေက တီထွင်ဖန်တီးထားတဲ့ လုပ်ငန်းအဖွဲ့အစည်းပုံစံသစ်တွေကနေ ဆင်းသက်လာတာဖြစ်တယ်။
>
> ဂျိုးဇက် ရွှန်းပီတာ

| ၁၈၈၅ | ၁၉၀၃ | ၁၉၈၉ |
|---|---|---|
| ဂျာမနီမှာ Karl Benz တီထွင်တဲ့ ဒိုင်ဇယ်အင်ဂျင်နဲ့ ပထမဆုံး ဓာတ်ဆီကားကို ရောင်းပတ်ဖောင်းနှင် | ပထမဆုံးပါဝါသုံးလေယာဉ်ပျံကို ရိုက်ညီနောင် ပျံ | Tim Berners-Lee က အင်တာနက်ကွန်ရက် World Wide Webကိုတီထွင်ဖန်တီး |

ဒီကာလမတိုင်ခင်က လူတွေဟာ သူတို့ရှင်သန်ရပ်တည်ရေးအတွက် ရေ၊ လေနဲ့ မြင်းတို့၊ နွားတို့လိုတိရစ္ဆာန်တွေရဲ့ သဘာဝစွမ်းအင်တွေအပေါ်မှာပဲ မှီခိုအားထားခဲ့ကြတယ်။ နောက်ပိုင်းမှာ သူတို့ဟာ ကုန်ထုတ်စွမ်းအားကို တိုးစေတဲ့ စက်ယန္တရားတွေကို မောင်းနှင်ဖို့ ကျောက်မီးသွေးကို အသုံးချလာနိုင်ခဲ့တယ်။ ဒီနောက်မှာ လူတွေဟာ စက်ယန္တရားတွေကို တီထွင်ဖန်တီးရာမှာ ကျွမ်းကျင်လာခဲ့တယ်။ ဒါကြောင့် ပထမဆုံးစက်ရုံတွေပေါ်ပေါက်လာပြီး အဒမ်စမစ်ရဲ့အလုပ်ခွဲခြားလုပ်ကိုင်ခြင်းကို ဖွဲ့စည်းလုပ်ဆောင်လာကြတယ် (အခန်း ၆ ကိုကြည့်ပါ)။ အစပိုင်းမှာ ဒီတော်လှန်ရေးဟာ အင်္ဂလန်မှာ ဖြစ်ပွားခဲ့ပြီး မကြာခင်မှာပဲ ဥရောပတစ်လွှားကို ပျံ့နှံ့သွားခဲ့တယ်။ နောက်ပိုင်းမှာတော့ အမေရိကအထိပါ ပျံ့နှံ့ရောက်ရှိခဲ့တယ်။

တော်လှန်ရေးရဲ့အကျိုးသက်ရောက်မှုကတော့ အကြီးအကျယ်ပါပဲ။ ယူကေမှာ အလယ်ခေတ်မတိုင်မီကာလတွေကတည်းက နေ့ဥစ္စာဖန်တီးနိုင်မှုကိုတိုင်းတာတဲ့ တစ်ဦးကျ ဂျီဒီပီဟာ မပြောင်းမလဲတည်ငြိမ်နေခဲ့တယ်။ ယူကေရဲ့ ဂျီဒီပီဟာ ရုတ်တရက် မြင့်မြင့်မားမားတိုးတက်သွားခဲ့တယ်။ တချို့စီးပွားရေးပညာရှင်တွေရဲ့အမြင်အရ အဲ့ဒီကာလဟာ အနောက်ဥရောပနိုင်ငံတွေရဲ့ စီးပွားရေးဟာ မာလ်သူစီယံထောင်ချောက်ကနေ လွတ်မြောက်သွားတဲ့ အချိန်ဖြစ်တယ်(အခန်း ၃ ကိုကြည့်ပါ)။ မာလ်သူစီယံထောင်ချောက် အယူအဆအရ လူဦးရေအကန့်အသတ်က သူတို့ကို တိုးတက်မှုမရှိတော့ဘဲ၊ အီလည်ထိုင်းမှိုင်းတဲ့ အနေအထားကို ဆိုက်ရောက်သွားစေမယ်လို့ ဆိုတယ်။ ဓနဥစ္စာနဲ့ ဖူလုံမှုသက်တမ်းတိုးတက်လာတာကြောင့် မိသားစုတွေရဲ့အရွယ်အစားကလည်း ကြီးမားလာခဲ့တယ်။ အင်္ဂလန်နဲ့ ဝေးလ်စ်ရဲ့လူဦးရေဟာ ၁၈ ရာစုမှာ ၆ သန်းလောက် ရှိခဲ့ရာကနေ ၁၉ ရာစုအဆုံးမှာ သန်း ၃၀ ကျော်အထိရှိလာခဲ့တယ်။

## ဒုတိယစက်မှုတော်လှန်ရေး

ဒုတိယစက်မှုတော်လှန်ရေးကိုတော့ လျှပ်စစ်နဲ့ သိပ္ပံနည်းပညာတော်လှန်ရေးအဖြစ် ညွှန်းဆိုတတ်ကြတယ်။ ဒီတော်လှန်ရေးက (သံမဏိနဲ့ အခြားသတ္တုတွေဖန်တီးထုတ်လုပ်ခြင်းနဲ့ ဆိုင်တဲ့) သတ္တုဗေဒပညာရပ်၊ သဘာဝစွမ်းအားကို လျှပ်စစ်စွမ်းအင်ရရှိအောင် ထိန်းချုပ်ထုတ်ယူ၍ အသုံးချခြင်း၊ ရေနံနဲ့ဓာတ်ဆီထုတ်လုပ်ရန် ရေနံစိမ်းရှာဖွေထုတ်လုပ်ခြင်းလုပ်ငန်းတွေကို ဖွံ့ဖြိုးလာစေခဲ့တယ်။ ပထမစက်မှုတော်လှန်ရေးကနေ ဆက်လက်ရှင်သန်ဖွံ့ဖြိုးလာတဲ့ ဒီတော်လှန်ရေးခေတ်က ကမ္ဘာလောကကြီးဆီကို မော်တော်ကား၊ လေယာဉ်ပျံ၊



### ခုန်ပျံကျော်လွှားနည်းပညာများ

ထင်ရှားတဲ့ တိုးတက်မှုဒီသသာလကွာကာတွေကြားမှာ တော်လှန်ရေးတစ်ရပ်လို့ မဆိုနိုင်ရင်တောင်မှ ခုန်ပျံကျော်လွှားနည်းပညာတွေလို့ ဆိုရမယ့်အရာတွေရှိတယ်။ ကမ္ဘာ့နေရာအတော်များများမှာ သူတို့ရဲ့ ချမ်းသာကြွယ်ဝမှုဟာ အစပိုင်းမှာ မီးရထား သံလမ်းတွေလို၊ လျှပ်စစ်ကွန်ရက်သွယ်တန်းမှုတွေလို တန်ဖိုးကြီးတဲ့အခြေခံအဆောက်အအုံတွေကို အခြေခံခဲ့တယ်၊ ဒီလိုအခြေခံအဆောက်အအုံအဆင့်အနစ်ကောင်းတွေ မရှိတဲ့ ကမ္ဘာ့အစိတ်အပိုင်းတွေဟာ အလျှင်အမြန်ဖွံ့ဖြိုးဖို့ မဖြစ်နိုင်ပါဘူး။ ဒါပေမဲ့ ကွန်ရက်တစ်ခုတည်ဆောက်ဖို့ အရင်က တွက်ခြေမကိုက်ခဲ့တဲ့ အာဖရိကကို မိုဘိုင်းဖုန်းနည်းပညာက အစွမ်းကုန်မြေဆန် လာနိုင်ခဲ့ပါပြီ။ အရင်ဘယ်တုန်းကမှ လျှပ်စစ်ဓာတ်အားရဲ့အကျိုးကျေးဇူးကို မခံစားခဲ့ရဘူးတဲ့ လူထုဆီကို နေရောင်ခြည်စွမ်းအင်သုံးလျှပ်စစ်ဓာတ်အားပေးစက်ရုံငယ်လေးတွေကနေ လျှပ်စစ်ဓာတ်အားထောက်ပံ့ပေးနိုင်ဖို့ အလားအလာကောင်းတွေလည်း ရှိနေပြီဖြစ်ပါတယ်။ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝါဒီတွေက ဒါကို လေထုညစ်ညမ်းမှုနဲ့ ရာသီဥတု ပြောင်းလဲမှုတွေရဲ့အဖြေတစ်ရပ် ဖြစ်ကောင်းဖြစ်နိုင်တယ်လို့ ယုံကြည်ကြပေမယ့် ဒါက ကမ္ဘာတစ်လွှားမှာ ပဟိုအချက်အချာကျတဲ့ မြို့ပြတွေ၊ လူထုတွေကို တဖြည်းဖြည်းတိုးတက်မှု လျော့နည်းလာစေတဲ့သဘော သက်ရောက်နေတယ်လို့ တချို့က သံသယရှိကြတယ်(အခန်း ၄၅ ကိုကြည့်ပါ)။

နိုင်ငံတကာကော်ပိုရေးရှင်းနဲ့ တယ်လီဖုန်းတွေကို ဆောင်ယူပေးခဲ့တယ်။ အဲဒီခေတ်မှာ ဗြိတိန်ရဲ့ကမ္ဘာကြီးကိုလွှမ်းမိုးထားနိုင်မှု စတင်ဆုတ်ယုတ်စပြုလာပြီး ယူအက်စ်နဲ့ ဂျာမနီနိုင်ငံတွေဟာ ကမ္ဘာ့စီးပွားရေးစူပါပါဝါနိုင်ငံတွေအဖြစ် အလျှင်အမြန် ပေါ်ထွက်လာခဲ့တယ်။

## တတိယစက်မှုတော်လှန်ရေး၊ ကွန်ပြူတာခေတ်

မကြာသေးခင်ကာလကစပြီး အဆင့်မြင့်သိပ္ပံနည်းပညာဖွံ့ဖြိုးလာမှုနဲ့အတူ စတင်ခဲ့တဲ့ ဒီကာလကို စီးပွားရေးပညာရှင်တွေက ၁၉၈၀ နှောင်းပိုင်းနှစ်များမှ

စတင်တယ်လို့ ယူဆကြပြီး တတိယစက်မှုတော်လှန်ရေးကာလလို့ သတ်မှတ်ခဲ့ကြတယ်။ ဒီတော်လှန်ရေးကို ကွန်ပြူတာနဲ့ အင်တာနက်နည်းပညာဖွံ့ဖြိုးမှုတွေက ဆောင်ကြဉ်းပေးခဲ့တယ်။ ကွန်ပြူတာနဲ့ အင်တာနက် နည်းပညာဖွံ့ဖြိုးမှုက ကမ္ဘာ့ဆက်သွယ်ရေးနဲ့ ကူးသန်းရောင်းဝယ်ရေးနယ်ပယ်ကို အများကြီးအပြောင်းအလဲဖြစ်စေခဲ့တယ်။ ၂၁ ရာစုမှာ ကမ္ဘာ့တစ်ဖက်ခြမ်းကနေ နောက်တစ်ဖက်ခြမ်းကို ခလုတ်လေး တစ်ချက်နှိပ်လိုက်ရုံနဲ့ ဧရာမအရင်းအနှီးပမာဏကြီးတွေ (ဥပမာ ငွေနဲ့အက်ဆက်တွေ) ကို လွှဲပြောင်းပေးလာနိုင်တယ်၊ အဆင့်မြင့်ဆက်သွယ်ရေး နည်းပညာတွေ ဖွံ့ဖြိုးလာမှုကြောင့် အိန္ဒိယ၊ တရုတ်နဲ့ တခြားနိုင်ငံတွေမှာ ကုမ္ပဏီတွေဟာ သူတို့ရဲ့စီးပွားရေးလုပ်ငန်းခွဲတွေအားလုံးကို သွားရောက်အခြေစိုက်ထားနိုင်တယ်။ ဒီလိုလုပ်လာနိုင်ခြင်းကြောင့် ဘီလီယံပေါင်းများစွာ ကုန်စရိတ်သက်သာသွားပြီး အမြတ်ငွေတွေ တိုးပွားစေနိုင်တယ်။

အရင်တော်လှန်ရေးတွေလိုပဲ၊ ဒီနည်းပညာခုန်ပျံကျော်လွှားတိုးတက်လာမှုနဲ့အတူ တရုတ်နဲ့ အိန္ဒိယတို့လို အလားအလာရှိတဲ့ စီးပွားပါဝါသစ်တွေဟာ ဒီအရွေ့အပြောင်းအပေါ် အမြတ်ထုတ်ပြီး ပေါ်ထွက်လာခဲ့တယ်၊ ၂၀၀၆ ခုနှစ်ထဲဝင်ရောက်လာတဲ့အထိ ဆယ်စုနှစ်တစ်ခုအတွင်းမှာ သိပ္ပံနည်းပညာတော်လှန်ရေးနဲ့အတူ ကျွဲကူးရေပါဆိုသလို ပေါ်ထွက်လာတဲ့ ဒီနိုင်ငံတွေဟာ မှတ်တမ်းတွေအရ ကမ္ဘာ့စီးပွားရေးတိုးတက်မှု အရှည်ကြာဆုံးကာလကို ထည့်ဝင်ဖြည့်ဆည်းပေးခဲ့ကြတာဖြစ်ပါတယ်။ နောက်ပိုင်းမှာ ကမ္ဘာ့စီးပွားရေးရုတ်ချည်းပြန်လည်ကျဆင်းလာခဲ့ပေမယ့် စီးပွားရေးပညာရှင်အများစုက တတိယစက်မှုတော်လှန်ရေးက လာမယ့်ရာစုနှစ်တွေမှာ အကျိုးခံစားမှုတွေ ဆက်လက်ဖြစ်ထွန်းစေလိမ့်မယ်လို့ ယုံကြည်ခဲ့ကြတယ်။

နည်းပညာခုန်ပျံတိုးတက်ဖြစ်ထွန်းမှု အထင်အရှားရှိခဲ့ပေမယ့် အင်တာနက် စီးပွားရေးသစ်က အရင်တော်လှန်ရေးတွေမှာ မြင်တွေ့ခဲ့ရသလိုပဲ ထင်ရှားတဲ့ အရွေ့တစ်ခုကို ကိုယ်စားပြုတယ် ဆိုတဲ့အပေါ်မှာတော့ တချို့တွေက သံသယရှိကြတယ်။ ကြီးကျယ်တဲ့ပြောင်းလဲမှုတွေဖြစ်ခဲ့ပေမယ့် နော့သ်ဝက်စတန်းတက္ကသိုလ်က စီးပွားရေးပညာရှင် ရောဘတ်ဂေါ်ဒွန်ရဲ့အလိုအရတော့ ဒီပြောင်းလဲမှုတွေက လျှပ်စစ်၊



သယ်ယူပို့ဆောင်ရေး၊ ရုပ်ရှင်ရုံ၊ ရေဒီယိုနဲ့ အဆောက်အအုံတွင်း ရေပိုက်သွယ်တန်းမှု စတဲ့အရင်တုန်းကတီထွင်ဖန်တီးမှုတွေလို လူတွေရဲ့ဘဝနေထိုင်မှုအပေါ် နက်ရှိုင်းတဲ့ သက်ရောက်မှုတွေမရှိခဲ့ဘူးလို့ ဆိုတယ်။

## အနာဂတ်တော်လှန်ရေးများ

ကွန်ပြူတာခေတ်က လူသားတွေကို ကိုယ်တိုင်ကိုယ်ကျ ပြောင်းလဲသွားစေတဲ့ တော်လှန်ရေးရဲ့ ရှေ့ပြေးနိမိတ်တစ်ခုသက်သက်ပဲ ဖြစ်ချင်ဖြစ်နိုင်ပါတယ်။ ကြာသေးမီက လူသားရဲ့မျိုးရိုးဗီဇဆိုင်ရာတွေကို ရှာဖော်ထုတ်နိုင်မှုတွေက လူသားစွမ်းဆောင်ရည်ကို အဆတိုးတက်သွားစေနိုင်တယ်ဆိုတာကို ညွှန်ပြနိုင်တဲ့ သက်သေအထောက်အထားတွေလည်း အများအပြားရှိပါတယ်။ ရှေ့ဆက်မျှော်မှန်းနိုင်တဲ့ ဇီဝတော်လှန်ရေးဖြစ်စဉ်မှာ လူတွေဟာ မကြာမီမှာပဲ သူတို့ရဲ့မျိုးရိုးဗီဇဖွဲ့စည်းပုံတွေကို ထိန်းချုပ်နိုင်တဲ့စွမ်းရည်တွေရှိကောင်း ရှိလာနိုင်မယ်လို့ မျှော်လင့်ကြတယ်။ လူသားဇီဝတူကိုယ်ပွားလုပ်ဆောင်ချက်လို အငြင်းအခုံအပြင်းပွားဖွယ်ရာလှုပ်ရှားမှုတွေရှိနေပေမယ့် ဒီအဆက်အစပ်အတွင်း အနာဂတ်ကာလမှာ လူသားမျိုးနွယ်တွေအတွက် စီးပွားရေးတိုးတက်ဖို့ အခွင့်အလမ်းတွေရှိကောင်းရှိနေနိုင်တယ်ဆိုတဲ့အပေါ် တချို့က သံသယရှိကြတယ်။

ကွန်ပြူတာတွေရဲ့တော်လှန်ပြောင်းလဲနိုင်တဲ့စွမ်းရည်နဲ့ အင်တာနက်နည်းပညာက ကမ္ဘာ့စီးပွားရေးကို ဘယ်လိုအခြေခံအမြစ်ကျကျပြောင်းလဲမှုတွေဖြစ်စေလိမ့်မယ် ဆိုတာကို လူအနည်းငယ်လောက်ကပဲ ကြိုတင်သိမြင်ခဲ့ကြတာဖြစ်ပါတယ်၊ ဒါကြောင့် နောက်ထပ်နည်းပညာတိုးတက်ဖြစ်ထွန်းမှုတွေက မနက်ဖြန်ရဲ့ ကမ္ဘာကြီးကို လုံးဝနီးပါးမှတ်မိမရနိုင်လောက်အောင် ဖြစ်သွားစေလိမ့်မယ် ဆိုတာကလည်း ဖြစ်နိုင်ခြေရှိတာပါပဲ။

### အနှစ်ချုပ်အတွေးအခေါ်

**နည်းပညာဟာ စီးပွားရေးလောင်စာဖြစ်တယ်**

# ၄၄ - ဖွံ့ဖြိုးမှု ဘောဂဗေဒ

## Development economics

**ဘာလင်တံတိုင်းပြိုကျပြီး ယခင်ဆိုဗီယက်အုပ်စုနိုင်ငံတွေမှာ ကွန်မြူနစ်ဝါဒပြိုလဲသွားခြင်းက ကမ္ဘာတလွှားမှာ စီးပွားရေးတိုးတက်မှုအတွက် အပြောင်းအလဲဖြစ်ဖို့ အထင်ရှားဆုံး အထောက်အကူဖြစ်စေတဲ့အရာတွေထဲကတစ်ခုဆိုတာ သံသယဖြစ်စရာမရှိဘူး။ ယခင်ဆိုဗီယက်ပြည်ထောင်စုရဲ့ အမိန့်ပေးစီးပွားရေးစနစ်ဟာ တိုးတက်မှုကို ဖိနှိပ်ထားပြီး ဆုတ်ယုတ်ကျဆင်းသွားစေခဲ့တာကြောင့် ရုရှားနိုင်ငံသားပေါင်းများစွာဟာ အားကိုးရာမဲ့တဲ့ ငတ်မွတ်မှုတွေကြုံတွေ့ခဲ့ရတယ်။ အခုအချိန်မှာ ယခင်ကွန်မြူနစ်နိုင်ငံတွေဟာ လွတ်လပ်တဲ့ဈေးကွက်ကိုလက်ခံယုံကြည်လာတာကြောင့် သူတို့ရဲ့စီးပွားရေးဟာ လျှင်လျှင်မြန်မြန် ဦးမော့လာခဲ့ပြီး တချို့လူတွေ နောက်ကျကျန်ခဲ့ပေမယ့် သန်းပေါင်းများစွာသော နိုင်ငံသားတွေကတော့ အရင်ကထက် အများကြီးပိုချမ်းသာကြွယ်ဝလာခဲ့ကြတယ်။**

ဒါပေမဲ့ ဒီပျော်ရွှင်ဖွယ်ဇာတ်လမ်းတွေရဲ့ အခြားတဖက်ကအခြေအနေတွေလည်း ရှိနေပါသေးတယ်၊ ဝစ်ဒေးတိုက်ပွဲရဲ့ အကျိုးဆက်တွေထဲကတစ်ခုက နှစ်ဖက်စလုံးမှာ ဆင်းရဲတဲ့နိုင်ငံတွေ (ဖွံ့ဖြိုးဆဲတတိယကမ္ဘာနိုင်ငံတွေ) အပေါ် ကြင်ကြင်နာနာ ဆက်ဆံဖို့ကလွဲပြီး တခြားရွေးချယ်စရာမရှိသလောက်ဖြစ်ခဲ့တာပါပဲ။ သူတို့အပေါ် ထောက်ခံမှုတွေ ဆုံးရှုံးရမှာကြောက်လို့ တတိယကမ္ဘာနိုင်ငံတွေကို ငွေကြေးထောက်ပံ့မှုတွေ တအိအိနဲ့ ပေးနေခဲ့ရတယ်၊ ဆိုလီက ဩဂတ်စတိုပီနိုချေးလို့၊ ဗိုင်ယာက သမ္မတ မော်ဘူတူတို့လို အကျင့်ပျက်အာဏာရှင်တွေကို ရုရှားရော၊ အနောက်အုပ်စုနိုင်ငံတွေကပါ မကြာခဏ ထောက်ပံ့ကူညီခဲ့ရတယ်။ ထောက်ခံမှုရဖို့ အပြိုင်အဆိုင်ကြိုးစားကြခြင်းက တတိယကမ္ဘာနိုင်ငံတွေကို ငွေကြေးတွေထက်လက်စီးဆင်းနေစေခဲ့တယ်၊



ကမ္ဘာသစ်

ဒီငွေကြေးစီးဆင်းမှုတွေဟာသံကန့်လန့်ကာ (Iron Curtain) ပြိုကျသွားမှုနဲ့အတူ ရပ်တန့်သွားခဲ့တယ်။ နိုင်ငံပေါင်းများစွာဟာ သူတို့စီးပွားရေးကိုအထောက်အပံ့ဖြစ်စေတဲ့ အကူအညီစီးဆင်းမှုတွေကနေ အရင်က အကျိုးခံစားခဲ့ရတယ်။ (ဒီအထောက်အပံ့တွေဟာ အာဏာရှင်တွေရဲ့ ဆွစ်ဘဏ်စာရင်းတွေထဲ ရောက်သွားတာတောင်မှ ထောက်ပံ့မှုတွေကို ဆက်လက်ခံစားနေရတုန်းပဲ၊) ဒါပေမဲ့ အခုအချိန်မှာတော့ ဒီနိုင်ငံတွေဟာ ရေစုလျှော့ကျပြီး ဆင်းရဲတွင်းနက်သထက်နက်လာမယ့် အခြေအနေကိုရောက်သွားခဲ့ကြရတယ်။ ဒီဖြစ်ရပ်က နေရာတိုင်းမှာ ဖြစ်ခဲ့တာတော့မဟုတ်ဘူး၊ ကွန်မြူနစ်၊ ဆိုရှယ်လစ်တွေရဲ့ တင်းကျပ်တဲ့ စီးပွားရေးထိန်းချုပ်မှုတွေကနေ လွတ်မြောက်စေခြင်းက တရုတ်နဲ့အရှေ့အာရှနိုင်ငံတွေကို လျှင်လျှင်မြန်မြန်စီးပွားရေးတိုးတက်လာစေဖို့ အထောက်အကူဖြစ်စေပြီး သန်းနဲ့ချီတဲ့ပြည်သူတွေကို ဆင်းရဲတွင်းက ဆွဲတင်နိုင်ခဲ့တယ်၊ ကမ္ဘာကြီးရဲ့ အခြေအနေတွေဟာလည်း ပြောင်းလဲလာခဲ့တယ်၊

ကမ္ဘာ့စီးပွားရေးဟာချမ်းသာသူငါးပုံတစ်ပုံ၊ ဆင်းရဲသူငါးပုံလေးပုံဆိုတဲ့ အခြေအနေလောက်မှာ ရပ်မနေတော့ဘူး။ ကမ္ဘာသစ်မှာချမ်းသာတဲ့ ငါးပုံတစ်ပုံ၊ ဝက်မှတ်ထွန်းကားလာပြီး အရှိန်ကောင်းကောင်းနဲ့ အမီလိုက်လာတဲ့ ထွန်းသစ်စစီးပွားရေးလို့ ဆိုရမယ့် ငါးပုံသုံးပုံ၊ ကျန်ငါးပုံတစ်ပုံကတော့ ဆင်းရဲနေဆဲပဲ။ ဖွံ့ဖြိုးမှု ဘောဂဗေဒဟာ နောက်ဆုံးငါးပုံတစ်ပုံရဲ့အတိဒုက္ခနဲ့ အဓိကပတ်သက်နေတယ်။ ဖွံ့ဖြိုးမှု ဘောဂဗေဒနယ်ပယ်မှာ ထင်ရှားတဲ့ပညာရှင်တစ်ယောက်ဖြစ်တဲ့ Paul Collier ရဲ့စကားလုံး အတိုင်းဆိုရင်တော့ "အောက်ခြေကသန်းတစ်ထောင်အတွက်ပေါ့၊"

## နိုင်ငံတစ်နိုင်ငံကို ဘယ်အရာက ချမ်းသာအောင်လုပ်ပေးသလဲ

တချို့နိုင်ငံတွေက ဆင်းရဲမှုထောင်ချောက်ထဲပိတ်လှောင်မိနေချိန်မှာ တချို့နိုင်ငံတွေက ဆင်းရဲတွင်းက ဘာကြောင့်အလွယ်တကူရုန်းထွက်နိုင်ကြတာလဲ ဆိုတာနဲ့ပတ်သက်ပြီး သီအိုရီတွေကတော့ မနည်းမနောပါပဲ၊ တချို့က နိုင်ငံရဲ့ ရာသီဥတုနဲ့ မြေမျက်နှာသွင်ပြင်အနေအထားကို အဓိကထားစဉ်းစားကြတယ်၊ ဒီနှစ်ခုစလုံးက သီးနှံစိုက်ပျိုးဖို့နဲ့ လယ်ယာကဏ္ဍ ဖြိုးလာဖို့အခက်အခဲ

**အချိန်ပြဇယား:**

| ၁၇၀၀ နှစ်များ | ၁၉၉၀ | ၂၀၀၁ | ၂၀၁၅ |
|---|---|---|---|
| အနောက်နိုင်ငံတွေက ပုန်ကန်မှုသက်တမ်းဟာ စက်မှုတော်လှန်ရေးကာလမှာ တစ်ဟုန်ထိုးမြင့်တက်လာတယ် | ဆိုဗီယက်ပြည်ထောင်စု ပြိုလဲကျသွားခြင်းက တရုတ်နဲ့အိန္ဒိယကို ချမ်းသာမှုလမ်းကြောင်းပေါ်ရောက်သွားစေတယ်၊ | ကုလသမဂ္ဂက ထောင်စုနှစ် ဖွံ့ဖြိုးရေးရည်မှန်းချက်တွေကို ချမှတ် | ထောင်စုနှစ်ဖွံ့ဖြိုးရေးရည်မှန်းချက်တွေ ပြည့်မြောက်အောင်မြင်ဖို့ ရည်မှန်းချက်ထားတဲ့ကာလ |

## ထောင်စုနှစ် ဖွံ့ဖြိုးရေးရည်မှန်းချက်များ

ထောင်စုနှစ်ဖွံ့ဖြိုးရေးရည်မှန်းချက်တွေဆိုတာ ဖွံ့ဖြိုးဆဲနိုင်ငံတွေမှာ နေထိုင်ကြတဲ့သူတွေရဲ့ အသိဉာဏကနေ လွတ်မြောက်စေရေးအတွက် ရည်ရွယ်တဲ့ရည်မှန်းချက်ပန်းတိုင်ရှစ်ရပ်ပဲ။ ဒီရည်မှန်းချက်ရှစ်ရပ်ကို ၂၀၀၀ ခုနှစ်မှာ ကုလသမဂ္ဂကနေ ချမှတ်ခဲ့ပြီး ၂၀၁၅ ခုနှစ်မှာ ပြည့်မြောက်ဖို့ ရည်ရွယ်ခဲ့တယ်၊ ဒါပေမဲ့ လမ်းတစ်ဝက်ရောက်ချိန်၊ ၂၀၀၉ ခုနှစ်မှာ စည်းရုံးလှုံ့ဆော်သူတွေဟာ လုပ်ငန်းစဉ်နှေးကွေးလွန်းမှုအပေါ် သတိပေးခဲ့ကြတယ်။

ရည်မှန်းချက် ၁ ။ အလွန်အမင်းဆင်းရဲမွဲတေမှုနဲ့ အငတ်ပြဿနာကို တိုက်ဖျက်ဖို့
ရည်မှန်းချက် ၂ ။ တစ်ကမ္ဘာလုံးအခြေခံပညာရေးကို ရရှိစေနိုင်ဖို့
ရည်မှန်းချက် ၃ ။ ကျားမတန်းတူညီမျှမှုကိုမြှင့်တင်ပေးဖို့နဲ့ အမျိုးသမီးတွေကို လုပ်ပိုင်ခွင့်တွေပေးဖို့
ရည်မှန်းချက် ၄ ။ ကလေးအသေအပျောက်နှုန်းကိုလျှော့ချဖို့
ရည်မှန်းချက် ၅ ။ မိခင်တွေရဲ့ကျန်းမာရေးကို တိုးတက်ကောင်းမွန်လာစေဖို့
ရည်မှန်းချက် ၆ ။ HIV/AIDS ၊ ငှက်ဖျားနဲ့ တခြားရောဂါတွေကို တိုက်ဖျက်ဖို့
ရည်မှန်းချက် ၇ ။ သဘာဝပတ်ဝန်းကျင်ရေရှည်ထိန်းသိမ်းနိုင်မှုကို သေချာစေဖို့
ရည်မှန်းချက် ၈ ။ ဖွံ့ဖြိုးမှုအရေးအတွက် ကမ္ဘာလုံးဆိုင်ရာလက်တွဲလုပ်ဆောင်မှု ပေါ်ထွက်လာစေဖို့

ဖြစ်စေနိုင်တာကြောင့်ပဲ။ တချို့ကတော့ ပစ္စည်းဥစ္စာပိုင်ဆိုင်မှုအခွင့်အရေးဆိုင်ရာ သဘောထားအမြင်ခွဲလိုမျိုး စွဲမြဲအမြစ်တွယ်နေတဲ့ ဓလေ့ထုံးတမ်းတွေအပေါ်ပိုပြီးအာရုံစိုက်ကြတယ်။ တချို့ကပြန်တော့လည်း နိုင်ငံရေးနဲ့ လူမှုရေးဆိုင်ရာအင်စတီကျူးရှင်းတွေကို အောင်အောင်မြင်မြင် တည်ဆောက်နိုင်သလား၊ မတည်ဆောက်နိုင်ဘူးလားဆိုတဲ့အပေါ်အာရုံစိုက်ကြပြန်တယ်။ တချို့တွေကပြန်တော့ တိုင်းပြည်ရဲ့နေဥတ္တု၊ ဒါမှမဟုတ် တခြားအကြောင်းတွေကြောင့် သမိုင်းဆိုင်ရာ တိုက်ဆိုင်မှုတစ်ရပ်လို့မြင်ကြတယ်။ တချို့ကလည်း တိုင်းပြည်ရဲ့ကံကြမ္မာနဲ့ဆိုင်တယ်လို့ ယူဆကြတယ်၊ သိသာထင်ရှားတဲ့ အကြံပြုချက်ဆိုတာမရှိသလောက်နည်းတယ်လို့ ဆိုရမယ်။ ဇီဝဗေဒနဲ့ မနုဿဗေဒပညာရှင် Jared Diamond က တချို့သောရောဂါဘယတွေကို စုစ်နိုင်စွမ်းဆိုတာ တိုးတက်ဖွံ့ဖြိုးမှုအတွက် မရှိမဖြစ်လိုအပ်ချက်တစ်ရပ်ပဲလို့ ယုံကြည်တယ်၊ စီးပွားရေးပညာရှင် Gregory Clark



ကတော့ လူတန်းစားအလွှာ၊ အလုပ်ကြိုးစားတဲ့ လူလတ်တန်းစားယဉ်ကျေးမှု ပျံ့နှံ့တည်ရှိခြင်းနဲ့ လူ့အဖွဲ့အစည်းတစ်ရပ်လုံးရဲ့ ဗီဇတွေဟာ အဓိကအကြောင်းတရားတွေလို့ ဆိုတယ်။

နိုင်ငံတွေခေတ် သုံးနှုန်းနေကြတဲ့ ဖွံ့ဖြိုးပြီးနဲ့ ဖွံ့ဖြိုးဆဲကမ္ဘာဆိုတဲ့ကြားမှာ ဥစ္စာဓနကွာခြားမှုဟာ အလယ်ခေတ်မှာတော့ သိပ်ပြီးအဓိပ္ပါယ်မရှိလှဘူး။ ဒီခေတ်နဲ့ အဲ့ဒီတုန်းကအခြေအနေကြားမှာ ရောမအင်ပါယာ ကြီးတစ်ခု ကွာဟသွားခဲ့ပါပြီ၊ ဒီကွာဟချက်ရဲ့အဓိကဇာတ်ကောင်ကတော့ အာဖရိကတိုက်ပဲ။ စီးပွားရေး အခြေအနေတွေအရတော့ အာဖရိကတိုက်ဟာ အလယ်ခေတ်မှာ ပိတ်မိနေဆဲပါပဲ။ ဆဟာရကန္တာရ နယ်မြေအများစုမှာ ဝမ်းစာဖူလုံရုံအတွက် စိုက်ပျိုးတဲ့လယ်တွေပဲ အများဆုံးရှိနေတယ်။ ဖို့အပြင် ဥရောပပြုပြင်ပြောင်းလဲရေး အကြိုကာလထက်ဆောင်မှ အကြောင်းပေါင်းစုံနဲ့ လူသေပျောက်နှုန်းက ပိုမိုဆိုးရွားနေခဲ့တယ်။ မကြာသေးမီနှစ်တွေက အာဖရိကတိုက်တစ်ခုလုံးမှာ အေအိုင်ဒီအက်စ်ရောဂါ ပျံ့နှံ့မှုကြောင့် ပိုပြီးဆိုးရွားလာခဲ့တယ်။ ဒါကြောင့် ပျမ်းမျှလူ့သက်တမ်းက နှစ် ၅၀ လောက်ပဲရှိပြီး ကလေးခုနစ်ယောက်မှာ တစ်ယောက်ဟာ ငါးနှစ်မတိုင်ခင်မှာ သေဆုံးနေတာ တွေ့ရတယ်။

### ထောင်ချောက်များ

Paul Collier ရဲ့အလိုအရတော့ ဆင်းရဲတဲ့ နိုင်ငံတွေဟာ ထောင်ချောက်လေးခုထဲမှာ ကျရောက်နေနိုင်ပြီး အဲ့ဒီထောင်ချောက်တွေထဲကရုန်းထွက်ဖို့ဆိုတာကလည်း အလွန်အင်မတန်ခက်ခဲတယ်လို့ ဆိုတယ်။

ပြည်တွင်းစစ် ။ ပြည်တွင်းစစ်က အောက်ခြေသန်းတစ်ထောင်ရဲ့လေးပုံသုံးပုံနီးပါးကို ဖိစီးနှိပ်စက်နေတယ်။ အင်ဂိုလာနိုင်ငံမှာ လူပေါင်းငါးသိန်းလောက်ဟာ ပြည်တွင်းစစ်ကြောင့် အသက်ဆုံးရှုံးခဲ့ကြပြီး ကွန်ဂိုနိုင်ငံဟာဆိုရင်လည်း ၁၉၉၇ ခုနှစ်ကတည်းက ပြည်တွင်းစစ်နွံထဲမှာ နစ်နေခဲ့တယ်၊

သယံဇာတဆောင်ချောက် ။ ရေနံ၊ ရွှေနဲ့ဝိန်တို့လိုသဘာဝသယံဇာတ အမြောက်အမြားပေါ်ထွက်ရရှိနေတဲ့ နိုင်ငံဟာလည်း အားနည်းချက်ပျော့ကွက်တွေ ရှိနေတတ်တယ်။ အကြောင်းကတော့ အကျင့်ပျက်ခြစားတဲ့ ခေါင်းဆောင်တွေဟာ အာဏာကို ဆုပ်ကိုင်ထားနိုင်ဖို့ အခွင့်အလမ်းတွေရအောင်ပိုပြီး အားထုတ်လုပ်ဆောင်တတ်ကြပြီး ဆင်းရဲတဲ့ တိုင်းသူပြည်သားတွေလက်ထဲကို ငွေကြေးတွေရောက်မသွားအောင် တားဆီးတတ်ကြတယ်၊

> စစ်အေးတိုက်ပွဲမတိုင်ခင်တာခင်ရှားအနေနဲ့ ဖွံ့ဖြိုးဆဲနိုင်ငံတွေကို အကျိုးသင့်အကြောင်းသင့် ကောင်းကောင်း မှန်မှန်ဆက်ဆံမလား၊ ဒါမှမဟုတ် ဒီနိုင်ငံတွေကို တခြားတစ်ဖက်ရောက်သွားစေမလားဆိုပြီး ရုရှားနိုင်ငံတစ်နိုင်ငံခေါ်မှုတွေရှိခဲ့ဖူးတယ်။ ဒီလိုနဲ့ အပြိုင်အဆိုင်ဖြစ်ခဲ့ကြတယ်။
>
> **Joseph Stiglitz**
>
> နိုဘယ်ဆုရ ယခင်ကမ္ဘာ့ဘဏ် စီးပွားရေးပညာရှင်အကြီးအကဲ

**ကုန်းပိတ်ထောင်ချောက်** ။ ပင်လယ်ထွက်ပေါက်မရှိတဲ့ ကုန်းပိတ်နိုင်ငံတွေဟာ ကုန်သွယ်ရေးကို ဖိနှိပ်ထိန်းချုပ်ထားပြီး စိတ်ထင်သလို ချယ်လှယ်တတ်တဲ့ အိမ်နီးချင်းနိုင်ငံတွေကို ရှောင်နိုင်စွမ်းမရှိတာကြောင့် သူတို့ရဲ့စီးပွားရေးဟာ ကစင့်ကလျားဖြစ်နေရတတ်တယ်။

**ဆိုးရွားတဲ့အုပ်ချုပ်မှု** ။ ရွေးချယ်တင်မြှောက်ခံထားရတဲ့ ခေါင်းဆောင်တွေပဲ ဖြစ်ဖြစ်၊ အတင်းအဓမ္မ အာဏာကိုရယူထားတဲ့ ခေါင်းဆောင်တွေပဲဖြစ်ဖြစ် ခေါင်းဆောင်မှုအရည်အချင်းညံ့ဖျင်းတာ၊ အကျင့်ပျက်ခြစားမှုတွေ ကျူးလွန်တာဟာ ဆိုးရွားတဲ့အုပ်ချုပ်မှုကို ဖြစ်စေတာပါပဲ။

## ဘာကိုလုပ်ဆောင်ရမလဲ

စစ်အေးတိုက်ပွဲပြီးကတည်းက ဖွံ့ဖြိုးဆဲနိုင်ငံတွေကို ဆင်းရဲမှုကနေ ဆွဲတင်ဖို့ များစွာသော အင်စတီကျူးရှင်းအဖွဲ့အစည်းတွေ ပေါ်ထွက်လာခဲ့တယ်။ အဲ့ဒီထဲမှာ ချမ်းသာတဲ့နိုင်ငံတွေက ဝန်ကြီးဌာနတွေ၊ ကမ္ဘာ့ဘဏ်နဲ့ ကုလသမဂ္ဂတို့လို ဘက်ပေါင်းစုံပါဝင်တဲ့ အင်စတီကျူးရှင်းတွေ (အခန်း ၄၁ ကိုကြည့်ပါ) နဲ့ Oxfam နဲ့ Christian Aid တို့လို အစိုးရမဟုတ်တဲ့ အဖွဲ့အစည်းတွေ စတဲ့ ဖွံ့ဖြိုးမှုနဲ့ ပတ်သက်ပြီး ရှိရှိသမျှအဖွဲ့အစည်းတွေ ပါဝင်တယ်။

ပြဿနာအပေါ် ချဉ်းကပ်ပုံနည်းလမ်းတွေကလည်း အချိန်ကြာလာတာနဲ့အမျှ ပြောင်းလဲလာခဲ့တယ်။ ချမ်းသာတဲ့နိုင်ငံတွေနဲ့ ချမ်းသာကြွယ်ဝသူတွေဟာ ဒုက္ခရောက်နေတဲ့ နိုင်ငံတွေကို တိုက်ရိုက်ထောက်ပံ့ပေးခဲ့ပေမယ့် အာဏာရှင်တွေဟာ ဒီငွေသားတွေကို ပညာရေးနဲ့ ကျန်းမာရေးကဏ္ဍတွေမှာ မသုံးဘဲ သူတို့ရဲ့ တရားမဝင်ဘဏ္ဍာငွေတွေအဖြစ် ခိုးထုတ်သွားတတ်ကြတယ်။ ဒီနေ့ခေတ်မှာတော့ အကူအညီပေးတဲ့ အေဂျင်စီတွေအနေနဲ့ ငွေကြေးတွေကို သက်ဆိုင်ရာနယ်ပယ်တွေအလိုက် တိုက်ရိုက်သုံးစွဲစေတယ်။ စာသင်ကျောင်းတွေ၊ လမ်းတွေ၊ တံတားတွေတည်ဆောက်ဖို့၊ မိသားစုတွေကို ခြင်ထောင်တွေ



ကျောင်းသုံးစာအုပ်တွေ ထောက်ပံ့ဖို့စတဲ့ သီးခြားစီမံကိန်းတွေအတွက်အသုံးပြုရမယ်ဆိုတဲ့ စည်းကမ်း သတ်မှတ်ချက်တွေနဲ့ ငွေကြေးသုံးစွဲမှုကို ကန့်သတ်တာတွေလုပ်ဖို့ကြိုးစားလာကြတယ်။

အမေရိကန်စီးပွားရေးပညာရှင် William Easterly တဖွံ့ဖြိုးမှုနယ်ပယ်မှာ ရင်ဆိုင်နေရတဲ့ ပြဿနာတစ်ရပ်ကိုဖေါ်ထုတ်ခဲ့တယ်။ ပြဿနာက အဲ့ဒီအကူအညီတွေဟာ ဆင်းရဲမှုကနေ စက်မှုထွန်းကားတဲ့အဆင့်ကိုသွားဖို့ အကူးအပြောင်းအတွက် နိုင်ငံတွေကို အဆင်သင့်ဖြစ်စေဖို့ အနည်းအကျဉ်းလောက်ပဲ လုပ်ဆောင်နိုင်တယ်ဆိုတာပဲ။ တရုတ်နိုင်ငံဟာ နှစ်ပေါင်းများစွာကြာအောင် အကူအညီအထောက်အပံ့တွေကို လက်ခံခဲ့တဲ့နိုင်ငံဖြစ်တယ်။ အံ့မခန်းလောက်တဲ့ တိုးတက်မှုတွေကိုတော့ ဘာပဲဖြစ်ဖြစ် ၁၉၉၀ ပြည့်နှစ်နောက်ပိုင်းကာလတွေမှာ ဒီလိုအကူအညီအနည်းအကျဉ်းလောက်နဲ့ ရရှိအောင်လုပ်ဖို့ မဖြစ်နိုင်ဘူး။

အာဖရိကနိုင်ငံတွေမှာ ဆင်းရဲမွဲတေမှုအတွက် အဖြေတစ်ခုကတော့ ချမ်းသာတဲ့နိုင်ငံတွေနဲ့ ကုန်သွယ်ရာမှာ သူတို့တွေရဲ့ပို့ကုန်တွေအပေါ် အခွန်ပေးဖို့မလိုဘဲ ကုန်သွယ်နိုင်ဖို့ဖြစ်တယ်။ နောက်တစ်ခုက သူတို့နိုင်ငံတွင်းကိုတင်သွင်းတဲ့ သွင်းကုန်တွေအပေါ် ယာယီအားဖြင့် အတားအဆီးတွေ ထားဖို့ဖြစ်တယ်။ ဒီအတားအဆီးတွေကြောင့် တရုတ်နဲ့ တခြားနိုင်ငံတွေဟာ အာဖရိကနိုင်ငံတွေရဲ့ စက်မှုကုန်ထုတ်လုပ်ငန်းတွေကိုဆက်ပြီး မရပ်တည်နိုင်အောင် အပြိုင်အဆိုင်မလုပ်နိုင်တော့ဘူး။

ဖြစ်ချင်တော့ ဖွံ့ဖြိုးမှုအကျပ်အတည်းအတွက် အဖြေတစ်စိတ်တစ်ပိုင်းက တရုတ်ကိုယ်တိုင်ကလွဲပြီး ဘယ်သူ့အပေါ်မှာမှ မမူတည်သလိုဖြစ်နေတယ်။ တရုတ်နိုင်ငံကလည်း ထောင်စုနှစ်သစ်ရဲ့အစောပိုင်း နှစ်တွေမှာ သူ့ရဲ့ချမ်းသာကြွယ်ဝမှုတွေကို အောင်အောင်မြင်မြင်တည်ဆောက်ခဲ့ပြီး အာဖရိကနိုင်ငံတွေကို ဒီအရှေ့အာရှစီးပွားရေးနိုင်ငံကြီးရဲ့ ထောက်ပံ့လှူဒါန်းမှုတွေဟာ အခုအချိန်မှာတော့ အမြန်ဆုံး တိုးတက်လာနေတာတွေ နေရတယ်။ ဒီငွေကြေးတွေကို ဒုက္ခအရောက်ဆုံးပိုင်းပြည်တွေ ဆင်းရဲတွင်းက ရုန်းထွက်စေနိုင်ဖို့ အမှန်တကယ်အကူအညီဖြစ်စေမယ့် အခြေအနေတွေနဲ့ ချိတ်ဆက်ထားမထားဆိုတာကတော့ နောက်ထပ်မေးခွန်းတစ်ခုဖြစ်နေတာပါပဲ။

### အနှစ်ချုပ်အတွေးအခေါ်

**အောက်ခြေက သန်းတစ်ထောင်ကို ဆင်းရဲတွင်းက ဆွဲတင်ဖို့ ရည်မှန်းချက်ထားပါ**

# ၄၉ – သဘာဝပတ်ဝန်းကျင်ဆိုင်ရာစီးပွားရေးပညာ

## Environmental economics

**စီးပွားရေးနဲ့သဘာဝပတ်ဝန်းကျင်ဆိုတာ ခွဲခြားလို့မရနိုင်တဲ့အရာတွေပဲ။ စီးပွားရေးဖွံ့ဖြိုးမှုဆိုတာ ရာသီဥတုပြောင်းလဲမှုဆိုင်ရာအဓိကအကြောင်းတရားတွေထဲကတစ်ခုဖြစ်တယ်။ ဒါပေမဲ့ စီးပွားရေးဖွံ့ဖြိုးမှုကပဲ ရာသီဥတုပြောင်းလဲမှုပြဿနာကို ဖြေရှင်းပေးနိုင်တဲ့အရာဖြစ်နေပြန်တယ်။ အလားတူပါပဲ၊ စီးပွားရေးပညာလေ့လာမှုဟာ ကမ္ဘာကြီးပူနွေးလာမှုအပေါ် ရှုးစမ်းလေ့လာမှုတွေမှာ ရှေ့တန်းအကျဆုံးလို့ ဆိုနိုင်တယ်။ အခွန်ကောက်ခံမှုနဲ့စည်းမျဉ်းသတ်မှတ်ထိန်းချုပ်မှုတွေလို နည်းလမ်းတွေက အနာဂတ်ကာလမှာ သဘာဝပတ်ဝန်းကျင်ကို ညစ်ညမ်းစေတဲ့ပစ္စည်းတွေ ထုတ်လုပ်မှုကို လျှော့နည်းသွားအောင် တွန်းအားပေးနေတာတွေ့ရမှာဖြစ်တယ်။**

စီးပွားရေးပြောင်းလဲတိုးတက်မှုတွေဟာ သဘာဝသယံဇာတအရင်းအမြစ်တွေကို ဖော်ထုတ်အသုံးချမှုတွေနဲ့အတူ ခွန်တွဲပြီး ဖြစ်ထွန်းလာခဲ့တာပါ။ ကျောက်မီးသွေးနဲ့ ရေနံတို့လို သယံဇာတအရင်းအမြစ်တွေကို ထုတ်ယူသုံးစွဲမှုမရှိဘဲ၊ အနောက်ကမ္ဘာမှာ စီးပွားရေးဖွံ့ဖြိုးလာဖို့ဆိုတာမဖြစ်နိုင်ပါဘူး။

ဒါပေမဲ့လို့ ဖွံ့ဖြိုးမှုဆိုတာ ဘာကုန်ကျစရိတ်မှမရှိဘဲ ဖြစ်လာတာ မဟုတ်ပါဘူး။ စီးပွားရေးဖွံ့ဖြိုးမှုအတွက် ကုန်ကျစရိတ်တွေကို စေ့စေ့စပ်စပ်လေ့လာမှုတွေက ကမ္ဘာကြီးပူနွေးလာမှုနဲ့ ရုပ်ကြွင်းလောင်စာတွေ လောင်ကျွမ်းမှုကြားက အချိတ်အဆက်ကို ဖော်ထုတ်ပြခဲ့တယ်။ တချို့က လူတွေကြောင့်ဖြစ်တဲ့ ရာသီဥတုပြောင်းလဲမှုတွေကြောင့် ထိန်းမရသိမ်းမရဖြစ်လောက်အောင်ကြီးမားတဲ့ ဟာရီကိန်းမုန်တိုင်းကြီးတွေ ဖြစ်လာတယ်လို့တောင် စောဒကတက်ပြကြပါတယ်။ ၂၀၀၅ ခုနှစ်က နယူးအော်လင်းမှာ တိုက်ခဲ့တဲ့ ကတ်ထရီနာမုန်တိုင်းလို ပျက်စီးဆုံးရှုံးမှု ကြီးမားခဲ့တဲ့ မုန်တိုင်းကြီးတွေဟာ

**အချိန်ပြဇယား:**

| ၁၉၉၂ | ၁၉၉၇ |
| --- | --- |
| ဘရာဇီးနိုင်ငံ ရီယိုပြို့မှာ ဖန်လုံအိမ်ဓာတ်ငွေ့ ထုတ်လွှတ်မှုပမာဏကို ထိန်းနိုင်ဖို့အတွက် ကမ္ဘာ့ထိပ်သီးအစည်းအဝေးကျင်းပ | ကျိုတိုသဘောတူစာချုပ်ညှိနှိုင်းဆွေးနွေး - လေထုညစ်ညမ်းစေတဲ့ ပစ္စည်းထုတ်လွှတ်မှုတွေကို ထိန်းချုပ်ဖို့သဘောတူကြ |



> အရေးယူကိုင်တွယ်ဖို့ပျက်ကွက်နေတာ၊ ဒါမှမဟုတ် နောင့်နှေးကြန့်ကြာနေတာတွေကြောင့်ဖြစ်လာတဲ့ ဘေးအန္တရာယ်တွေရဲ့ အရေးပါကြီး ဂိုးရိပ်ဖွယ်ရာလက္ခဏာတွေက အခုအချိန်မှာ အလွန်အလွန်ကိုများပြားလွန်းနေပါပြီ။ လွန်ခဲ့တဲ့ရာစုနှစ်မှာဖြစ်ခဲ့တဲ့ကမ္ဘာစစ်ကြီးနှစ်ခုထက်ပမာဏအများကြီးပိုတဲ့ ပျက်စီးဆုံးရှုံးမှုတွေကို ကျွန်တော်တို့ရင်ဆိုင်နေရတာဖြစ်ပါတယ်။
> ဒီပြဿနာဟာ ကမ္ဘာနဲ့ချီတဲ့ပြဿနာဖြစ်တာကြောင့် တုံ့ပြန်ကိုင်တွယ်မှုတွေကလည်း တစ်ကမ္ဘာလုံးအတိုင်းအတာနဲ့ ပူးပေါင်းဆောင်ရွက်တာမျိုးဖြစ်ရပါမယ်။
>
> ဆာနီကိုးလပ်စ်စတန်း၊ ယူကေ စီးပွားရေးပညာရှင်

လူတွေကြောင့်ဖြစ်တဲ့ ရာသီဥတုပြောင်းလဲမှုတွေကြောင့်လို့ ဆိုကြတယ်။

### သဘာဝပတ်ဝန်းကျင်ဆိုင်ရာအကျပ်အတည်း

ဒီလိုပိုဆိုးနောက်ဆုံးဖြစ်လာနိုင်တဲ့အခြေအနေတွေဟာ ကမ္ဘာကြီးရဲ့အနာဂတ်ရှုမ်းသာကြွယ်ဝမှုအတွက် ဆိုးဆိုးဝါးဝါး ဒုက္ခရောက်စေလိမ့်မယ်။ သဘာဝပတ်ဝန်းကျင်ဆိုင်ရာအကျပ်အတည်းဟာ ကျွန်တော်တို့ ရင်ဆိုင်နေရတဲ့ အဓိကအကျပ်အတည်းလို့ ဆိုရမယ်။ ရုပ်ကြွင်းလောင်စာသုံးစွဲမှုကို လျှော့ချလိုက်မယ် ဆိုရင် အနာဂတ်မျိုးဆက်တွေအပေါ် ကျရောက်မယ့် ရာသီဥတုပြောင်းလဲမှု ဘေးအန္တရာယ်ဆိုးတွေကို လျော့နည်းသွားစေမယ်ဆိုရင်တောင်မှ အခက်အခဲကရှိနေပါသေးတယ်။ ဒီလုပ်ရပ်ကြောင့်လက်ရှိတိုးတက်ဖြစ်ထွန်းမှုတွေကို လျော့ကျသွားစေမှာဖြစ်သလို သိပ်မဝေးတဲ့ အနာဂတ်ကာလမှာကိုပဲ ဆင်းရဲနွမ်းပါးမှုတွေကိုပိုပြီးတိုးလာစေမှာဖြစ်တယ်။ နောက်တစ်ခါ ကိုယ့်ကိုယ်ကိုယ်မနက်ဖြန်ရဲ့မျိုးဆက်တွေလို့ သဘောထားပြီး ပိုပြီးချမ်းသာကြွယ်ဝလာအောင် လုပ်ကြမယ်၊ သိပ္ပံပညာဆိုင်ရာတိုးတက်မှု အသစ်အသစ်တွေကိုလည်း ထပ်ပြီးဖြစ်ထွန်းစေခဲ့မယ်ဆိုရင်၊ ရာသီဥတုပြောင်းလဲမှုတွေကို လျော့ပါးသက်သာစေတဲ့နည်းလမ်းပဲဖြစ်ဖြစ်၊ တိုက်ဖျက်ဖို့ နည်းလမ်းပဲဖြစ်ဖြစ် ရှာတွေ့နိုင်လိမ့်မလားဆိုတာလည်း စဉ်းစားစရာဖြစ်ပါတယ်။ သဘာဝပတ်ဝန်းကျင်ဆိုင်ရာအကျပ်အတည်းအကြောင်းအခေစားဆုံးရေးသားခဲ့တဲ့

| ၂၀၀၅ | ၂၀၀၇ |
| --- | --- |
| အီးယူကာဗွန်ကုန်သွယ်ရေး အစီအစဉ်ကို စတင်စီမံ | ၂၀၅၀ ပြည့်နှစ်မှာ ကမ္ဘာတဝှမ်းဓိုင်အောက်ဆိုဒ်ဓာတ်ငွေ့ ထုတ်လွှတ်မှုကို ထက်ဝက်လျှော့ချဖို့ အနောက်အုပ်စုနိုင်ငံတွေ သဘောတူကြ |

ဆာနီကိုးလပ်စ်စတန်းရဲ့အလိုအရဆိုရင်တော့ ရာသီဥတုပြောင်းလဲမှုပြဿနာရဲ့ကုန်ကျစရိတ်ဟာ နောက်ဆုံးမှာ ကမ္ဘာ့ဂျီဒီပီရဲ့ ၂၀ % နီးပါးအထိတက်လာနိုင်ပြီး ဒေါ်လာ ၆ ထရီလီယံလောက် ကျသင့်လာလိမ့်မယ်လို့ ဆိုတယ်။ လက်ရှိအချိန်မှာတော့ ဒီပြဿနာကြောက်မှုတွေအပေါ်ကိုင်တွယ်နေတဲ့ကုန်ကျစရိတ်က ကမ္ဘာ့ဂျီဒီပီရဲ့ ၁ % လောက်ပဲရှိတယ်။

ဒါပေမဲ့တခြား ရွေးချယ်စရာအလှည့်အပြောင်းတွေလည်းရှိလာနိုင်ပါသေးတယ်၊ သမိုင်းတစ်လျှောက်မှာ နည်းပညာဆိုင်ရာတိုးတက်ဖြစ်ထွန်းမှုတွေက ခက်ခဲတဲ့ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာပြဿနာတွေကို အံ့သြစရာ ကူညီဖြေရှင်းနိုင်ခဲ့တယ်။ စဉ်းစားစရာတစ်ခုက ဆေးဘက်ဆိုင်ရာ ဆယ်စုနှစ်ရဲ့ ကမ္ဘာ့ပျက်ကိန်းသန့်မှန်းချက်ဟာ နောက်ဆုံးမှာ တက်တက်စင်အောင် လွဲခဲ့ပြီး လက်တွေ့မှာ ပိုပြီးပျော်ရွှင်စရာကောင်းတဲ့ ရလဒ်တွေကိုရရှိခဲ့ပါတယ်။ ဈေးကွက်တွေဟာ ပြဿနာတွေကို အဖြေရှာပေးတတ်တယ်ဆိုတာကိုလည်း နားလည်ထားဖို့လိုပါတယ်။

လန်ဒန်မှာ ဗိတိုရိယခေတ်တုန်းက မြို့တော်ကပိုပြီးကြီးကျယ်စည်ပင်လာတာနဲ့အမျှ လူဦးရေတိုးတက်လာမှုအပေါ် ထိတ်လန့်ခဲ့ရဖူးတယ်။ လူတွေသွားလာဖို့ မြင်းတွေကို အသုံးပြုရတာမို့ လမ်းပေါ်တွေမှာ မြင်းတွေနဲ့ပြည့်နေခဲ့တယ်။ ပြောရရင် အင်္ဂလိပ်တွေရဲ့ မြို့တော်ဟာ နောက်ဆုံးမှာ မြင်းတွေရဲ့မစင်ပုံတွေအောက် ရောက်သွားမလားလို့စိုးရိမ်စရာပါပဲ။ ဒါပေမဲ့ အားလုံး သိကြတဲ့အတိုင်း ဒီလိုအဖြစ်မျိုးကို ဘယ်တုန်းကမှ မကြုံခဲ့ရပါဘူး။ မြို့တော်မှာ လူတွေရဲ့သွားရေးလာရေးအတွက် မြင်းတွေအစားသုံးဖို့ မော်တော်ကားတွေပေါ်လာတာကြောင့်ပါပဲ။ ( မော်တော်ကားနဲ့အတူ သဘာဝပတ်ဝန်းကျင်ကို ညစ်ညမ်းစေမှုကလည်းအတူတွဲပါလာပြန်တာပါပဲ)။ ဘာပဲဖြစ်ဖြစ် အင်္ဂလိပ်တွေရဲ့ မြို့တော်ကို မြင်းတွေရဲ့မစင်ပုံအောက် မရောက်အောင် နည်းပညာတိုးတက်လာမှုက ကူညီဖြေရှင်းပေးခဲ့ပါတယ်။ အလားတူပဲ နောက်ထပ်နည်းပညာသစ်တွေက ဟိုက်ဒရိုဂျင်ပါဝါသုံးမော်တော်ကားတွေ၊ အကျမြဲ့စွမ်းအင်သုံးလျှပ်စစ်ဓာတ်အားပေးစက်တွေကို ထုတ်လုပ်ပေးခဲ့လို့ ဒီတစ်နေ့မျိုးဆက်အတွက် စီးပွားရေးတိုးတက်ဖြစ်ထွန်းမှုတွေအပေါ် ထိခိုက်ခံစမှုမရှိဘဲ အကျပ်အတည်းတွေကို ဖြေရှင်းပေးနိုင်ခဲ့တဲ့ သက်သေသာဓကတွေလည်းရှိခဲ့ပါတယ်။

## အကြီးမားဆုံးသော ပြင်ပသက်ရောက်မှု

ရာသီဥတုပြောင်းလဲမှုဟာ ဈေးကွက်ကမစွမ်းဆောင်နိုင်တဲ့အရာ (market failure) တွေထဲက တစ်ခုဖြစ်ပါတယ်၊ ဆာနီကိုးလပ်စ်စတန်းကဆိုရင် ရာသီဥတုပြောင်းလဲမှုဟာ ကမ္ဘာမှာ မကြုံဖူးတဲ့ အဆိုးဝါးဆုံးသောဈေးကွက်က မစွမ်းဆောင်နိုင်တဲ့အရာလို့ ဆိုတယ်။ ပုံမှန်လည်ပတ်နေတဲ့



ဈေးကွက်တစ်ခုမှာ ကုန်ပစ္စည်းတစ်ခုရဲ့ဈေးနှုန်းဟာ ရောင်းလိုအားကျရင် ဈေးနှုန်းကျသွားပြီး၊ ဝယ်လိုအား တက်လာရင်ဈေး တက်လာမှာဖြစ်ပါတယ်။ ဒါက အဒမ်စမစ် ကိုယ်ပျောက်လက်ညီအိုရီ (အခန်း ၁ ကို ကြည့်ပါ) ရဲ့အဓိကအကြောင်းတရားပဲဖြစ်ပါတယ်၊ လူတိုင်းက တစ်ကိုယ်ကောင်းဆန်ပြီး ကိုယ့်အကျိုးကြည့်နေကြမယ်ဆိုရင် ဈေးကွက်တွေဟာ လူတွေလိုချင်တာတွေကို ထုတ်ပေးနေမှာ ဖြစ်သလို ပိုကောင်းတဲ့ ကုန်ပစ္စည်းတွေကိုလည်း တည်ခင်းပေးထားကြပါလိမ့်မယ်။

ဒါပေမဲ့ မကြာသေးခင်အထိတော့ သန့်ရှင်းတဲ့လေကိုရော၊ ညစ်ညမ်းတဲ့လေကိုပါ ဈေးနှုန်းသတ်မှတ်ထားတာမရှိသေးပါဘူး၊ စီးပွားရေးလောကမှာလည်း ဘယ်သူကမှ ဒီကိစ္စအပေါ် သတိမပြုကြသေးပါဘူး။ သဘာဝပတ်ဝန်းကျင်ဆိုတာ လူတိုင်းနဲ့ဆိုင်တဲ့အရာဖြစ်ပြီး ဘယ်သူကမှ ထူးပြီးပိုင်ဆိုင်နေတာမဟုတ်လို့ ဒါမျိုးကို စီးပွားရေးပညာရှင်တွေက ပြင်ပသက်ရောက်မှု (externality) လို့ ခေါ်ကြတယ်။ လက်တွေ့မှာတော့ ညစ်ညမ်းမှုရဲ့ ကုန်ကျစရိတ်က အတော်ကို မြင့်တယ်၊ ညစ်ညမ်းစေတဲ့ ဓွန့်ပစ်ပစ္စည်းတွေကြောင့် မုန်တိုင်းတွေ၊ သဲကန္တာရတွေကိုပိုပြီးဖြစ်ထွန်းစေတယ်၊ ပင်လယ်ရေမျက်နှာပြင်ကို မြင့်တက်စေတယ်၊ မြို့တွေမှာ အမှိုက်သရိုက်တွေစုပုံနေစေမယ်ဆိုရင်တော့ ညစ်ညမ်းမှုကုန်ကျစရိတ်ဟာ အတော်လေးကြီးသွားပြီလို့ ဆိုရမယ်။ အမှန်ကုန်ကျစရိတ်ကို တွက်ချက်ဖို့ကတော့ ဒီလိုဖြစ်ရပ်မျိုးတွေ ကြောင့် ရာသီဥတုပြောင်းလဲမှုအလားအလာကို သိပ္ပံပညာရှင်တွေက တကယ်သိမြင်လာမှသာ ဖြစ်နိုင်မှာဖြစ်ပါတယ်။ သီအိုရီအရတော့ ရာသီဥတုပြောင်းလဲမှုကို တိုက်ဖျက်ဖို့ကုန်ကျစရိတ်ဟာ လူသားတွေအနေနဲ့ အနာဂတ်ကာလမှာ သန့်ရှင်းတဲ့လေကိုရဖို့ ဘယ်လောက်ကုန်ကျခံချင်စိတ်ရှိတယ်ဆိုတာနဲ့ပဲ တိုင်းတာရမှာဖြစ်ပါတယ်၊ တကယ်လို့ လူသားတွေ အနေနဲ့အဲ့ဒီလိုသာ ညစ်ညမ်းတဲ့ လေထုနဲ့ဒီလိုလေထုကြောင့်ဖြစ်လာတဲ့ ဆိုးဝါးတဲ့အကျိုးဆက်တွေအတွက် ကြိုတင်ပြင်ဆင်ထားနိုင်မယ်ဆိုရင်တော့ ပြင်ပအကျိုးသက်ရောက်မှုဆိုတာမရှိနိုင်ပါဘူး။

## စိန်ခေါ်မှု

ရာသီဥတုအပြောင်းအလဲကြောင့်ဖြစ်လာမယ့်ကပ်ဘေးကြီးတွေကိုတားဆီးဖို့ သိပ္ပံပညာရှင်တွေ တိုက်တွန်းတာက ၂၀၅၀ ပြည့်နှစ်မှာ ဖန်လုံအိမ်ဓာတ်ငွေ့ထုတ်လွှတ်မှုကို ထက်ဝက်လျှော့ချရမှာ ဖြစ်တယ်၊ ဖန်လုံအိမ်ဓာတ်ငွေ့ဆိုတာ ကမ္ဘာ့လေထုထဲမှာ အပူတွေကိုပိတ်လှောင်ထားစေတဲ့ ဓာတ်ငွေ့မျိုးပါ။ သိပ္ပံပညာရှင်တွေက သစ်တောပြုန်းတီးမှုတွေကိုလည်း အရေးယူကိုင်တွယ်ဖြေရှင်းဖို့ တောင်းဆိုကြတယ်၊ သစ်တောပြုန်းတီးမှုတွေကြောင့် ဖန်လုံအိမ်ဓာတ်ငွေ့ထုတ်လွှတ်မှုကို ၁၅-၂၀% လောက်တိုးစေတယ်လို့ သူတို့ကထောက်ပြကြတယ်၊

## သဘာဝပတ်ဝန်းကျင်ကို ညစ်ညမ်းစေတဲ့ စွန့်ပစ်ပစ္စည်းတွေကို လျှော့ချနိုင်တဲ့ နည်းလမ်းများ

**၁။ အစိမ်းရောင်အခွန် (Green Taxes)** ။ လေထုကို ညစ်ညမ်းစေတဲ့ လုပ်ဆောင်ချက်တွေအပေါ် ကောက်ခံတဲ့အခွန်ဖြစ်ပါတယ်၊ ဒီထဲမှာ လောင်စာသုံးစွဲမှုအပေါ် ကောက်ခံတဲ့အခွန်၊ ကုမ္ပဏီတွေကိုကာဗွန်ထုတ်လုပ်မှုအတွက် သူတို့ရဲ့ပါဝါသုံးစွဲရမှုအပေါ်ကောက်ခံတဲ့အခွန်၊ အန္တရာယ်ရှိတဲ့စွန့်ပစ်ပစ္စည်းတွေအပေါ်ကောက်ခံတဲ့အခွန်မျိုးတွေပါဝင်တယ်။

**၂။ ကာဗွန်ကုန်သွယ်ရေး (Carbon trading)** ။ စီးပွားရေးပညာရှင်တွေ ပိုသဘောကျစရာကောင်းတဲ့ နည်းလမ်းဖြစ်ပြီး အစိုးရတွေအနေနဲ့ ကုမ္ပဏီတွေကို ကာဗွန်သတ်မှတ်ပမာဏတစ်ခုထုတ်လွှတ်ခွင့်ရှိဖို့ပါမစ်ကို လေလံဆွဲစေတဲ့နည်းပါ။ ဒီနည်းက ကာဗွန်ဒိုင်အောက်ဆိုက်ဒ် ($CO_2$) ထုတ်လွှတ်မှုအပေါ် ဈေးနှုန်းသတ်မှတ်ချက်တစ်ရပ်ကို ရလာစေတယ်။ ကာဗွန်သတ်မှတ်ပမာဏထက် ပိုထုတ်လွှတ်ချင်တဲ့ကုမ္ပဏီက ကာဗွန်လျှော့ထုတ်လွှတ်တဲ့ကုမ္ပဏီဆီကနေ ပါမစ်ပြန်ဝယ်နိုင်တယ်၊ ဒီနည်းနဲ့ စုစုပေါင်းကာဗွန်ထုတ်လွှတ်မှုပမာဏကို ထိန်းချုပ်ထားတာဖြစ်ပါတယ်၊ ပြဿနာကတော့ ကာဗွန်ကုန်သွယ်ရေးဟာ အစပျိုးအဆင့်မှာပဲ ရှိနေသေးပြီး ဥရောပမြင်းဟာ နိုင်ငံအများစုဟာ မကြာသေးမီကမှ သက်သေမကင်းဖြစ်မှုတွေနဲ့ စောင့်ကြည့်လေ့လာမှုတွေ လုပ်လာကြတာဖြစ်တယ်။

**၃။ နည်းပညာ (Technology)** ။ သဘာဝပတ်ဝန်းကျင်နဲ့သဟဇာတဖြစ်တဲ့ အစိမ်းရောင်နည်းပညာတွေဖြစ်ပါတယ်။ နေရောင်ခြည်စွမ်းအင်သုံးပစ္စည်းတွေကနေ လျှပ်စစ်ကားတွေအထိ ပါဝင်တယ်၊ မကြာသေးခင်အထိတော့ ဒီလိုအစိမ်းရောင်နည်းပညာသုံးပစ္စည်းတွေဟာ ဒီဇယ်၊ တတ်ဆီ၊ ကျောက်မီးသွေးစတဲ့ ကာဗွန်ထွက်လောင်စာသုံးပစ္စည်းတွေထက် ဈေးကြီးနေပါသေးတယ်၊ ဒါပေမဲ့ နောက်ပိုင်းမှာ အစိမ်းရောင်နည်းပညာအပေါ်ရင်းနှီးမြှုပ်နှံမှုတွေ ပိုလုပ်လာတာနဲ့အမျှ ပိုပြီးဈေးနှုန်းလျော့ကျလာနိုင်ပါတယ်။

ဒီလိုရည်မှန်းချက်ထားလုပ်ဆောင်မှုတွေကို ပြည့်ဆည်းနိုင်ဖို့ဆိုတာလည်း သိပ်တော့မလွယ်လှဘူး။ နိုင်ငံတိုင်းက သူတို့ဖြည့်ဆည်းပေးဖို့လိုအပ်တယ်ဆိုတာ လက်မခံကြပါဘူး။ အမေရိကန်၊ ဥရောပ၊ ဂျပန်စတဲ့ ကျော်အပါအဝင် နိုင်ငံတော်တော်များများဟာ နှစ်အတော်ကြာကတည်းက သူတို့ရဲ့စီးပွားရေးကို ထိခိုက်ပျက်စီးစေမှာကို စိုးရိမ်တာကြောင့် ဖန်လုံအိမ်ဓာတ်ငွေ့လျှော့ချရေးကတိကဝတ်တွေကို



အကြိမ်ကြိမ် ကျူးလွန်ဖေါက်ဖျက်ခဲ့ကြတယ်။ ဖန်လုံအိမ်ဓာတ်ငွေ့လျှော့ချရေးဆိုတာကလည်း တိုးတက်မှုကို အားနည်းသွားစေတတ်တဲ့သဘောရှိတာကြောင့်ပါ။

ဒုအမြင် တရုတ်၊ ဘရာဇီးနဲ့အိန္ဒိယတို့လို ဖွံ့ဖြိုးဆဲနိုင်ငံတွေဟာ တရိုးသော အကြောင်းပြချက်တွေအပေါ် မေးခွန်းထုတ်ခဲ့ကြတယ်။ သူတို့နိုင်ငံတွေအနေနဲ့ ညစ်ညမ်းပစ္စည်းထုတ်လွှတ်မှုတွေကို လျှော့ချဖို့ အရမ်းကာရောတာဝန်ယူစရာမလိုဘူးလို့ခံယူကြတယ်။ သူတို့က လက်ရှိရာသီဥတုပြောင်းလဲမှုတွေဟာ အနောက်ကမ္ဘာက ညစ်ညမ်းပစ္စည်းတွေကို အမြောက်အမြားထုတ်လွှတ်ခဲ့တာရဲ့အကျိုးဆက်လို့ ခံယူထားတယ်။ အဲဒီအချိန်မှာ သူတို့နိုင်ငံတွေဟာ စီးပွားရေးအရအင်အားသေးငယ်တဲ့ နိုင်ငံတွေ ဖြစ်တာကြောင့် (အနောက်ကမ္ဘာက) တခြားနိုင်ငံတွေရဲ့အညစ်အကြေးထုတ်လွှတ်မှုတွေအတွက် သူတို့မှာတာဝန်မရှိဘူးလို့ငြင်းဆိုကြတယ်၊ ကံမကောင်း အကြောင်းမလှစွာပဲ ဒီလိုစီးပွားရေးအရ အင်အားသေးငယ်တဲ့နိုင်ငံတွေဟာလည်း လာမယ့်နှစ်တွေမှာ ပိုမိုများပြားတဲ့ညစ်ညမ်းပစ္စည်းတွေကို ထုတ်လွှတ်လာဖို့သေချာနေပါပြီ။ အပူပိုင်းဒေသက ကမ္ဘာ့အဆင်းရဲဆုံးနိုင်ငံတွေကတော့ ရာသီဥတုပြောင်းလဲမှုဒဏ်ကို အဆိုးဆုံးခံနေကြရပြီဖြစ်တယ်။

သိပ္ပံပညာဆိုင်ရာအမြင်အရ ကမ္ဘာကြီးပူနွေးလာမှုဟာ သဘာဝရိုးတကျဖြစ်စဉ်ဆိုတာကိုရော၊ လူတွေရဲ့ပယောဂကြောင့်ဖြစ်တယ်ဆိုတာကိုရော လက်ခံထားကြပေမယ့် တချို့ကတော့ သက်သေအထောက်အထားတွေအပေါ် သံသယရှိနေကြဆဲဖြစ်ပါတယ်၊ ဒါပေမဲ့ အဓိကလွှမ်းမိုးထားတဲ့အမြင်ကတော့ အရေးယူကိုင်တွယ်မှုတွေ မလုပ်ဆောင်ခဲ့တဲ့ကုန်ကျစရိတ် (မနက်ဖြန်ရဲ့သဘာဝ ဘေးအန္တရာယ်အလားအလာ) ဟာ လက်ရှိအချိန်မှာ (ညစ်ညမ်းပစ္စည်း ထုတ်လွှတ်မှုကိုထိန်းချုပ်ခြင်းနဲ့ စီးပွားရေးဖွံ့ဖြိုးမှုအပေါ်) အရေးယူကိုင်တွယ်လို့ ကုန်ကျရတဲ့စရိတ်ထက်တော့ အများကြီးကြီးမားနေမှာဖြစ်တယ်၊ ရာသီဥတုပြောင်းလဲမှုကိုတိုက်ဖျက်ခြင်းအပေါ်အနာဂတ်မျိုးဆက်တွေအတွက် အာမခံပေါ်လစီ တစ်ရပ်အနေနဲ့ ရှုမြင်ဖို့လိုအပ်တယ်ဆိုတာကတော့ ငြင်းမရတဲ့အမှန်တရားလို့ ဆိုရမယ်။

### အနှစ်ချုပ်အတွေးအခေါ်

**ထိတ်လန့်ဖွယ်သဘာဝပတ်ဝန်းကျင်ဆိုင်ရာ ကုန်ကျစရိတ်တွေကို ရှောင်ရှားဖို့ အခုကတည်းက အရေးယူလုပ်ဆောင်ကြ**

# ၄၆ - အပြုအမူဆိုင်ရာဘောဂဗေဒ
## Behavioural Economics

**ဘောဂဗေဒပညာမှာ အာခီးလီးစ်ဖနောင့် (Achilles heel) ဆိုတာရှိတယ်။ ကြာသေးတဲ့ အချိန်တအထိ ပညာရပ်ဆိုင်ရာလေ့လာသူတွေအနေနဲ့ ဒီချို့ယွင်းချက်ကို လျစ်လျူရှုဖို့ ဒါမှမဟုတ် ငြင်းဖို့ကြိုးပမ်းခဲ့ကြတယ်။ ဒါပေမဲ့ နောက်ဆုံးမှာတော့ နှစ်ပေါင်းရာချီကြာအောင် စီးပွားရေးပညာရှင်တွေလုပ်ဆောင်ခဲ့ကြတဲ့ အရှုပ်ဆိုးအကျည်းတန်လှတဲ့ အမှားပေါင်းများစွာအတွက် ဒီအားနည်းချက်ကို တရားခံအဖြစ်ဆုပ်ကိုင်ထားဆဲဖြစ်တယ်။ ဒါကတော့ လူသားတွေဟာ ဆင်ခြင်တုံတရားရှိတယ်ဆိုတဲ့ မှားယွင်းတဲ့ယူဆချက်ပါပဲ။**

စမ်းသပ်ချက်တွေအရတော့ လူတွေဟာအမြဲတမ်းဆင်ခြင်တုံတရားရှိတယ်ဆိုတာ မသေချာဘူးလို့ ဆိုတယ်၊ အဝလွန်နေတဲ့ ဆေးလိပ်သောက်သူတစ်ယောက်ဟာသူ့မှာ ဆင်ခြင်တုံတရားတကယ်ရှိနေတယ်ဆိုရင် သူ့ကျန်းမာရေးအတွက် အန္တရာယ်ရှိတဲ့ စီးကရက်ကိုဖြတ်ပြီး သူ့အတွက်သင့်တော်တဲ့ခါတ်စာတွေကို စားသုံးပါလိမ့်မယ်၊ ကျွန်တော်တို့တစ်ပြိုင်နက်မှာ တကယ်ဆင်ခြင်တုံတရားရှိတယ်ဆိုရင် "တစ်ခုဝယ်ရင် တစ်ခုအလကား" ဆိုတဲ့ ကမ်းလှမ်းမှုတွေအပေါ် ကျွန်တော်တို့အနေနဲ့ ယိမ်းယိုင်တိမ်းညွတ်စရာမရှိပါဘူး။ အလားတူပဲ ကျွန်တော်တို့လစာဝင်ငွေရဲ့လုံလောက်မှုကို ကိုယ့်အိမ်နီးချင်းတွေရဲ့ဝင်ငွေတွေ၊ ကိုယ့်မယားညီအစ်ကိုရဲ့ဝင်ငွေတွေ ဘယ်လောက်ရတယ်ဆိုတာနဲ့ မနှိုင်းယှဉ်ဘဲ၊ ကျွန်တော်တို့ရဲ့ သီးခြားအဆင့်အတန်းအလိုက် အခြေခံပြီးဆုံးဖြတ်ကြမှာပါပဲ။

ဒီလိုဆင်ခြင်တုံတရားကင်းမဲ့မှုနဲ့ ပတ်သက်တဲ့သက်သေသာဓကတွေ ဖန်တရားလောအောင် တွေ့နေရပေမယ့် ကျမ်းဂိုးဆန်းသစ်ဘောဂဗေဒ (neoclassical economics)

> နောက်ထပ်အရေးကြီးတဲ့ သုတေသနအကြောင်းအရာဟာ ဘောဂဗေဒနဲ့ စိတ်ပညာပေါင်းစပ်ထားတဲ့ အပြုအမူဆိုင်ရာ ဘောဂဗေဒပဲဆိုတာ သံသယဖြစ်စရာမရှိပါဘူး။ ဒီပညာရပ်က ဖြည့်သွင်းရေးရာပူပါဒနဲ့ပတ်သက်ပြီး လက်တွေ့ကျတဲ့ ရှုထောင့်အမြင်သစ်တွေ ပေါ်ထွက်လာဖို့ အလားအလာကောင်းပါပဲ။
>
> **Greg Mankiw**
> ဟားဗတ်စီးပွားရေးပါမောက္ခ

စံတွေက လူတွေမှာ ဆင်ခြင်တုံတရား၊ စိတ်ရှည်းသားနဲ့ တစ်ကိုယ်ကောင်းဆန်မှုဆိုင်ရာလုပ်နိုင်စွမ်းတွေဟာ အကန့်အသတ်မဲ့ရှိနေတယ်ဆိုတဲ့ အယူအဆအပေါ် တည်တယ်၊ ဒါဟာအဒမ်စမစ်ပြောတဲ့ ကိုယ်ပျောက်လက်သီအိုရီရဲ့အခြေခံအုတ်မြစ်ပဲ (အခန်း ၁ ကို ကြည့်ပါ)။ ကိုယ်ပျောက်လက်ဒသဘောတရားက ကိုယ်ကျိုးအတွက်ရှိတဲ့အခါ ဆင်ခြင်တုံတရားရှိတဲ့ လုပ်ဆောင်ချက်တွေ အများကြီးဖြစ်လာပြီး ရလဒ်အနေနဲ့ ဘက်ပေါင်းစုံက ပိုမိုကြွယ်ဝပြည့်စုံတဲ့ လူ့အဖွဲ့အစည်းဖြစ်လာစေတယ်လို့ ယူဆတယ်၊ ဘောဂဗေဒပညာရှင်တွေ စိတ်ကူးပုံဖော်ကြည့်တဲ့ ဆင်ခြင်တုံတရားရှိတဲ့ ပုံပြလူသားကို ဟိုမိုအီကော်နော်မီကပ်စ် (Homo economicus) လို့ မကြာခဏဆိုသလို ခေါ်ဝေါ်သုံးနှုန်းတတ်ကြတယ်၊

ဒါပေမဲ့ လက်တွေ့မှာတော့ လူတွေဟာခံစားချက်နဲ့ တုန့်ပြန်လေ့ရှိကြတယ်၊ ဥပမာ - စိတ်လှုပ်ရှားမှု၊ ချစ်ခြင်းမေတ္တာ၊ မနာလိုဝန်တိုမှု၊ လောဘဇောတွေကြောင့် ဆင်ခြင်တုံတရားကင်းမဲ့စွာတုန့်ပြန်စေနိုင်တယ်၊

### အကြောင်းရင်းဇာစ်မြစ်များ

အပြုအမူဆိုင်ရာဘောဂဗေဒက လူတွေဟာဘာကြောင့်၊ ဘယ်လိုကြောင်းကျိုးဆင်ခြင်မှုကင်းမဲ့စွာ ပြုမူလုပ်ဆောင်ကြတယ်ဆိုတာကို လေ့လာတယ်၊ ဒါဟာစီးပွားရေးနဲ့ စိတ်ပညာကို ပေါင်းစပ်ထားတာဖြစ်ပြီး ပညာရပ်ဆိုင်ရာလေ့လာမှုနယ်ပယ်တွေထဲမှာ အဆန်းသစ်ဆုံးနဲ့ စိတ်ဝင်စားစရာအကောင်းဆုံးနယ်ပယ်ဖြစ်တယ်၊ ဒါ့အပြင် ဒီပညာရပ်လေ့လာမှုဟာ စိတ်ဝင်စားစရာကောင်းရုံသက်သက်လောက်တင်သာမကဘဲ၊ စီးပွားရေးမူဝါဒချမှတ်မှုတွေမှာလည်း

**အချိန်ဖြဂဏာ:**

| ၁၉၅၅ | ၁၉၇၀ နှစ်များ | ၁၉၈၀ | ၁၉၉၆ | ၂၀၀၂ |
|---|---|---|---|---|
| နိုဘယ်ဆုရှင်ဟားဗတ်ဆိုင်မွန်က လူတွေမှာအကန့်အသတ်မဲ့တဲ့ သတင်းအချက်အလက်တွေကို စိစစ်အဖြေရှာနိုင်တဲ့ စွမ်းရည်ရှိကြောင်း ယူဆချက်အပေါ် မေးခွန်းထုတ် | Tversky နဲ့ Kahneman တို့နှစ်ယောက်က စိတ်ပညာနဲ့ ဘောဂဗေဒကို ပေါင်းစပ်မှုတင်ပြလုပ် | အပြုအမူဆိုင်ရာ ဘောဂဗေဒပညာရပ်က စုဆောင်းငွေသဘောတရားများအပေါ် စတင်လွှမ်းမိုးလာ | Amos Tversky ကွယ်လွန် | Daniel Kahneman စီးပွားရေးပညာ နိုဘယ်ဆုရရှိ |

အရေးပါတဲ့အခန်းကဏ္ဍကနေတာဝင်ပါဝင်နေပြီဖြစ်တယ်။ စိတ်နဲ့ဦးနှောက်ရဲ့အလုပ်လုပ်ပုံတွေကို နားလည်မှုတွေတိုးတက်လာတာကြောင့် အပြုအမူဆိုင်ရာဘောဂဗေဒပညာရှင်တွေဟာ လူတွေကို တစ်ခုထပ်ရာလုပ်ဖို့ ဘယ်အရာကတာကလှုံ့ဆော်တွန်းအား (မောင်းနှင်အား)လဲဆိုတာအထိ အတွင်းသဘောကို ပိုပြီးတိုးတွင်းသိမြင်လာအောင် ဖြည့်ဆည်းပေးခဲ့တယ်။ အပြုအမူဆိုင်ရာဘောဂဗေဒပညာရပ်ရဲ့ရှေ့ဆောင်ပုဂ္ဂိုလ်တွေက Amos Tversky နဲ့ Daniel

## အပြုအမူဆိုင်ရာဘောဂဗေဒနိယာမငါးမျိုး

၁။ လူတွေဟာကိုယ်ကျင့်တရားနဲ့ တန်ဖိုးစံဆိုင်ရာယူဆချက်တွေရဲ့ဩဇာလွှမ်းမိုးမှုကို ခံနေကြရတယ်။ မကြာခဏဆိုသလို လူတွေဟာ သူတို့ကိုအမြတ်အစွန်းအများဆုံးရစေမယ့် အရာတွေထက် သူတို့မှန်တယ်လို့ယုံကြည်တဲ့အရာတွေကိုပိုလုပ်တတ်ကြတယ်။

၂။ လူတွေဟာ ငွေကြေးနဲ့ပတ်သက်တဲ့နေရာ၊ မပတ်သက်တဲ့နေရာဆိုတဲ့ အခြေအနေတွေကို လိုက်ပြီး အတော်လေးကွဲပြားတဲ့ ဆုံးဖြတ်ချက်တွေကို ချမှတ်ကျင့်သုံးကြတယ်။ လူတွေဟာ ဈေးကွက်နဲ့လူမှုရေးကြားက အဆက်အစပ်ကို ခွဲခြားသိမြင်ကြတယ်။ ဒါပေမဲ့ကျမ်းရိုးဆန်းသစ်ဘောဂဗေဒပညာရှင်တွေကတော့ ခင်ဗျားအနေနဲ့ ခင်ဗျားရဲ့ အချစ်ဆုံးသူငယ်ချင်းကိုဒေါ်လာ ၂၀ တန်တအုပ်ကို ခရစ်စမတ်လက်ဆောင်ပေးမလား၊ ဒေါ်လာ ၂၀ တန် ငွေစက္ကူကို ပေးမလားဆိုတာကို အလေးအစားမလုပ်ကြဘူး။

၃။ လူတွေဟာဆင်ခြင်တုံတရားကင်းမဲ့တဲ့ ငွေကြေးရင်းနှီးမြှုပ်နှံသူတွေပဲ။ လတ်တလောကိစ္စတွေကို နောက်ဖြစ်လာမယ့်ကိစ္စတွေထက် ပိုပြီးအလေးထားကြတယ်။ အထူးသဖြင့် ဖြစ်နိုင်ခြေအလားအလာတွေကို တွက်ချက်ရာမှာညံ့ဖျင်းတယ်။ အလားတူပဲ လူတွေဟာ ငွေသားဆုံးရှုံးမှုအပေါ် ကောင်းစွာတုန့်ပြန်နိုင်စွမ်းမရှိကြဘူး။ ပိုင်ဆိုင်မှုအပေါ် အာရုံစိုက်လွန်းတာကြောင့် ရင်းနှီးမြှုပ်နှံမှုတွေအပေါ်စွဲစွဲမြဲမြဲဆုပ်ကိုင်ထားတတ်ကြတယ်။

၄။ လူတွေဟာ အကြောင်းအရာတစ်ခုကို သင့်မသင့်စဉ်းစားရာမှာ မကြာခဏဆိုသလို သူတို့ရဲ့ အပြုအမူတွေကို ကောင်း၊ မကောင်းဆန်းစစ်တာထက် သူတို့ရဲ့ဝသီအပွဲနောက်ကို လိုက်တတ်ကြတယ်၊ အကျင့်ဟောင်းတွေကို စွန့်နိုင်ဖျောက်နိုင်ခဲတယ်။

၅။ လူတွေဟာ သူတို့ရဲ့အတွေ့အကြုံတွေနဲ့ တခြားသူတွေရဲ့အတွေ့အကြုံကို ရောယှက်ထားကြတယ်။ မကြာခဏဆိုသလို ကိုယ့်ရဲ့ကိုယ်ပိုင်အကဲဖြတ်ချက်ကြောင့်မဟုတ်ဘဲ၊ တခြားသောသူတွေရဲ့အတွေ့အကြုံတွေကို လေ့လာပြီးလုပ်ကိုင်လေ့ရှိတယ်။



Kahneman တို့ပဲ။ ၁၉၇၀ နှစ်တွေမှာ သူတို့ဟာ ဦးနှောက်ကသတင်းအချက်အလက်တွေအပေါ် ဘယ်လိုလုပ်ငန်းစဉ်တွေနဲ့ အရေးယူလုပ်ဆောင်တယ်ဆိုတဲ့ သီအိုရီအပေါ်အလိုက်သင့်ညှိနှိုင်း ပြင်ဆင်ပြီး စီးပွားရေးမော်ဒယ်ပုံစံတွေနဲ့ နှိုင်းယှဉ်လေ့လာခဲ့တယ်။

သူတို့ကလူတွေဟာမသေချာမရေရာမှုတွေနဲ့ရင်ဆိုင်ရတဲ့အခါမှာမှ ဆင်ခြင်တုံတရားနဲ့တုန့်ပြန်လေ့မရှိတာမဟုတ်ဘူး။ သေချာပေါက်ကြိုတင်ခန့်မှန်းနိုင်တဲ့နည်းလမ်းတွေ ရှိပေမယ့်လည်း အလျဉ်းသင့်သလို ကြုံရာကျပန်းတုန့်ပြန်ချင် တုန့်ပြန်နေကြတယ်ဆိုတာလေ့လာတွေ့ရှိခဲ့တယ်၊ ထုံးစံအတိုင်းလူတွေဟာ စိတ်နဲ့ဖြတ်လမ်းနည်းကို အသုံးပြုကြတယ်။ ဒီနည်းတွေကို Tversky နဲ့ Kahneman တို့နှစ်ယောက်က ဆရာမပါဘဲ တတ်မြောက်တဲ့နည်းလမ်းတွေ (heuristics) လို့ခေါ်ကြတယ်၊ ဒီနည်းလမ်းတွေကို အတွေ့အကြုံနဲ့ ပတ်ဝန်းကျင်ကဩဇာလွှမ်းမိုးထားနိုင်တယ်လို့လည်းဆိုတယ်။ ဥပမာ - အကြော်ကြော်ရင်း ဆီပူလောင်ဖူးသူတစ်ယောက်ဟာ နောက်ပိုင်းမှာ ဆီပူထဲက စားစရာကို ဆယ်တင်တဲ့အခါ ပိုပြီးဂရုစိုက်လေ့ရှိတတ်တာမျိုးဖြစ်တယ်။

### သက်သေသာဓက

လူတွေအပေါ် သေချာတဲ့အဆိုတွေကိုဖေါ်ပြပြီး ဘောင်သွင်းထားတဲ့နည်းလမ်းက သီးခြားဆုံးဖြတ်ချက်တွေရမှတ်ရာမှာ လွှမ်းမိုးမှုရှိနိုင်တယ်၊ ဥပမာ - Tversky နဲ့ Kahneman တို့နှစ်ယောက်က ဇာတ်ညွှန်းတစ်ခုကိုစာရွက်ပေါ်မှာ ချပြတယ်။ ဒီဇာတ်ညွှန်းမှာ အမေရိကန် ပြည်ထောင်စုဟာ လူပေါင်း ၆၀၀ လောက်ကို သေစေနိုင်တဲ့ ထူးခြားတဲ့အာရှရောဂါတစ်မျိုးကို ဖြစ်ပွားမှုနဲ့ ရင်ဆိုင်နေရတယ်လို့ ဖေါ်ပြထားတယ်။ သူတို့မှာ ရွေးချယ်စရာထောင်ရွက်ပုံ နည်းလမ်းနှစ်မျိုးရှိတယ်။ အစီအစဉ် (က) ကဒီစီမံကိန်းမှာပါဝင်တဲ့ လူ ၂၀၀ ကို ကယ်တင်နိုင်လိမ့်မယ်၊ အစီအစဉ် (ခ) ကတော့ လူ ၆၀၀ ကိုကယ်တင်နိုင်မယ့် အလားအလာ သုံးပုံတစ်ပုံရှိပြီး လူတစ်ယောက်ကိုမှ မကယ်တင်နိုင်မယ့် အလားအလာက သုံးပုံနှစ်ပုံရှိတယ်၊ တကယ်တော့ ဒီအစီအစဉ်နှစ်ခုစလုံးရဲ့ရလဒ်က တစ်ထပ်တည်း တူနေတာပါ။ ဒါပေမဲ့ဒီအခြေအနေမှာ တုန့်ပြန်သူ ၇၂ ရာခိုင်နှုန်းက အစီအစဉ်(က)ကို ရွေးချယ်ကြတာတွေ့ရတယ်။

သိပ်မကြာသေးခင်ကကြုံခဲ့ရတဲ့ သက်သေသာဓကတစ်ခုရှိပါသေးတယ်။ ဒီဥပမာကိုတော့ MIT က အပြုအမူဆိုင်ရာ ဘောဂဗေဒပညာရှင် Dan Ariely ကတင်ပြခဲ့တာပါ။ သူကသူ့ကျောင်းသားတွေကို သူတို့ရဲ့လူမှုလုံခြုံရေးအာမခံအဖွဲ့ဝင်နံပါတ်တွေကို စာရွက်ပေါ်မှာ ချရေးခိုင်းလိုက်တယ်။ ပြီးတော့ ဝိုင်တစ်ပုလင်းကို ငွေဘယ်လောက်ပေးဝယ်ချင်လဲဆိုတာ အဆိုပြုခိုင်းတယ်၊ ကျောင်းသားတွေ

အဆိုပြုတဲ့ပိုက်ဆံပမာဏဟာ သူတို့ရဲ့လူမှုလုံခြုံရေး အာမခံအဖွဲ့ဝင်နံပါတ်အပေါ် မှီခိုမှုရှိနေတာ တွေ့ရတယ်။ ဒီနံပါတ်မှာပါဝင်တဲ့ဂဏန်းအရေအတွက် (digit) နည်းတဲ့သူတွေက အဆိုပြုတဲ့ ဈေးနှုန်းနည်းနေပြီး ဂဏန်းအရေအတွက်များသူတွေက အဆိုပြုဈေးနှုန်းများနေကြတယ်၊ ဒီဆုံးဖြတ်ရာဖြစ်ရပ်ကိုအထိုင်ချထားခြင်း (anchoring) လို့ခေါ်ပြီး ဒါဟာကန့်သတ် ဘောင်သွင်းထားခြင်း (framing) သဘောနဲ့လည်း ဆင်တူတယ်။ ဒီဖြစ်ရပ်ကဈေးကွက်ထဲက ဈေးနှုန်းတွေဟာ ရောင်းလိုအားနဲ့ ဝယ်လိုအားတွေရဲ့ အပြောင်းအလဲအပေါ် တည်မှီနေတယ်ဆိုတဲ့ ရှုမြင်နိုင်နေတဲ့အမြင်ကို အားပျော့သွားစေတယ်။

အပြုအမူဆိုင်ရာဘောဂဗေဒပညာရပ်မှာ နောက်ဆုံးဖွံ့ဖြိုးတိုးတက်မှုက ဦးနှောက်ကို ဓာတ်မှန်ရိုက်နိုင်တဲ့ MRI (Magnetic Resonance Imaging) ခေတ်မီနည်းပညာပေါ်မှာအခြေတည်ထုတ်နိုင်ခဲ့တယ်။ ဒီစက်နဲ့ ဦးနှောက်ကိုဓာတ်မှန်ရိုက်ပြီး စီးပွားရေးဆိုင်ရာဆုံးဖြတ်ချက်တွေကို လေ့လာမှုနဲ့ ချိတ်ဆက်နိုင်ခဲ့တယ်။ တစ်ပိုတစ်စ ရောင်းချဖို့ ကြိုးစားနေသူကို ဝယ်ယူဖို့အလားအလာရှိသူတစ်ယောက်က စော်ကားတဲ့သဘောသက်ရောက်တဲ့ဈေးနှုန်းတစ်ရပ်ပေးပြီး ကမ်းလှမ်းလိုက်တဲ့အခါ၊ သူ့ဦးနှောက်ရဲ့ တုန့်ပြန်ပုံဟာ လူတွေအော်ဂလီဆန်စရာကောင်းတဲ့ အနံ့တစ်ခုရတဲ့ အခါမှာ၊ ဒါမှမဟုတ် အော်ဂလီဆန်စရာကောင်းတဲ့ပုံတစ်ပုံကိုမြင်ရတဲ့အခါမှာ တုန့်ပြန်ပုံနဲ့ အတူတူပဲဆိုတာ နျူရိုအီကော်နောမစ် (neuroeconomics) လို့ခေါ်တဲ့ ဒီလေ့လာမှုကနေ ရှာဖွေတွေ့ရှိရတယ်။

## တွန်းအားပေးဘောဂဗေဒအမြင်

ဒါကြောင့် လူတွေဟာ သူတို့ရဲ့ကိုယ်ကျိုးစီးပွားအပေါ်အခြေခံတဲ့ ဆုံးဖြတ်ချက်တွေကို အမြဲတမ်းမချမှတ်နိုင်ဘူးလို့ ဆိုတယ်။ စီးပွားရေးအများစုကို ဒီယူဆချက်အပေါ်မှာ ကြီးကြီးမားမားတည်ဆောက်ထားတာ ကြောင့်၊ ဒါဟာအလွန်လေးနက်ပြီးအရေးပါတဲ့ သဘောပေါက်နားလည်မှုပဲဖြစ်တယ်။ ဥပမာ - စီးပွားရေးပညာရှင်တွေက လူတွေဟာ သူတို့အလုပ်ကအနားယူချိန်မှာ သူတို့ရဲ့အကျိုးစီးပွားအတွက် စုဆောင်းငွေတွေကုန်နေအောင် ဘဝတစ်လျှောက်လုံးငွေတွေ စုဆောင်းကြလိမ့်မယ်လို့ အမြဲတမ်းယူဆခဲ့ကြတယ်။ လူတွေဟာသူတို့ကိုင်တွယ်ဖြေရှင်းနိုင်တဲ့လို့ ယုံကြည်တဲ့ငွေပမာဏထက်ပိုပြီး အကြွေးယူမှာမဟုတ်ဘူးလို့သူတို့ကယူဆကြတယ်။ အပြုအမူဆိုင်ရာဘောဂဗေဒရဲ့ အလိုအရတော့ ကိုယ်ကျိုးစီးပွားကြောင့် မဟုတ်ဘဲ ပြဿနာဖြေရှင်းရာမှာ ကိုယ်တွေ့ကြုံခဲ့ရတဲ့ ချဉ်းကပ်နည်းတွေကြောင့် အကြွေးယူမိတဲ့ အခြေအနေကို မကြာမကြာ တွန်းပို့ခံရလေ့ရှိတယ်လို့ ဆိုတယ်၊ လူတွေကို သူတို့ သဘောဆန္ဒနဲ့သူတို့ ငွေစုဖို့၊ ဝိတ်ချဖို့၊ ဘဏ္ဍာငွေတိုးတက်အောင်လုပ်ဖို့ မျှော်လင့်တာထက်၊ ဒါတွေလုပ်ဖို့ သေချာတဲ့



လမ်းညွှန်မှုတစ်ခုနဲ့ တွန်းအားပေးဖို့လိုအပ်တယ်ဆိုတာပေါ်လွင်ထင်ရှားတယ်။

ဒါက libertarian paternalism သို့မဟုတ် nudge economics ခေါ်တဲ့အပြုအမူဆိုင်ရာ ဘောဂဗေဒကို လက်တွေ့အကောင်အထည်ဖော်ဖို့ အားထုတ်မှုတွေဆီကို ဦးတည်သွားစေတယ်၊ ဥပမာ - လူတွေကို လွတ်လပ်တဲ့ရွေးချယ်ခွင့် မပေးဘဲ ပိတ်ပင်ထားဖို့မသင့်ပေမယ့် မှန်ကန်တဲ့ လမ်းကြောင်းဆီ သိမ်သိမ်မွေ့မွေ့နဲ့ တွန်းပို့သင့်တယ်လို့ တချို့က တိုက်တွန်းကြတယ်။ လူသိများတဲ့ ဥပမာတစ်ရပ်ကိုပြောရရင် အလုပ်သမားတွေဟာ ပင်စင်ယူဖို့ရှောင်လွှဲကြပေမယ့် သူတို့ကို ပင်စင်စီမံချက်ထဲအလိုအလျောက် ထည့်သွင်းနေကြတာမျိုးဖြစ်တယ်၊ နောက်ပြီးဗြိတိန်ဝန်ကြီးချုပ်ဂေါ်ဒွန်ဘရောင်း တင်ပြခဲ့တဲ့ အငြင်းပွားဖွယ်ရာ အိုင်ဒီယာတစ်ရပ်လည်းရှိသေးတယ်။ သူက မှန်းဆသဘောတူညီချက်ဆိုတဲ့ အိုင်ဒီယာကိုကိုယ်အင်္ဂါအစိတ်အပိုင်းတွေလှူဒါန်းရာမှာ အသုံးချဖို့ အငြင်းပွားဖွယ်ရာတင်ပြခဲ့တာ ဖြစ်တယ်၊ အဲဒီအိုင်ဒီယာက လူတွေအနေနဲ့ တစ်နည်းနည်းနဲ့ ပြည့်ပြည့်စုံစုံရှင်းလင်း ညွှန်ပြထားတာမျိုးမရှိဘူးဆိုရင် ကိုယ်ခန္ဓာအစိတ်အပိုင်းအလှူရှင်ဖြစ်လိုတယ်လို့ ပျက်ကွက်မှုအပေါ်ယူဆမယ်ဆိုတဲ့အိုင်ဒီယာပဲဖြစ်တယ်။

သို့သော်လည်း၊ ဒီတချို့အစီအစဉ်တွေကတော့ မှားယွင်းစွာကိုင်တွယ်မှုတွေကြောင့် အန္တရာယ်ဖြစ်စေနိုင်တယ်။ အစိုးရတွေဟာ သူတို့ရဲ့နိုင်ငံသားတွေအပေါ်စစ်ပွဲတွေ၊ ရာဇဝတ်မှုနဲ့ ဆင်းရဲမွဲပြာကျမှုတွေကနေ ကာကွယ်ပေးရမယ့် တာဝန်ရှိပါတယ်။ ဒါပေမဲ့ သူတို့ရဲ့ကိုယ်ပိုင်ဆင်ခြင်တုံတရားကင်းမဲ့မှုတွေကနေရော နိုင်ငံသားတွေကိုအကာအကွယ်ပေးဖို့ သင့်ပါသလား၊ ဒီလိုကိုယ်ပိုင်ဆုံးဖြတ်ခွင့်တွေကို ဘယ်နေရာမှာရပ်တန့်ပစ်ရမှာလဲ။ လူတွေဟာ စုဆောင်းငွေ၊ ဒါမှမဟုတ် ကိုယ်ခန္ဓာလှူဒါန်းမှုတွေနဲ့ ပတ်သက်လို့ မှားယွင်းတဲ့ဆုံးဖြတ်ချက်တွေချမှတ်ခဲ့မယ်ဆိုရင်၊ မဲရုံတွေမှာရော မှားယွင်းတဲ့ ဆုံးဖြတ်ချက်တွေလုပ်ကောင်းလုပ်နိုင်ဘူးလား။

ဒီလိုစိတ်ပူပန်သောကဖြစ်စရာအကြောင်းတွေရှိပေမယ့်လည်း ဘောဂဗေဒပညာရပ်နယ်ပယ်ကို အပြုအမူဆိုင်ရာ ထိုးထွင်းသိမြင်မှုတွေနဲ့ အပြောင်းအလဲတွေပြုလုပ်ခဲ့ပါတယ်။ အပြုအမူဆိုင်ရာ ထိုးထွင်းသိမြင်မှုတွေက လူတွေဟာအမြဲတမ်းဆင်ခြင်တုံတရားရှိရှိနဲ့ သူတို့ရဲ့ကိုယ်ကျိုးစီးပွားအတွက် တုန့်ပြန်တယ်ဆိုတဲ့ ယူဆချက်ကို ပြတ်ပြတ်သားသားအားလျော့သွားစေခဲ့တယ်။

**အနှစ်ချုပ်အတွေးအခေါ်**

**လူတွေဟာ ကြိုတင်ခန့်မှန်းတွက်ချက်နိုင်လောက်အောင် ဆင်ခြင်တုံတရားမရှိကြဘူး။**

# ၄၇ – ဂိမ်းသီအိုရီ

## Game theory

ဝီလီယံဂိုးလ်းဒင်းရဲ့စာအုပ်ကို ဖိုင်ရမ်းထားတဲ့ ၁၉၈၇ ခုနှစ် ဂန္တဝင်ရုပ်ရှင်ကား The Princess Bride ရဲ့ ညက်ရည်ပြိုင်တဲ့ ဇာတ်ဝင်ခန်းတစ်ခုမှာ ဝက်စ်လေကို သူ့ရန်သူတော် ဗစ်ဇီနီ နဲ့ယှဉ်ပြီး သူရဲကောင်းအဖြစ်အမှမ်းတင်ထားတယ်။ ဝက်စ်လေက စားပွဲပေါ်မှာ ဝိုင်ဖန်ခွက်နှစ်ခွက်တင်လိုက်ပြီး တစ်ခွက်မှာအဆိပ်ခတ်ထားတယ်လို့ ပြောလိုက်တယ်။ ပြီးတော့ ဗစ်ဇီနီကိုဝိုင်ခွက်တစ်ခွက်ကို ရွေးယူဖို့ ဖိနှိပ်လိုက်တယ်။

> ဗစ်ဇီနီက "ဒါကလွယ်ပါတယ်" လို့ဆိုတယ်။ ပြီးတော့ သူကဆက်ပြီး
> ငါလုပ်ရမှာကတော့ ငါသိထားတဲ့မင်းအကြောင်းကို အာရုံခံစဉ်းစားဖို့ပဲ၊ မင်းဟာကိုယ့်ဝိုင်ခွက်ထဲကိုယ် အဆိပ်ခတ်မယ့်သူလား၊ ရန်သူ့ဝိုင်ခွက်ထဲကို အဆိပ်ခတ်မယ့်သူလား။ အစုအချိန်မှာလိမ္မာပါးနပ်တဲ့သူတစ်ယောက်အနေနဲ့ တော့ သူ့ဝိုင်ခွက်ကိုသူအဆိပ်ခတ်ထားမှာပဲ၊ ငတုံးတစ်ယောက်ကတော့ သူ့ကိုပေးတဲ့ခွက်ကိုပဲလက်လှမ်းလိုက်မယ်ဆိုတာသူသိတယ်လေ၊ ငါကတော့ ငတုံးမဟုတ်ဘူး၊ ဒါကြောင့် ငါကတော့ ရှင်းရှင်းပဲ၊ မင်းရှေ့ကခွက်ကို မရွေးနိုင်ဘူး။ ဘာလို့လဲဆိုတော့ ငါဟာငတုံးတစ်ယောက်မဟုတ်ဘူးဆိုတာ မင်းလည်းသိပြီးသားလေ၊ ဒါကိုလည်း မင်းကထည့်တွက်ထားလိမ့်မယ်၊ ဒီတော့ ငါ့ရှေ့ကဝိုင်ခွက်ကိုလည်း ငါမရွေးနိုင်ဘူးဆိုတာသေချာပေါက်ပဲ၊

နောက်ဆုံးမှာတော့ ဗစ်ဇီနီရောဝက်စ်လေပါကိုယ့်ခွက်ကိုယ်သောက်လိုက်ကြတယ်၊ ပြီးတော့မှ ဝက်စ်လေက ဗစ်ဇီနီတော့ အရွေးမှားသွားပြီဆိုပြီးလှမ်းသတိပေးလိုက်တယ်၊ ဝိုင်ခွက်တွေကို တိတ်တိတ်လေးနေရာလဲထားတဲ့ ဗစ်ဇီနီဟာဝမ်းသာအားရ

**အချိန်ပြဇယား:**

| ၁၉၄၄ | ၁၉၅၀ | ၁၉၆၀ | ၁၉၈၂ | ၁၉၉၄ |
|---|---|---|---|---|
| John von Neumann နဲ့ Oskar Morgensteinတို့ရေးသားတဲ့ The Theory of Economic Behaviour စာအုပ်ထုတ်ဝေ | အကျဉ်းသားအကျပ်အတည်း ဥပမာကို ဖော်ထုတ်၊ Nash က သူ့ရဲ့မျှခြေအယူအဆကိုတင်ပြ | Thomas Schelling ရေးတဲ့ The Strategy of Conflict စာအုပ်ထုတ်ဝေ | Maynard Smith က Evolution and the Theory of Games စာအုပ်ထုတ်ဝေ | စီးပွားရေးပညာနိုဘယ်ဆုကို Nash လက်ခံရရှိ |



> "သူတို့အနေနဲ့ ခင်ဗျားအပေါ် ဆက်ဆံရေးချင်သလိုမျိုး ခင်ဗျားက သူတို့တွေကို မဆက်ဆံမိပါစေနဲ့၊ သူတို့ရဲ့တွေးကြံ့တားမှုတွေက အမျိုးမျိုးဖြစ်နေနိုင်တယ်။"
> ဂျော့ချ် ဘားနတ် ရှော

ရယ်မောလိုက်တယ်၊

တကယ်တော့ ဝက်စ်လေက ဝိုင်ခွက်နှစ်ခွက်စလုံးမှာ အဆိပ်ခတ်ထားခဲ့တာပါ၊ ဒါပေမဲ့ သူ့ကိုသူတော့ အဲ့ဒီအဆိပ်မျိုးကို ခံနိုင်ရည်ရှိအောင် ကိုယ်ခံစွမ်းအား ကို တည်ဆောက်ထားခဲ့တယ်၊ သူရဲကောင်းဝက်စ်လေက မင်းသမီးလေးကို ကယ်တင်နေစဉ်မှာပဲ ဗစ်ဇီနီဟာလဲကျသွားခဲ့တယ်၊ အပေါ်ယံကြည့်ရင်တော့ ဒီရုပ်ရှင်ဟာ စီးပွားရေးပညာရပ်နဲ့ဘာမှသိပ်ပြီး မပတ်သက်သလိုပါပဲ၊ ဒါပေမဲ့ ကျွန်တော်တို့ စဉ်းစားခဲ့ကြတာဟာ ဂိမ်းသီအိုရီရဲ့ပြည့်စုံကောင်းမွန်တဲ့ ဥပမာတစ်ရပ်ပဲဖြစ်ပါတယ်၊

ဂိမ်းသီအိုရီဆိုတာ လူသားမဟာဗျူဟာနောက်ကွယ်က သိပ္ပံပညာပဲ၊ လူတွေအနေနဲ့ တခြားတစ်ယောက်ချင်းစီရဲ့ လုပ်ဆောင်ချက်တွေကိုကြိုတွက်ဖို့ ဘယ်လိုကြိုးပမ်းကြတယ်ဆိုတာနဲ့ နောက်ဆုံးဘာအကျိုးဆက်တွေဖြစ်လာမလဲဆိုတာကို လေ့လာတဲ့ဘာသာရပ်တစ်ခုပဲဖြစ်တယ်၊ ဒီဘာသာရပ်ဟာ သိပ်မကြာသေးတဲ့ ဆယ်စုနှစ်ကာလတွေရဲ့ လွှမ်းမိုးမှုအရှိဆုံး စီးပွားရေးအတွေးအခေါ်တစ်ခုဖြစ်လာခဲ့တယ်၊ ၁၈ ရာစုမှာအဒမ်စမစ်ကလူသားတွေဟာပင်ကိုအားဖြင့် အတ္တကြီးကြတယ်လို့ ဆိုတယ်၊ ဒါပေမယ့် အဲ့ဒီအတ္တကြီးမှုကိုဈေးကွက်တဘက်ဆင့် လမ်းကြောင်းပေးလိုက်တဲ့အခါ အဆုံးသတ်ရလဒ်တ လူ့အဖွဲ့အစည်းကိုပိုမိုကောင်းမွန်တဲ့အခြေအနေတစ်ခုကိုရလာစေလိမ့်မယ်လို့ သူကပြောဆိုခဲ့တယ်၊ ဂိမ်းသီအိုရီနဲ့မတူတာကတော့ လူတွေရဲ့တစ်ကိုယ်ကောင်းဆန်မှုကတစ်ယောက်နဲ့တစ်ယောက်အပေး အယူအလျှော့အတင်းလုပ်ဖို့ ဘယ်လိုနည်းလမ်းဖေါ်ထုတ်ပေးသလဲဆိုတာကို ဂိမ်းသီအိုရီက စူးစမ်းလေ့လာတာဖြစ်တယ်၊

### အကျဉ်းသားအကျပ်အတည်း

ဂိမ်းသီအိုရီရဲ့ ဂန္တဝင်မြောက်နမူနာက အကျဉ်းထောင်တစ်ခုမှာ ပြစ်မှုကျူးလွန်သူကြီးရာပါနှစ်ယောက်ကို တစ်ယောက်ချင်းစီသီးခြားခွဲထားပြီး စစ်ဆေးမေးမြန်းတယ်လို့ ယူဆစေတယ်၊ သူတို့မှာ

## ဟောလီးဝုဒ်က ဂိမ်းသီအိုရီ

A Beautiful Mind ဆိုတဲ့ ရုပ်ရှင်ကားကို ၂၀၀၁ ခုနှစ်အော်စကာဆုအတွက် ထည့်သွင်းစဥ်းစားခံရတဲ့အခါ ဂိမ်းသီအိုရီဟာ မယုံနိုင်စရာပရိတ်သတ်အများအပြားကို ရရှိခဲ့တယ်။ Russell Crowe က သင်္ချာပညာရှင် John Nash အနေနဲ့ သရုပ်ဆောင်ခဲ့တယ်။ သူဟာ ၁၉၉၄ ခုနှစ်အတွက် စီးပွားရေးပညာနိုဘယ်ဆုကို မရခင်မှာ အလုပ်တွေများလွန်းတဲ့အတွက် သိသိသာသာလွန်ကဲတဲ့ စိတ်ကစဉ့်ကလျားရောဂါဝေဒနာကို ခံစားနေခဲ့ရသူဖြစ်တယ်။ ဒါပေမဲ့ Nash ရဲ့ အောင်မြင်မှုက ဂိမ်းသီအိုရီကို တီထွင်ခဲ့လို့ မဟုတ်ဘူး၊ ဂိမ်းသီအိုရီကို စတင်ဖော်ထုတ်ခဲ့သူက ပရင်စတန်တက္ကသိုလ်က သင်္ချာပညာရှင် John von Neumann ပါ၊ ဒါပေမဲ့ Nash က ဒီသီအိုရီကို မွမ်းမံပြင်ဆင်ပြီး လက်တွေ့အသုံးချမှုတွေကို ရှာဖွေဖော်ထုတ်ခဲ့တာဖြစ်တယ်။ Nash တီထွင်ဖန်တီးခဲ့တဲ့ နက်ရှ်ညီမျှခြင်း (the Nash Equilibrium) အယူအဆက အခြေအနေတစ်ရပ်ကို ဖော်ပြတယ်။ အဲဒီအခြေအနေမှာ ကစားပွဲတစ်ပွဲမှာ ပါဝင်တဲ့ သူနှစ်ယောက်အနေနဲ့ ကိုယ့်ပြိုင်ဘက်ရဲ့ မဟာဗျူဟာက ဘာလဲဆိုတာ သိကြတဲ့အခါမှာ နှစ်ယောက်စလုံးက တူညီတဲ့ မဟာဗျူဟာတစ်ရပ်ကို မလွှတ်တမ်းဆုပ်ကိုင်ဖို့ ရွေးချယ်ထားကြပေမယ့် ကိုယ့်ရဲ့ပြိုင်ဘက်က ကိုယ့်စိတ်ကို အပြောင်းအလဲဖြစ်စေမလားဆိုတာနဲ့ ပတ်သတ်လို့တော့ မသေချာကြဘူး။

ရွေးချယ်စရာနှစ်ခုရှိတယ်။ တစ်ခုက ပြစ်မှုကျူးလွန်ကြောင်း ဝန်ခံဖို့နဲ့ နောက်တစ်ခုကတော့ ရေငုံနှုတ်ပိတ်နေဖို့ပဲ။ တစ်ယောက်က ဝန်ခံပြီး နောက်တစ်ယောက်က ရေငုံနှုတ်ပိတ်လုပ်နေမယ်ဆိုရင် ဝန်ခံတဲ့သူကို တရားသေလွှတ်ပေးပြီး ကျန်တစ်ယောက်ကတော့ ထောင်ဆယ်နှစ်ကျခံရမှာဖြစ်တယ်။ နှစ်ယောက်စလုံး ဝန်မခံဘဲ ရေငုံနှုတ်ပိတ်လုပ်နေရင်တော့ တစ်ယောက်ကို ထောင်တစ်နှစ်စီ ပြစ်ဒဏ်ကျခံရမှာဖြစ်တယ်။ နှစ်ယောက်စလုံး ဝန်ခံလိုက်မယ်ဆိုရင်တော့ တစ်ယောက်ကို ထောင်ငါးနှစ်စီ ပြစ်ဒဏ်ချခံရမှာပါ။

သင်္ချာနည်းနဲ့ကြည့်ရင်တော့ နှစ်ယောက်စလုံး ဝန်မခံဘဲ ၊ ရေငုံနှုတ်ပိတ်နေလိုက်ခြင်းက အကောင်းဆုံး ရွေးချယ်မှုပဲလို့ ဆိုရမယ်။ ဒါပေမဲ့ ဂိမ်းသီအိုရီရဲ့ စည်းမျဉ်းတစ်ခုက တစ်ယောက်ရဲ့ တစ်ကိုယ်ကောင်းဆန်မှုက သူတို့နှစ်ယောက်စလုံးကို အမြဲတမ်းအချင်းချင်း သစ္စာဖေါက်စေလိမ့်မယ်လို့ ဆိုတယ်။ အကြောင်းကတော့ သူတို့မှာ နှစ်ရှည်ထောင်ဒဏ်ကျမှာကို ရှောင်နိုင်တဲ့ မက်လုံးရှိနေတဲ့ အပြင် လွတ်မြောက်နိုင်တဲ့ အခွင့်အလမ်းပါထပ်ပြီး ရှိနေတာကြောင့် တစ်ယောက်ယောက်က သစ္စာဖေါက်ပြီး ဝန်ခံမလား။



ရေငုံနှုတ်ပိတ်နေမလားဆိုတာ အရဲစွန့်အလောင်းအစားလုပ်နေမယ့်အစား နှစ်ယောက်စလုံးကို သစ္စာဖေါက်အောင် တွန်းပို့နေတယ်။ အဓိကအချက်က ဒီလိုအခြေအနေတွေမှာ အကောင်းဆုံး ဆုံးဖြတ်ချက်ဟာ အမြဲတမ်း ထင်ထင်ရှားရှား ရှိမနေဘူးဆိုတာပါပဲ။

ဒါပေမဲ့ အကျဉ်းသားအကျပ်အတည်းက ထင်မှတ်ထားသလို ဖြစ်နေမယ်ဆိုရင်ကော ဘာဖြစ်မလဲ။ ဒီလိုအခြေအနေမျိုးတွေမှာ အကျဉ်းသားတွေအနေနဲ့ ဂိမ်းရဲ့စည်းမျဉ်းတွေကို သိသွားရင် ပူးပေါင်းဆောင်ရွက်ခြင်းက သစ္စာဖေါက်ခြင်းထက်ပိုပြီး အကျိုးရှိတယ်ဆိုတာ သူတို့ သဘောပေါက်သွားနိုင်တယ်။ အလားတူပဲ ဒီအကျပ်အတည်းကို စမ်းသပ်မှုတစ်ရပ်အနေနဲ့ အသုံးပြုထားဖူးတာကြောင့် ဝန်မခံဘဲ ရေငုံနှုတ်ပိတ်နေပြီး ကိုယ်ကျိုးမဖက်တဲ့လမ်းကြောင်းကို ရွေးချယ်ဖို့ လူတွေမှာ အလေ့အကျင့်ရသလိုဖြစ်လာခဲ့တယ်။

ဂိမ်းသီအိုရီရဲ့ နောက်ဥပမာတစ်ခုက ဂျိမ်းစ်ဒင်းန်ပါဝင်သရုပ်ဆောင်ထားတဲ့ Rebel Without a Cause ဇာတ်ကားမှာ တွေ့ရမှာဖြစ်တယ်။ အဲဒီဇာတ်ကားမှာ ဂျိမ်းစ်ဒင်းန်က မကြောက်ပြိုင်ပွဲ ဂိမ်းတစ်ခုမှာ ပြိုင်ဘက်တစ်ယောက်အနေနဲ့ ပါဝင်သရုပ်ဆောင်ရတယ်။ သူတို့ဟာ ချောက်ကမ်းပါးဆီကို ဦးတည်ပြီး ကားပြိုင်မောင်းရတယ်၊ အရှိန်နဲ့မောင်းနေတဲ့ ကားထဲကနေ ပထမဆုံးခုန်ထွက်သူက အရှုံးပဲ၊ သူတို့အနေနဲ့ အကောင်းဆုံးရလဒ်တွေရဖို့ ကြိုးစားကြပေမယ့် အဆိုးဝါးဆုံးသော စွန့်စားမှုကို အသက်နဲ့ထပ်ပြီး လုပ်ကြရတာဖြစ်တယ်။

### ကြိုတင်တွက်ဆခြင်းအနုပညာ

ဂိမ်းသီအိုရီဟာ အဲဒီလိုဥပမာတွေက ညွှန်ပြတာထက် အများကြီးပိုကျယ်ပြန့်တဲ့ လေ့လာမှုတစ်ခုပဲ။ ဒီသီအိုရီက ဂိမ်းကစားပွဲလို ဖြစ်နိုင်ခြေခန့်မှန်းရတဲ့ အခင်းအကျင်းမျိုးတွေမှာ လူတွေ ဘယ်လိုပြုမူကြတယ်ဆိုတာကို စူးစမ်းလေ့လာတယ်။ မဟာဗျူဟာမရှိတဲ့ အခင်းအကျင်းမျိုးတွေနဲ့တော့ တခြားစီပဲ။ ဒီအခင်းအကျင်းမျိုးတွေမှာ အခြေခံတူညီနေတဲ့ အရာက ပါဝင်ပတ်သက်သူ တစ်ယောက်ရဲ့ လုပ်ဆောင်ချက်တွေက သူတို့ကိုယ်တိုင်အတွက်ရလဒ်ကိုရော၊ တခြားသူတွေအတွက်ရလဒ်ကိုပါ အမြဲလွှမ်းမိုးမှုရှိနေတယ်၊ ဒီထဲမှာ ပါဝင်သူတစ်ဦးချင်းစီရဲ့ အကျိုးစီးပွားတွေ ဆန့်ကျင်ဘက်ဖြစ်နေတဲ့ အကြွင်းသုညဂိမ်း (zero-sum game) တွေလည်း ပါဝင်နိုင်တယ်။ ဆိုလိုတာက တစ်ယောက်ရဲ့ အနိုင်ဟာ အခြားတစ်ယောက်ရဲ့ အရှုံးပဲ။ အဲဒီလိုမဟုတ်ဘဲ နှစ်ဖက်စလုံး အကျိုးရှိတဲ့ရလဒ် (win-win outcome) မျိုးရတဲ့ ဂိမ်းမျိုးတွေလည်း ရှိပါတယ်။

ဂိမ်းသီအိုရီရဲ့အဓိကသော့ချက်က ဒီလိုအခြေအနေမျိုးတွေမှာ ဆင်ခြင်တုံတရားရှိပြီး ကိုယ်ကျိုးကြည့်တတ်တဲ့ တခြားသူတစ်ယောက်ရဲ့ ရည်ရွယ်ချက်တွေကို လူတွေကြိုတင်တွက်ဆဖို့ တိုက်တွန်းထားတာပဲ။ ကျယ်ကျယ်ပြန့်ပြန့်ရှိနေတဲ့ မဟာဗျူဟာမြောက်အပြန်အလှန်မှီခိုမှုက လူသားချင်း အပြန်အလှန်အကျိုးပြုမှုကို ဘယ်လောက်သက်ရောက်မှုရှိသလဲဆိုရင် ဂိမ်းသီအိုရီဟာ နိုင်ငံရေး၊ စီးပွားရေးနဲ့ ကုန်သွယ်ရေးတွေမှာ ကျင့်သုံးတဲ့အလွန်အမင်းလွှမ်းမိုးမှုရှိပြီး မကြာခဏအသုံးချရတဲ့ ပညာရပ်တစ်ခုဖြစ်လာခဲ့တယ်၊ ဘက်လုပ်ငန်းရှင်တွေဟာ ဈေးကွက်ဦးဆောင်မှုနေရာ လွှဲပြောင်းရယူဖို့ လုပ်ဆောင်ရတဲ့အခါ ဂိမ်းသီအိုရီကို အသုံးချကြတယ်။ အလုပ်ရှင်တွေနဲ့ အလုပ်သမားသမဂ္ဂတွေဟာလည်း လုပ်ခလစာအပေါ်အငြင်းအခုံဖြစ်ရတဲ့အခါမျိုးတွေမှာ ဒီသီအိုရီကို ဆက်စပ်အသုံးချကြတယ်၊ နိုင်ငံရေးသမားတွေကတော့ စေ့စပ်ဆွေးနွေးမှုတွေလုပ်ရတဲ့အခါ အသုံးချကြတယ်။ ဥပမာ - နိုင်ငံတကာကုန်သွယ်ရေးသဘောတူညီချက်တချို့ကိုညှိနှိုင်းရတဲ့အခါမျိုးတွေ၊ စစ်တိုက်မလား၊ မတိုက်ဘူးလား စတဲ့ကိစ္စမျိုးတွေမှာပေါ့။ တစ်ခါတလေ ကုမ္ပဏီတွေအနေနဲ့လည်း သူတို့ပြိုင်ဘက်တွေထက် ပိုရောင်းရဖို့ သူတို့ရောင်းကုန်တွေကို ဈေးနှုန်းသတ်မှတ်တဲ့အခါ ဂိမ်းသီအိုရီကို အသုံးချကြတယ်။

## စစ်ကစားပွဲများ

ဂိမ်းသီအိုရီကို အထောဆုံးနဲ့ အငြင်းပွားဖွယ်ရာအဖြစ်ဆုံး လက်တွေ့အသုံးချမှုတွေကို စစ်အေးတိုက်ပွဲကာလမှာ ကြုံတွေ့ခဲ့ရတယ်၊ ဆိုဗီယက်ယူနီယံနဲ့ အမေရိကန်ပြည်ထောင်စုနှစ်နိုင်ငံစလုံးမှာ တစ်ဖက်နဲ့တစ်ဖက် အကြီးအကျယ်အပျက်အစီးဖြစ်စေနိုင်တဲ့ နျူကလီးယားလက်နက်တွေ ပိုင်ဆိုင်ထားကြတယ်၊ တစ်ဖက်ကိုစပစ်လိုက်ခြင်းက နှစ်ဖက်စလုံးကို ပျက်စီးဆုံးရှုံးစေလိမ့်မယ်ဆိုတာကို နှစ်နိုင်ငံစလုံးကနားလည်ထားကြတယ်။ တစ်ဖက်ကပစ်လိုက်ရင် တစ်ဖက်ကလည်း ပြန်ပစ်မှာကိုး။ ဒါကြောင့်သင်္ချာပညာရှင် ဘာထရန်ရပ်ဆယ်လ်က ဒီလိုနျူကလီးယားလိပ်ခဲတည်းလည်း အခြေအနေကို မကြောက်ပြိုင်ပွဲလို့ နှိုင်းနှိုင်းပြောဆိုခဲ့တယ်။

Thomas Schelling ကသူ့ရဲ့ ၁၉၆၀ပြည့်နှစ်ထုတ် The Strategy of Conflict စာအုပ်မှာ ဂိမ်းသီအိုရီက ဆိုဗီယက်ယူနီယံနဲ့ အမေရိကန်ပြည်ထောင်စုကို တစ်နိုင်ငံနဲ့တစ်နိုင်ငံ တုံ့ပြန်ဖို့ရာ ဘယ်လိုလှုံ့ဆော်ပေးလိမ့်မယ်ဆိုတာ ဖေါ်ထုတ်တင်ပြခဲ့တယ်။ ဒီလိုလိပ်ခဲတည်းလည်းအခြေအနေနဲ့ ရင်ဆိုင်နေရတဲ့ နိုင်ငံတွေအနေနဲ့ သူတို့နိုင်ငံသားတွေကို ကာကွယ်ဖို့ထက် သူတို့လက်နက်တွေကို ကာကွယ်ဖို့ ကြိုးပမ်းတာက ပိုကောင်းလိမ့်မယ်လို့ သူကသုံးသပ်ခဲ့တယ်။ နျူကလီးယားစစ်ပွဲရဲ့



အကျိုးဆက်တွေကို ကြံ့ကြံ့ခံနိုင်တယ်လို့ ယုံကြည်တဲ့နိုင်ငံဟာ စစ်ပွဲကို ဝင်ဖို့ အလားအလာအရှိဆုံးနိုင်ငံပဲလို့ သူကအကြောင်းပြတယ်၊ ဒါကြောင့် လူတိုင်းအတွက် နျူကလီးယားအကာအကွယ်တွေ တည်ဆောက်ပေးတာထက် ရန်သူကကိုယ့်ဆီကိုနျူကလီးယားထိပ်ဖူးတပ်ဒုံးကျည်စပစ်လွှတ်တဲ့အခါ တန်ပြန်တိုက်ခိုက်နိုင်တဲ့ ကိုယ့်ရဲ့စွမ်းရည်ကို သရုပ်ပြတာခြင်းက ပိုကောင်းလိမ့်မယ်လို့ သူကဆိုခဲ့တယ်။ ဒီလိုထိုးထွင်းသိမြင်မှုက စစ်အေးတိုက်ပွဲရဲ့ ဆန့်ကျင်ဘက်နှစ်ဖက်စလုံးက အန္တရာယ်တွင်းထဲမှာ စွန့်စားနေတဲ့ ချဉ်းကပ်ပုံနည်းလမ်းတွေအပေါ်လွှမ်းမိုးမှုရှိခဲ့တယ်။ ဥပမာ - ဒုံးကျည်ထိပ်ဖူးတွေကို မြေပြင်စခန်းတွေမှာ အသေတပ်ဆင်ထားတာထက် ရေငုပ်သင်္ဘောတွေမှာ တပ်ဆင်ဖို့ လက်ခံယုံကြည်လာအောင် စည်းရုံးပေးနိုင်ခဲ့တယ်၊ ဒီဖြစ်ရပ်မှာ ပြဿနာက တစ်ဖက်မှာ ဒုံးကျည်ထိပ်ဖူးဘယ်လောက်ရှိနေတယ်ဆိုတာ တစ်ဖက်ကမသိသလို၊ ဘယ်နေရာတွေမှာဒုံးကျည်တွေရှိထားတယ်၊ ဘယ်ကိုချိန်ရွယ်ထားတယ်ဆိုတာတွေကိုလည်း မသိကြတာပဲ။ ဒါပေမဲ့ ဒီလိုမသေချာမှုကပဲ လိပ်ခဲတည်းလည်း အခြေအနေကို ဆက်လက်တည်တံ့နေစေတာဖြစ်တယ်။

## အတတ်ပညာလား၊ အနုပညာလား

ဂျွန်ဝင်ဂိမ်းသီအိုရီစမ်းသပ်ချက်တလူတိုင်းနီးပါးကစားဖူးကြတဲ့ စစ်တုရင်ကစားပွဲပဲ။ မဟာဗျူဟာမြောက်ကစားပွဲတွေကိုကစားကြတဲ့အခါတိုင်းမှာ ကိုယ့်ပြိုင်ဘက်ကလုပ်ဆောင်လိမ့်မယ်လို့ ကိုယ်မျှော်မှန်းထားတဲ့အရာအပေါ် အခြေခံပြီး ဆုံးဖြတ်ချက်တွေ ချမှတ်ကြတယ်။ ဂိမ်းရဲ့ဘယ်အဆင့်မှာမဆို ဖြစ်နိုင်ခြေရှိတဲ့ ရွေ့ကွက်တွေက မရေတွက်နိုင်အောင် များပြားလွန်းတယ်၊ ဒါပေမဲ့ ရေတွက်ရမယ့် ရွေ့ကွက်အနည်းငယ်ကို ငြင်းစားဖို့ရွေးချယ်စရာကတော့ နည်းနည်းပဲရှိတယ်။ ကျန်တဲ့ဟာကွက်တွေကို ဖြည့်ဆည်းရာမှာ နှစ်ဖက်စလုံးရဲ့အတွေ့အကြုံနဲ့ သိနားလည်မှုအပေါ်မှာ ယုံကြည်ထားရတယ်။ ဂိမ်းသီအိုရီဟာ စီးပွားရေးပညာရပ်ရဲ့အလျှင်အမြန်ဆုံး ဖွံ့ဖြိုးလာနေတဲ့ နယ်ပယ်တစ်ခုအဖြစ် ဆက်လက်တည်ရှိနေတယ်၊ လူ့အပြုအမူနဲ့ပတ်သက်လို့ အခြေခံကျတဲ့ အမှန်တရားတွေကို ဖေါ်ထုတ်ဖို့ ပိုပိုပြီးအထောက်အပံ့ဖြစ်လာနေတယ်။ ဒါပေမဲ့ ပရင်စတန်တက္ကသိုလ်က ဂိမ်းသီအိုရီကျွမ်းကျင်ပညာရှင် Avinash Dixit ကတော့ " ဒီသီအိုရီဟာ ပြည့်စုံဖို့တော့ အလှမ်းဝေးပါသေးတယ်။ နည်းလမ်းပေါင်းများစွာထဲမှာ အောင်မြင်တဲ့မဟာဗျူဟာရဲ့ဒီဇိုင်းကသာ အနုပညာတစ်ရပ်အဖြစ် ကျန်ရစ်တာပါ" လို့ဆိုတယ်။

### အနှစ်ချုပ်အတွေးအခေါ်

**လူတွေဟာ ကစားပွဲတွေမှာ ကွဲပြားစွာ ပြုမူလုပ်ဆောင်ကြတယ်**

# ၄၀ - မှုခင်းဆိုင်ရာဘောဂဗေဒ

## Criminomics

**ဘောဂဗေဒပညာရပ်ဟာ ဘုတ်အဖွဲ့အစည်းအဝေးခန်းမထဲကနေ အိမ်ခန်းထဲကိုရွေ့သွားတဲ့အခါ၊ ကုမ္ပဏီတွေထက် မှုခင်းတွေကိုစစ်ဆေးဖို့ အသုံးချလာတဲ့အခါ ဘာတွေများဖြစ်သွားပါလိမ့်။ မှောင်ခိုဈေးကွက်တွေကနေ မိသားစုဘဝတွေအထိအရာရာကို လေ့လာဖို့ဘောဂဗေဒရဲ့ လက်နက်ကိရိယာတွေကို နေရာသစ်ကိုပြောင်းရွှေ့လိုက်တဲ့အခါ ဘာတွေဖြစ်လာမလဲ။ ဝယ်လိုအား၊ ရောင်းလိုအား သီအိုရီကနေ ဂိမ်းသီအိုရီအထိ ဘောဂဗေဒသီအိုရီတွေဟာ တကယ်ပဲ ဩဇာတိက္ကမကြီးမားသလို ကမ္ဘာအနှံ့ပျံ့နှံ့နေခဲ့တာပါ။ အပြင်ပန်းအားဖြင့် လုံးဝအဆက်အစပ်မရှိတဲ့အကြောင်းအရာတွေအပေါ် မီးမောင်းထိုးပြဖို့ ဒီသီအိုရီတွေကို အသုံးချနိုင်မှာဖြစ်ပါတယ်။**

Steven Levitt နဲ့ Stephen Dubner တို့နှစ်ယောက်ပေါင်းပြီး ၂၀၀၅ ခုနှစ်မှာ ထုတ်ဝေခဲ့တဲ့ Freakonomics စာအုပ်မှာပါတဲ့ ပေါင်မုန့်ကွင်းရောင်းသမားရဲ့ ဇာတ်လမ်းလေးကို စဉ်းစားကြည့်ရအောင်ပါ။ (ဒီစာအုပ်ဟာ စီးပွားရေးပါမောက္ခ Levitt ရဲ့ သုတေသနကို အခြေခံရေးသားထားတဲ့စာအုပ်ဖြစ်ပါတယ်။) ဇာတ်လမ်းကတော့ဒီလိုပါ။ ကုမ္ပဏီတွေကို ပေါင်မုန့်ကွင်းတွေလိုက်ပို့ပေးတဲ့ ပွဲဦးတီထွင်သူတစ်ယောက်ဟာ ဖေါက်သည်တွေတစ်ဦးချင်းဆီမှာ ရစ်သီရစ်သီနဲ့ငွေရဖို့ စောင့်နေရတာထက်စာရင် သူတို့ပေးရမှာရှိတဲ့ငွေကို စာတိုလေးရေးပြီးသူတို့ရဲ့ငွေသေတ္တာထဲမှာ ထားခဲ့တာကပိုကောင်းမယ်လို့ ဆုံးဖြတ်ခဲ့တယ်။ သူဟာ ဝက်သိက္ခာကိုအလေးထားပြီး စိတ်ချလက်ချလုပ်ဆောင်ခဲ့တယ်။ ပိုပြီးစိတ်ဝင်စားစရာကောင်းတာက သူ့ရဲ့ငွေစာရင်းတွေက စိတ်ဝင်စားဖွယ်ရာ

**အချိန်ပြဇယား:**

| ၁၇၇၆ | ၁၉၉၂ |
| --- | --- |
| အဒမ်စမစ်ရေးတဲ့ The Wealth of Nations စာအုပ်ထုတ်ဝေ | ဂယ်ရီဘက်ကာ စီးပွားရေးပညာ နိုဘယ်ဆုရရှိ |



### မိဘဘဝဟာ သားသမီးတွေအကျိုးအတွက်လား၊ ရင်းနှီးမြှုပ်နှံမှုလား

မိဘတွေဟာ မကြာခဏဆိုသလို သားသမီးတွေအကျိုးကို ဦးစားပေးဆက်ဆံကြတယ်။ ကလေးတွေကို ရည်ရွယ်ချက်တစ်ခုကြောင့် လက်ဆောင်တွေပေးတတ်ကြသလို၊ ဘာရည်ရွယ်ချက်မှမပါဘဲနဲ့လည်း လက်ဆောင်ပစ္စည်းတွေ ဝယ်ပေးတတ်ကြတယ်။ ဒါကြောင့် ကလေးဘဝကာလတွေဟာ ကလေးတွေအဖို့ ကိုယ်ကျိုးစီးပွားသက်သက်ပဲဖြစ်နေတော့တာပါ။ လူအများကတော့ ဒါကို မိသားစုဘဝချစ်ခြင်းမေတ္တာရဲ့ ပြယုဂ်လို့ ဆိုကြပေမယ့် ဘက်ကာကတော့ ဒါကို လက်မခံပါဘူး။ သူက မိဘတွေရဲ့အလိုလိုက်မှုတွေဟာ သူတို့အသက်အရွယ်ကြီးချိန်အတွက် သွယ်ဝိုက်တဲ့နည်းနဲ့ ရင်းနှီးမြှုပ်နှံနေတာလို့ ဆိုတယ်။ မိဘတစ်ယောက်ရဲ့ ကလေးတွေပေါ် ရင်းနှီးမြှုပ်နှံမှုကနေ ပြန်ပေါ်မှုနှုန်းက ပုံမှန်ပင်စင်စုဆောင်းငွေပြန်ပေါ်မှုနှုန်းထက်ပိုတယ်၊ အောင်မြင်ပြီး ကျန်းမာသန့်ပွန်းတဲ့ ကလေးတစ်ယောက်ဟာ လိုအပ်လာရင် သူ့မိဘတွေကိုပြန်ပြီး ကြည့်ရှုစောင့်ရှောက်တတ်ကြတာကြောင့်ပဲဖြစ်ပါတယ်။

အလားအလာတချို့ကို ဖေါ်ထုတ်ပြခဲ့တယ်။ လူတွေဟာ ရုံးသေးသေးလေးတွေမှာ အလုပ်လုပ်တဲ့အခါ၊ ရာသီဥတုကောင်းတဲ့အခါ၊ နောက်ပြီး အားလပ်ရပ်တစ်ပတ်လည်သွားတဲ့အခါ ပိုပြီးရိုးသားကြတာကို တွေ့ရတယ်။

ဒီစာအုပ်က ကိုယ်ဝန်ဖျက်ချမှုနဲ့ လူမျိုးရေးကိစ္စတွေလို ခေတ်သစ်လူ့အဖွဲ့အစည်းရဲ့ အငြင်းပွားဖွယ်ရာအကောင်းဆုံးအကြောင်းအရာတွေနဲ့ပတ်သက်ပြီး သဘာဝကျမဟုတ်တဲ့ သုံးသပ်ချက်တွေကို ထုတ်ပြခဲ့တယ်။ ဒီအရာတွေကြားထဲမှာ

| ၂၀၀၃ | ၂၀၀၅ |
| --- | --- |
| Steven Levitt ဂျွန်ဘိတ်ကလက်ခ်ဆုဘဲဆိပ်ရရှိ | Freakonomics စာအုပ်ထုတ်ဝေ |

ဒီစာအုပ်က (လူမည်းတွေကိုအကြမ်းဖက်ရန်ပြုတဲ့ အမေရိကန်တောင်ပိုင်းက လျှို့ဝှက်အသင်းအဖွဲ့တစ်ဖွဲ့ဖြစ်တဲ့) Ku Klux Klan အဖွဲ့နဲ့ အိမ်ခြံမြေအကျိုးဆောင်တွေကြားက တူညီရာအချိုင်အဆက်တွေကို ဖေါ်ထုတ်ခဲ့သလို၊ ဆူမိုနပမ်းသမားတွေနဲ့ အုံညြစရာအချိတ်အဆက်တွေကို ဖေါ်ထုတ်ခဲ့သလို၊ ဆရာတွေရဲ့မသမာတဲ့အမူအကျင့်တွေကိုလည်း ဖေါ်ထုတ်ခဲ့တယ်။ ရှိကာဂိုတက္ကသိုလ်က ဆရာတွေရဲ့မသမာတဲ့အမူအကျင့်တွေကိုလည်း ဖေါ်ထုတ်ခဲ့တယ်။ အဓိကပြောလိုတဲ့အချက်က ဈေးကွက်နဲ့ဆက်နွယ်ပတ်သက်မှုမရှိတဲ့၊ အထူးခြားဆုံးအခြေအနေတွေမှာ တောင်မှ စီးပွားရေးပညာရပ်ဆိုင်ရာ အခြေခံဥပဒေသတွေကို အသုံးချနိုင်တယ်ဆိုတာပါပဲ။ ရောင်းလိုအား၊ ဝယ်လိုအား ကိုယ်ပျောက်လက်သီအိုရီ၊ လူသားမက်လုံးစတဲ့ စီးပွားရေးပညာဆိုင်ရာ ဘယ်ဥပဒေသကိုမဆို အသုံးချလို့ရပါတယ်။ တကယ်တော့ စီးပွားရေးပညာဆိုတာက လူသားတွေရဲ့ ဆုံးဖြတ်ချက်ချမှတ်ခြင်းအပေါ် လေ့လာတဲ့ပညာရပ်ပါ။ ဆုံးဖြတ်ချက်ချမှတ်မှုရဲ့နောက်ခံအခြေအနေအခင်းအကျင်းက ငွေကြေးကို အလေးပေးထားတဲ့ အခင်းအကျင်းမျိုးဖြစ်မနေဖြစ်နေဖို့မလိုပါဘူး။

Levitt နဲ့ Dubner တို့ရဲ့ စာအုပ်ဟာ အလွန်အောင်မြင်ခဲ့ပြီး မကြာသေးမီနှစ်တွေမှာ ဒီစာအုပ်ကို အတုခိုးရေးသူတွေတောင် မနည်းမနော ပေါ်လာခဲ့တယ်။ ဒါပေမဲ့လို့ ဒီစာအုပ်က စီးပွားရေးပညာရပ်ဆိုင်ရာ ဥပဒေသတွေကို သာမန်နေ့စဉ်လူနေမှုဘဝတွေမှာ အသုံးချလို့ ရကြောင်း ပထမဆုံးတင်ပြခဲ့တဲ့စာအုပ်တစ်အုပ်တော့ မဟုတ်ပါဘူး။ ဒီနည်းလမ်းတွေကို ပထမဆုံးဖေါ်ထုတ်တင်ပြခဲ့တဲ့ ရှေ့ဆောင်လမ်းပြပုဂ္ဂိုလ်က ဂရေးဘိတ်ကာ (Gray Becker) ပါ။ သူက ချီကာဂိုတက္ကသိုလ်က စီးပွားရေးပညာရှင်တစ်ယောက်ဖြစ်ပြီး ၁၉၉၂ ခုနှစ်မှာ စီးပွားရေးပညာ နိုဗယ်ဆုရခဲ့သူတစ်ယောက် ဖြစ်တယ်။ ရာဇဝတ်သားတွေ၊ လူမျိုးရေးဝါဒီတွေ၊ မိသားစုဘဝတွေကနေ မူးယစ်ဆေးစွဲနေသူတွေ အဆုံး လုံတိုင်းကို ဆင်ခြင်တုံတရားရှိတဲ့ ဆုံးဖြတ်ချက်တွေ၊ မက်လုံးတွေဝတဲ့ မောင်းနှင်အားတွေက တစ်နည်းနည်းနဲ့ လွှမ်းမိုးထားကြောင်း သူက ဖေါ်ထုတ်ပြသခဲ့တယ်။

## လွှတ်မြောက်သွားခြင်း

ဘိတ်ကာရဲ့သီအိုရီတွေ၊ ငြင်းခုံမှုတွေရဲ့ အဓိကအချက်က ဘယ်အရာပဲဖြစ်ဖြစ် အမြဲတမ်းလိုလို အဲ့ဒီအရာနဲ့ဆက်စပ်နေတဲ့ နှစ်နာဆုံးရှုံးမှုတစ်ခု တော့ရှိနေတယ်ဆိုတဲ့ အိုင်ဒီယာပဲဖြစ်တယ်။ ငွေကြေးနဲ့ မဆိုင်တဲ့ လူမှုရေး၊ ဒါမှမဟုတ်

> ❝ စီးပွားရေးပညာဟာ အကြောင်းအရာခေါင်းစဉ်နဲ့ တခြားစီဖြစ်နေတဲ့ လက်နက်ကိရိယာတွေကို အဓိကအားဖြင့် ဖွဲ့စည်းထားတာကြောင့် တမူထူးခြားပြီးဘယ်အကြောင်းအရာကိုမှ လိုက်လို့မပီရာမရှိပါဘူး။ ❞
>
> **Steven Levitt**



စိတ်ခံစားမှုဆိုင်ရာ နစ်နာဆုံးရှုံးမှုတွေလည်း ဖြစ်နိုင်ပါတယ်။ ဥပမာ - လူနည်းစုတွေကို ခွဲခြားဆက်ဆံသူတွေဟာ လူနည်းစုတွေနဲ့ အပြန်အလှန်အကျိုးပြုမှုတွေမှာ ပါဝင်ပတ်သက်မှုတွေရှိတဲ့အခါ စိတ်ပိုင်းဆိုင်ရာအရ နစ်နာဆုံးရှုံးရတဲ့ ခံစားမှုတွေ မကြာခဏတိုးလာလေ့ရှိတတ်ပါတယ်။

ဂရေးဘိတ်ကာဟာ တရားမဝင်နေရာတစ်ခုမှာ ကားပါကင်ထိုးလိုက်မလား၊ သူ့ရဲ့အချိန်တွေ၊ အားထုတ်မှုတွေကို ဆုံးရှုံးနစ်နာစံပြီး တရားဝင်ခွင့်ပြုထားတဲ့ ကားပါကင်ဆီကို ကားမောင်းသွားမလား ဆိုတာ ဆုံးဖြတ်ချင်းနဲ့တစ်စုံတစ်ရာကို ရှာဖွေတွေ့ရှိသွားခဲ့တယ်။ အဖမ်းခံရမှု၊ ဒဏ်ရိုက်ခံရမှုဆိုတဲ့ ဘေးအန္တရာယ်က တရားဝင်ကားရပ်ရမယ့်နေရာအထိ ကားမောင်းသွားပြီး လမ်းပြန်လျှောက်လာရဖို့ အားထုတ်ရမယ့် နစ်နာမှုထက် ပိုပြီးတော့ အလေးမသာပါဘူးလို့ ဆင်ခြင်ဆုံးဖြတ်ခဲ့တယ်။ ဒီတော့ သူဟာ တရားမဝင်ကားရပ်တဲ့နေရာကို ရွေးလိုက်ပါတယ်။ ရာဇဝတ်သားတွေအဖို့ ဥပဒေကို ချိုးဖေါက်မလား၊ မချိုးဖေါက်ဘူးလားဆိုတာကို ဆုံးဖြတ်ရာမှာလည်း အလားတူဆင်ခြင်မှုမျိုးတွေ လုပ်ဆောင်ကြတယ်လို့ သူက သုံးသပ်ခဲ့တယ်။

ဒီသုံးသပ်ချက်က နိုင်ငံရေးသမားတွေအနေနဲ့ တရားစီရင်ရေးစနစ်တွေကို ဘယ်လိုစီမံဆောင်ရွက်မလဲဆိုတဲ့အပေါ် အရေးကြီးတဲ့ဂယက်ရိုက်ခတ်မှုတွေဖြစ်ပေါ်လာစေတယ်။ ဒီသုံးသပ်ချက်က ဒဏ်ကြေးတွေ၊ ပြစ်ဒဏ်တွေကို ပိုပြီးပြင်းထန်စေသင့်တယ်ဆိုတဲ့ အိုင်ဒီယာကို ထောက်ခံထားတာကြောင့်ဖြစ်ပါတယ်။ ပြစ်ဒဏ်တွေပိုပြီး ကြမ်းတမ်းလေ၊ အဖမ်းခံရခြင်းရဲ့ နစ်နာဆုံးရှုံးရမှုက ပိုပြီးကြီးမားလာလေ၊ ပိုပြီးအဟန့်အတားဖြစ်လေပါပဲ။ ဒီထိုးထွင်းသိမြင်မှုကပဲ ဘိတ်ကာကို နိုဗယ်ဆုရရှိစေဖို့အထောက်အကူဖြစ်စေခဲ့တာပါ။

နောက်နှစ်အနည်းငယ်အကြာမှာတော့ Levitt က သီအိုရီကိုသက်သေပြခဲ့တယ်။ သူက အမေရိကန်ပြည်ထောင်စုရဲ့ ပြည်နယ်တွေ အချင်းချင်းကြားက လူငယ်တွေ ရာဇဝတ်မှုဖြစ်ပွားတဲ့ နှုန်းတွေကို နှိုင်းယှဉ်လေ့လာခဲ့ပြီး အဲ့ဒီနှုန်းနဲ့ လူကြီးတွေ ရာဇဝတ်မှုဖြစ်ပွားတဲ့နှုန်းကိုလည်း ထပ်ပြီးနှိုင်းယှဉ်လေ့လာခဲ့တယ်။ ဒီလူငယ်ရာဇဝတ်သားတွေဟာ လူကြီးတွေကို ချမှတ်တဲ့ ပိုပြီး ပြင်းထန်တဲ့စီရင်ချက်တွေကို ရင်ဆိုင်ရမယ့်အရွယ်ကိုရောက်လာတဲ့အခါ သူတို့ရဲ့ရာဇဝတ်မှု ကျူးလွန်တဲ့ လုပ်ဆောင်ချက်တွေ လျော့ကျလာတတ်တာကို သူတွေ့ရှိခဲ့တယ်။

တကယ်တော့ The Undercover Economist စာအုပ်ရေးသူ တင်မ်ဟားဖို့ဒ်ကို

> " ရာဇဝတ်ကောင်ဖြစ်လာမယ့်သူတွေရဲ့ ဆင်ခြင်တုံတရားနဲ့ စိတ်ပါမှုတွေဟာ မှုခင်းအရေအတွက်ကို တိုးစေ၊ကျစေတာ မဟုတ်ပါဘူး။ ရဲတပ်ဖွဲ့အတွက်အသုံးစရိတ်တွေ၊ ပြစ်မှုအမျိုးအစားအလိုက် ပြစ်ဒဏ်ပေးမှုတွေ၊ အလုပ်အကိုင်အခွင့်အလမ်းတွေနဲ့ ပညာရေးအစီအစဉ်တွေစတဲ့ ပြည်သူ့ရေးရာမူဝါဒတွေက ဖန်တီးထားတဲ့ စီးပွားရေးနဲ့ လူမှုရေးဆိုင်ရာဝတ်ဝန်းကျင်အခင်းအကျင်းတွေကလည်း ရာဇဝတ်မှုခင်းဖြစ်ပွားမှုတွေကို တိုးစေ၊ကျစေပါတယ်။ "

ဂရေးဘက်ကာ

ဘက်ကာက စားသောက်ဆိုင်ကို ကားမောင်းခေါ်သွားတဲ့အခါ ကားရပ်နားကွင်းမှာ ပါကင်ထိုးဖို့ မိနစ် ၃၀ တန် သတ်မှတ်ချိန်ကို ကျော်လွန်သွားခဲ့တာကို တင်မိပြားဖို့တစ်ယောက် ကိုယ်တွေ့မြင်ခဲ့ရတယ်။ ကားရပ်နားကွင်းတွေကို လုံးဝစစ်ဆေးထိန်းချုပ်မှုမရှိသလောက် ဖြစ်နေတာကြောင့် အဆင်ပြေမယ့်နေရာမှာရပ်လိုက်ပြီး အဖမ်းခံရမယ့်အန္တရာယ်နဲ့ စွန့်စားရမှုက ထိုက်တန်တယ်လို့ ဘက်ကာက သုံးသပ်ခဲ့တယ်၊ အမြဲတမ်း ဒီလိုလုပ်ခဲ့တယ်လို့ သူကဆိုတယ်၊ အခါအားလျော်စွာ ဒဏ်ရိုက်ခံခဲ့ရပေမယ့် ဒါက သူ့ကို နောက်ထပ်ဒီလိုထပ်မလုပ်ဖို့ ဘယ်တော့မှ အတန်အသားမဖြစ်ခဲ့ဘူးလို့ဆိုတယ်။ သူဟာ ဆင်ခြင်တုံတရားရှိရှိနဲ့ လုပ်ဆောင်နေတာပဲဖြစ်တယ်။

## လူမှုရေးဆိုင်ရာကျင့်သုံးမှုများ

တကယ်တော့ စီးပွားရေးပညာက ရာဇဝတ်မှုခင်းဆိုင်ရာအခြေအနေတွေမှာပဲ ကျင့်သုံးဖို့သက်သက် မဟုတ်ပါဘူး။ လူအများနဲ့တွေ့ဆုံမိတ်ဖက်ရှာပွဲတွေမှာ သူတို့ရှာဖွေနေတဲ့ပိတ်ဖက်ရဲ့အရည်အချင်း အတွက် မျှော်လင့်ချက် ဘက်လျှော့ကျလျှော့ဖြစ်ရသူတွေဟာ သူတို့ရဲ့အကြွင်းမဲ့လိုအပ်ချက်တွေကြောင့် သက်သက်မဟုတ်ဘဲ၊ သူတို့ကြုံတွေ့ရသူတွေရဲ့ အရည်အချင်းနဲ့လည်း ဆိုင်တယ်ဆိုတာ ဟားဖို့ဒ်က သက်သေပြခဲ့တယ်။ အောင်အောင်မြင်မြင်ရှာဖွေရွေးချယ်နိုင်တဲ့သူ အရေအတွက်က သိပ်ပြီးပြောင်းလဲလေ့မရှိဘူး။ တွေ့ဆုံပွဲမှာ ပါဝင်သူဟာ ထိထိမိမိ ဆွဲဆောင်နိုင်သလား။ မဆွဲဆောင်နိုင်ဘူးလား ဆိုတာ ထည့်စဉ်းစားစရာမလိုပါဘူး။ အခြေခံအားဖြင့်တော့ ဒါဟာ နှိုင်းရအားသာမှုနဲ့ပတ်သက်တဲ့ သင်ခန်းစာတစ်ခုဖြစ်ပြီး အပြုအမူဆိုင်ရာဘောဂဗေဒအမြင်တစ်ရပ်ပဲ (အခန်း ၄၆ ကိုကြည့်ပါ)။

ကလေးတွေကို ပြုစုပျိုးထောင်တဲ့နည်းလမ်းထက် မိဘတွေရဲ့စီးပွားရေးနဲ့မျိုးရိုးဗီဇနောက်ခံက



ကလေးတွေကို ပိုပြီး သတ်မှတ်ပြဌာန်းပေးတယ်ဆိုတာ သက်သေပြဖို့ Levitt ဟာ စီးပွားရေး သီအိုရီတွေကို အသုံးပြုတယ်။ ၁၉၇၀ နှစ်တွေမှာ ကိုယ်ဝန်ဖျက်ချမှုဆိုင်ရာဥပဒေပြဌာန်းခြင်းက မျိုးပွားမှုကို မထိန်းချုပ်နိုင်တော့တဲ့ ဆင်းရဲနွမ်းပါးတဲ့ဒေသက မိသားစုတွေကို အကျိုးသက်ရောက် စေခဲ့တယ်။ ဒါဟာ ၁၉၉၀ နှစ်တွေမှာ အမေရိကန်ပြည်ထောင်စုရဲ့မှုခင်းဖြစ်ပွားမှုနှုန်းကို လျော့ကျသွားစေတဲ့အကြောင်းရင်းပဲလို့ သူက လူသိရှင်ကြားထောက်ခံပြောဆိုခဲ့တယ်။

"မက်ခရိုဘောဂဗေဒက တကယ်တော့ လူသားတွေရဲ့အပြုအမူတွေအကြောင်းမဟုတ်ပါဘူး" လို့ ဆိုပြီး Levitt က

> "စီးပွားရေးပညာဟာ ကမ္ဘာကြီးကို ကြည့်မြင်ဖို့ ကိရိယာအစုံပါတဲ့ ဘာသာရပ်တစ်ခုပဲ၊ ဒါပေမဲ့ ဒီပညာရပ်က မူဝါဒ၊ ကိုယ်ကျင့်သိက္ခာနဲ့ စိတ်ပိုင်းဆိုင်ရာခံစားမှု အကြောင်းခံတွေလိုအရာမျိုးတွေနဲ့ ပတ်သက်ပြီး စိုးရိမ်ပူပန်မှုမရှိတာကြောင့် အစွဲပြယ်မရှိတဲ့ ကိုးရိုးကားရားခေါ်လာစီတွေကို ချမှတ်ပေးဖို့လည်း လမ်းပြပေးတယ်။
>
> စီးပွားရေးပညာရပ်အရ ကားမရပ်ရမယ့်နေရာမှာ ကားရပ်နားခြင်းအတွက် မှန်ကန်တဲ့ ပြစ်ဒဏ်ပေးမှုက အလွန်နည်းပါးတဲ့ကြိမ်နှုန်းနဲ့ နှိပ်စက်ညှဉ်းပန်းဖို့ ဖြစ်ပါလိမ့်မယ်၊ ဒါက လုံးဝလက်တွေ့ကျတယ်လို့ ကျွန်တော်တော့ထင်တယ်လို့ဆိုတယ်၊"

နေ့စဉ်လူ့နေမှုဘဝမှာ စီးပွားရေးသီအိုရီတွေကို ကျင့်သုံးနိုင်စွမ်းက အကန့်အသတ်ရှိတယ်။ ကမ္ဘာကြီးကိုကြည့်မြင်ဖို့ စီးပွားရေးပညာရပ်က ပြည့်စုံတဲ့မှန်ဘောင်တစ်ရပ်တော့ မဟုတ်ဘူးဆိုတာဟာ ပေါ်လစီချမှတ်သူတွေအတွက် ရှင်းလင်းတဲ့သင်ခန်းစာတစ်ရပ်လည်းဖြစ်တယ်။ ဒါပေမဲ့ လူတွေကို ဘယ်လိုနည်းနဲ့ လွှမ်းမိုးမလဲဆိုတာနဲ့ သူတို့ရဲ့အပြုအမူတွေကို ဘယ်လိုကြိုတင်ဟောကိန်းထုတ်မလဲ ဆိုတာ ဆုံးဖြတ်ဖို့အတွက် စီးပွားရေးပညာမှာ အကောင်းဆုံးနည်းလမ်းတွေ အဆင့်သင့်ရှိနေပါတယ်၊ ဒါက ဘဏ္ဍာရေးဆိုင်ရာအမှုအခင်းတွေ၊ အတိုက်အခံကြုံရမှုတွေအတွက် လုပ်ဆောင်ပေးသလို၊ လူမှုရေးချို့ယွင်းအားနည်းချက်တွေမှာလည်း အတူတူပါပဲ။ ဒါဟာ အဒမ်စမစ် လိုက်လိုက်လှဲလှဲသဘောကျထောက်ခံမယ့် ကောက်ချက်ချမှုပါပဲ။

**အနှစ်ချုပ်အတွေးအခေါ်**

**စီးပွားရေးပညာက အရာရာကို အကျိုးသက်ရောက်စေနိုင်တယ်**

# ၄၉ – ပျော်ရွှင်မှုဆိုင်ရာဘောဂဗေဒ

## Happynomics

**၁၉၇၀ နှစ်တွေမှာ ဟိမဝန္တာတောင်တန်းပေါ်က ဘူတန်ဘုရင့်နိုင်ငံလေးမှာ နိုင်ငံ့စီးပွားရေးဟာ အရေးပါတဲ့ဒိစစ်မှုတွေအောက်ကို ရောက်လာခဲ့တယ်။ ဂျီဒီပီ၊ အမျိုးသားဝင်ငွေ၊ အလုပ်အကိုင်ရရှိမှုစတဲ့ တိုင်းတာမှုအများစုအရတော့ စီးပွားရေးဟာ နေးကွေးနေခဲ့တယ်လို့ ဆိုတယ်။ ဒါကြောင့် ဘူတန်ဘုရင်ဟာ တမူထူးခြားတဲ့အရာကို လုပ်ဆောင်ခဲ့တယ်။ ဘူတန်နိုင်ငံရဲ့ တိုးတက်မှုအခြေအနေကို အစဉ်အလာစီးပွားရေးစံပေတံတွေနဲ့ မတိုင်းတာတော့ဘဲ၊ စုစုပေါင်းအမျိုးသားပျော်ရွှင်မှု (Gross National Happiness) ဆိုတဲ့ ပေတံနဲ့တိုင်းတာမယ်လို့ သူက ကြေညာခဲ့တယ်။**

ဒါဟာ ပြင်ပကဝေဖန်မှုတွေကို သမားရိုးကျမဟုတ်တဲ့တုံ့ပြန်မှုတစ်ခုလို့ ထင်စရာပါပဲ၊ ဒါပေမဲ့ ဘူတန်ဘုရင်အနေနဲ့ အိုင်ဒီယာတစ်ခုကို မိတ်ဆက်ပေးခဲ့တာဖြစ်တယ်။ ဒီအိုင်ဒီယာဟာ ကာလနဲ့တိုးတိုးပြီး ဂုဏ်သိက္ခာရှိလာခဲ့သလို ပျော်ရွှင်မှု ဘောဂဗေဒလို့ ဆိုရမယ့် အရေးပါတဲ့လေ့လာမှုတစ်ခုဖြစ်လာခဲ့တယ်၊ ဒါက အားလုံးနဲ့ဆက်နွယ်နေနိုင်တဲ့ ဘာသာရပ်တစ်ခုလည်းဖြစ်ပါတယ်။ တိုင်းပြည်တွေအနေနဲ့ရော၊ လူတစ်ဦးချင်းစီအနေနဲ့ပါ ကျွန်တော်တို့အားလုံးနီးပါးဟာ အရင်ကထက် ပိုပြီးချမ်းသာလာသလို၊ ပိုပြီးလည်း ကျန်းမာလာကြတယ်။ ဒါပေမဲ့ ဒီဥစ္စာဓနတွေရဲ့နောက်မှာ စိတ်မကျေမနပ်မှု၊ စိတ်ဓာတ်ကျဆင်းမှုတွေက အတူတွဲလျက်လိုက်ပါနေခဲ့တယ်၊ ချမ်းသာတဲ့ နိုင်ငံကလူတွေဟာ လွန်ခဲ့တဲ့နှစ် ၅၀ ကျော်ကဝပြီး တစ်စတစ်စနဲ့ ပျော်ရွှင်မှုတွေလျော့ကျလာနေခဲ့တယ်။

**အချိန်ဖြဂဏ:**

| ၁၇၇၆ | ၁၇၈၀ | ၁၉၇၂ | ၂၀၀၆ |
|---|---|---|---|
| အမေရိကန်လွတ်လပ်ရေးကြေညာစာတမ်းက "ဘဝ၊ လွတ်လပ်မှုနဲ့ပျော်ရွှင်မှုရှာဖွေခြင်း" ဆိုင်ရာအခွင့်အရေးကို ထဲ့သွင်းတင်းဖော်ထုတ် | ဂျရမီးဘင်သမ်က "အကြီးကျယ်ဆုံးပျော်ရွှင်မှုနိယာမ" ကိုဖော်ထုတ် | ဘူတန်နိုင်ငံမှာ စုစုပေါင်းအမျိုးသားပျော်ရွှင်မှုညွှန်းကိန်းကို စတင်အသုံးပြု | ထိုင်းနိုင်ငံမှာ စစ်တပ်က အာဏာသိမ်းပြီးနောက် ဝန်ကြီးချုပ်သစ် ဆုရာယုဒ်ချူလာနွန်က အလားတူညွှန်းကိန်းတစ်ခုကို စတင်တည်ထောင် |



### ပျော်ရွှင်မှုကိုရှာဖွေခြင်း

အစဉ်အလာဘောဂဗေဒက ပျော်ရွှင်မှုနဲ့ပတ်သက်လို့ စိတ်ကျေနပ်လောက်အောင် ရှင်းမပြခဲ့ဘူး။ အဒမ်စမစ်ခေတ်က ဥစ္စာဓနကို နိုင်ငံတိုးတက်မှုနဲ့ပတ်သက်တဲ့ အဓိကတိုင်းတာမှုပုံစံတစ်ခုအဖြစ် ယူဆခဲ့တယ်။ ငွေကြေးဟာတိုင်းတာရလွယ်ကူတာကြောင့်လည်း စီးပွားရေးပညာရှင်တွေဟာ ဂျီဒီပီ၊ အလုပ်လက်မဲ့နှုန်းစတဲ့အတိုင်းအတာတွေအပေါ်မှာ အာရုံစိုက်ခဲ့ကြတယ်။ ပျမ်းမျှသက်တမ်းနဲ့ မညီမျှမှုလို တခြားသောလူမှုရေးဆိုင်ရာတိုင်းတာမှုတွေလည်း မနည်းမနောရှိခဲ့ပါတယ်။ လူသပိုင်းခေတ်ဦးကာလကတည်းကစပြီး မကြာသေးမီအချိန်အထိ ဒဿနိကပညာရှင်တွေအနေနဲ့ ပျော်ရွှင်မှုဟာ ဘယ်လောက်အရေးအသွားရှိရမယ်လို့ သတ်မှတ်မပေးခဲ့တာဟာ အတော်လေးအံ့ဩစရာပါပဲ။

နိုင်ငံရဲ့တိုးတက်မှုကို ပျော်ရွှင်မှုနဲ့တိုင်းတာသင့်တယ်ဆိုတဲ့ အိုင်ဒီယာက တကယ်တော့ ဘူတန်နိုင်ငံမှာ လွန်ခဲ့တဲ့နှစ် နှစ်ဆယ်ကျော်လောက်ကတောင် မစတင်ခဲ့သေးပါဘူး။ ၁၇၇၆ ခုနှစ်မှာ တောမတ်စ် ဂျက်ဖာဆင်က အမေရိကန်နိုင်ငံသားတွေကို အသက်ရှင်သန်ခွင့်နဲ့ လွတ်လပ်ခွင့်တင်မကဘူး၊ ပျော်ရွှင်မှုရှာဖွေခြင်းကိုလည်း ခံစားခွင့်ပြုသင့်တယ်လို့ ဆိုခဲ့တယ်။ အများစုပျော်ရွှင်ရေးဝါဒ (utilitarianism)ကို တောင်ဖော်ထုတ်ခဲ့တဲ့ ၁၉ ရာစုဒဿနိကပညာရှင် ဂျရမီးဘင်သမ်က "လူသားတွေဟာ အရေအတွက်အများဆုံးရဲ့အကြီးမားဆုံးသောပျော်ရွှင်မှု" အတွက် ကြိုးပမ်းသင့်တယ်လို့ဆိုခဲ့တယ်။

ပျော်ရွှင်မှုရှာဖွေခြင်းကို ဘူတန်မှာတော့ ဘီကျတဲ့ရလဒ်ထုတ်ပေးမယ့် သဘောရှိပါတယ်။ စုစုပေါင်းအမျိုးသားပျော်ရွှင်မှု အညွှန်းကိန်းကို စတင်ကောက်ယူကတည်းက သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးသတ်မှတ်ချက်တွေအရတောင်မှ နိုင်ငံဟာ အံ့ဩစရာနှုန်းနဲ့ တိုးတက်လာခဲ့တယ်။ ၂၀၀၇ ခုနှစ်မှာ ဘူတန်ဟာ ကမ္ဘာပေါ်မှာ ဒုတိယအတိုးတက်မှုအလျင်မြန်ဆုံးနိုင်ငံဖြစ်လာခဲ့တယ်။ ဒါဟာ သူ့ရဲ့စုစုပေါင်းအမျိုးသားပျော်ရွှင်မှုအညွှန်းကိန်းကို တိုးတက်အောင်ပံ့ပိုးနိုင်ခဲ့ရင်းဖြစ်လာခဲ့တာပါ။ လူတွေရဲ့စိတ်ကျေနပ်ပျော်ရွှင်မှုကို ရရှိတည်တံ့နေစေအောင်အားထုတ်ကြိုးပမ်းရာမှာ

## လိုအပ်မှုအဆင့်ဆင့်

လူသားတစ်ယောက်မှာ အခြေခံလိုအပ်ချက်တချို့ရှိပါတယ်။ ကျွန်တော်တို့ ပျော်ရွှင်ဖို့အတွက် ဒီလိုအပ်ချက်အားလုံးကို ဖြည့်ဆည်းပေးသင့်ပါတယ်။ ဒီလိုအပ်ချက်တွေက (လူတစ်ယောက်ရဲ့ ရုပ်ခန္ဓာသင့်တင့်လျှောက်ပတ်စွာ လည်ပတ်ဖို့) ဇီဝကမ္မနဲ့လုံခြုံဘေးကင်းမှု လိုအပ်ချက်တွေ (အိုးအိမ်၊ အလုပ်အကိုင်၊ ကျန်းမာရေး) ကနေ ချစ်ခြင်းမေတ္တာ၊ ဂုဏ်သရေလေးစားခံရမှုနဲ့ ကိုယ်ကျင့်သိက္ခာလိုအပ်ချက်တွေအထိ ကျယ်ပြန့်ပါတယ်။ ၁၉၄၃ ခုနှစ်မှာ စိတ်ပညာရှင် အေဘရာဟန်မက်စ်လိုး တီထွင်ခဲ့တဲ့ ဒီလိုအပ်ချက်အဆင့်ဆင့်ဟာ လူသားရဲ့စိတ်ကျေနပ်ပျော်ရွှင်မှုကို ဖြည့်ဆည်းပေးမယ့်အရာတွေကို အခြေခံထားတယ်။ အခြေခံအကျဆုံး လိုအပ်ချက်တွေဖြစ်တဲ့ ဇီဝကမ္မနဲ့ဘေးကင်းလုံခြုံမှုတွေကို ဖြည့်စုံသွားစေတဲ့အခါ တစ်ခါတစ်ရံမှာ လူတစ်ယောက်ရဲ့ပျော်ရွှင်မှုလျော့ကျသွားနိုင်တယ်ဆိုတာကို ပျော်ရွှင်မှုဆိုင်ရာဘောဂဗေဒပညာရှင်တွေက တွေ့ရှိခဲ့တယ်။

နိုင်ငံရဲ့ ၆၀ % ကို သစ်တောဖုံးလွှမ်းဖို့ အမိန့်ထုတ်ပြန်ခဲ့တယ်။ ပျော်ရွှင်မှုကို သိသိသာသာလျော့ပါးစေတဲ့ ခရီးသွားလုပ်ငန်းကဏ္ဍကို နှစ်စဉ်ကန့်သတ်မှုတွေလုပ်တယ်။ ချမ်းသာသူတွေဆီကနေ ဆင်းရဲသူတွေဆီကို ငွေကြေးပြန်လည်ခွဲဝေဖြန့်ဖြူးမှုတွေ လုပ်ဆောင်စေတာကြောင့် ဆင်းရဲမှုထုထည်ကြီးကို ဖယ်ရှားရှင်းလင်းဖို့ အထောက်အကူဖြစ်စေတယ်။

### ပျော်ရွှင်မှုကိုတိုင်းတာခြင်း

ဘူတန်ကိုပိုပြီးပျော်ရွှင်အောင်လုပ်ဆောင်တဲ့ ဒီအားထုတ်မှုတွေဟာ ချမ်းသာမှုအသီးအပွင့်တွေ ခံစားရလာပုံပါပဲ။ ၂၀၀၅ ခုနှစ်မှာကောက်ခံခဲ့တဲ့စစ်တမ်းတွေအရ နိုင်ငံသား ၃% လောက်ကသာ ပျော်ရွှင်မှုမရှိဘူးလို့အစီရင်ခံခဲ့တယ်၊ လူဦးရေရဲ့တစ်ဝက်နီးပါးက သူတို့အလွန်ပျော်ရွှင်ခဲ့ရတယ်လို့ ဆိုကြတယ်။ ဒါပေမဲ့ ဒီစစ်တမ်းတွေက တစ်ခါတစ်ရံမှာ မရေမရာဖြစ်နိုင်သလို၊ လက်ခံနိုင်ဖွယ်လည်းမရှိဘူး။ လက်တွေ့အားဖြင့် နှိုင်းယှဉ်ဖို့လည်း ခက်ခဲပါတယ်၊



ပျော်ရွှင်မှုဆိုတာကိုက ဥစ္စာနေလို့၊ ပျမ်းမျှသက်တမ်းလို တိုင်းတာရတာမလွယ်ပါဘူး။ ဒါကြောင့်လည်း ဘောဂဗေဒပညာရပ်မှာ ပျော်ရွှင်မှုဆိုတာကို လျစ်လျူရှုထားခဲ့တာဖြစ်တယ်။ ဒါပေမဲ့ မကြာသေးပီက ဦးနှောက်တတ်မှန်ရိုက်ကူးမှုဆိုင်ရာ တိုးတက်လာမှုတွေက ဦးနှောက်နဲ့ နာဗ်ကြောဆိုင်ရာသိပ္ပံပညာရှင်တွေကို အကူအညီပေးခဲ့ပါတယ်၊ သူတို့အနေနဲ့ ပျော်ရွှင်မှုကြောင့် ဖဟိုနာဗ်ကြောအဖွဲ့အစည်းရဲ့ ဘယ်အပိုင်းတွေကို အများဆုံးနှိုးဆွပေးတယ်ဆိုတာ ခွဲခြားသတ်မှတ်နိုင်ခဲ့ကြတယ်။ ဒီရှာဖွေတွေ့ရှိမှုတွေက ပျော်ရွှင်မှုကို တိုင်းတာရာမှာ အများလက်ခံယုံကြည်နိုင်တဲ့သိပ္ပံနည်းကျအဆင့်တစ်ဆင့်ကို ထပ်ပေါင်းထည့်ပေးနိုင်ဖို့အထောက်အကူဖြစ်စေခဲ့တယ်။

မကြာသေးတဲ့ဆယ်စုနှစ်ကာလတွေမှာ စီးပွားရေးပညာရှင်တွေနဲ့ စိတ်ပညာရှင်တွေဟာ ပထမဆုံးအကြိမ်အဖြစ် လူတွေရဲ့ပျော်ရွှင်မှုကို ရေရှည်လေ့လာမှုတစ်ရပ်အဖြစ် အလေးအနက်ထားတိုင်းတာမှုတွေစတင်ခဲ့တယ်။ ဆင်းရဲနေရာကနေ ချမ်းသာသွားတာကြောင့် လူတစ်ယောက်ရဲ့ ပျော်ရွှင်မှုတိုးလာပေမယ့် လူ့မွဲမျဉ်းကနေ အဝေးဝေးကွာလာတဲ့အခါ လူတွေရဲ့ စိတ်ကျေနပ်ရောင့်ရဲမှုကတော့ စပြီးကျဆင်းလာတယ်လို့ သူတို့က ကောက်ချက်ချခဲ့ကြတယ်။ ပျော်ရွှင်မှုဘောဂဗေဒကို အထူးပြုလေ့လာခဲ့တဲ့ ဗြိတိသျှလူမျိုးဘောဂဗေဒပညာရှင် ရစ်ချတ်လေးရတ်ရဲ့အလိုအရ နိုင်ငံရဲ့ပျမ်းမျှလစာဟာ ဒေါ်လာ ၂၀၀၀၀ ကျော်သွားတဲ့အခါ ငွေမြင့်မားလာမှုက လူတွေရဲ့ ပိုပြီးပျော်ရွှင်လာမှုတွေကို ရပ်တန့်သွားစေပြီး ကျေနပ်ရောင့်ရဲမှုကိုတော့ လျော့ကျသွားစေတယ်လို့ ဆိုတယ်။ စီးပွားရေးပညာရပ်အသုံးအနှုန်းအရတော့ ဒီအမှတ်ကို လွန်သွားချိန်မှာ ပျော်ရွှင်မှုဆိုင်ရာ ကျဆင်းပြန်ပေါ်မှု (diminishing returns of happiness) ဖြစ်တယ်။

ဒီလေ့လာမှုရဲ့ ဦးစီးခေါင်းဆောင်ပုဂ္ဂိုလ်တွေထဲကတစ်ယောက်ဖြစ်တဲ့ ရစ်ချတ်အီစ်တာလင်းကတော့ ဟီဒိုနစ်စက်ဝန်း (hedonic cycle) (ပျော်ရွှင်ကြည်နူးမှုကို ရှေးခေတ်ဂရိဝေါဟာရပြတဲ့စကားလုံး) လို့ခေါ်တယ်။ ဝင်ငွေချမ်းသာလာတဲ့အခါ အဲဒါနဲ့ ဝင်ငွေအလျင်အမြန်ပဲ အသားကျလာတယ်၊ မကြာခင်မှာပဲ ဒါဟာ ဘဝအဆင့်အတန်းအပုနိုလို့ ဝင်ငွေယူဆလာတယ်၊ ဒါ့အပြင် လူတစ်ယောက်ရဲ့အခြေခံလိုအပ်ချက်တွေပြည့်စုံသွားတဲ့အခါ ကျွန်တော်တို့ဟာ ကိုယ်ပိုင်ဥစ္စာမနဲ့ အောင်မြင်မှု စတဲ့အရာတွေကို အခြေမခံဘဲ၊ တခြားသူတွေနဲ့ နှိုင်းယှဉ်ပြီး ကိုယ့်ရဲ့ ကိုယ်ပိုင်ကျေနပ်ပျော်ရွှင်မှုကို စတင်တိုင်းတာလာကြတယ်လို့ အပြုအမူဆိုင်ရာဘောဂဗေဒနယ်ပယ်က သုတေသနလေ့လာမှုတွေက ဖော်ပြထားခဲ့တယ် (အခန်း ၄၆ ကိုကြည့်ပါ)။ လူတစ်ယောက်ဟာ

"ရုပ်ဝါဒအချိုးသားပျော်ရွှင်မှုဆိုတဲ့သဘောတရားက
ဘူတန်ရဲ့ဖွံ့ဖြိုးရေးမူဝါဒချက်တွေကို ပျော်ရွှင်မှု ရှာဖွေခြင်းနဲ့ ချိတ်ဆက်ပေးတယ်။
ဒီသဘောတရားဟာ လူ့ဘဝရဲ့ရည်ရွယ်ချက်အပေါ်မှာ ဘူတန်နိုင်ငံရဲ့အမြော်အမြင်နဲ့ လူတစ်ဦးချင်း
စီကိုယ်ကိုယ်ပျိုးထောင်ရာမှာ အဓိကထားရမယ့်အမြင်ကို ရောင်ပြန်ဟပ်စေတယ်။"

**Dasho Meghraj Gurung**
**ဘူတန်ဝန်ကြီး**

ဘူမဟာညီအစ်ကိုရဲ့လတထက်ဘူလာဗာပိုများတာကို ဝမ်းသာတယ်ဆိုတဲ့ ရှေးဆိုရိုးစကားက စိတ်ပညာမှာ တိကျတဲ့အခြေခံသတ်မှတ်တစ်ရပ်ပဲဖြစ်တယ်။ ရှမ်းသာပြီးချောမောလှပတဲ့ ထင်ရှားသူတစ်ယောက်ရဲ့ လူ့နေမှုဘဝကို တင်ဆက်နေတဲ့ ၂၄ နာရီသတင်းနဲ့ အထင်ကရပုဂ္ဂိုလ်များအစီအစဉ်က လူတွေရဲ့ကျေနပ်ပျော်ရွှင်မှုကို ပိုပြီးလျော့ကျစေတယ်လို့ ဒီရှာဖွေတွေ့ရှိမှုက ညွှန်ပြတယ်။

## ငွေကြေးသည်သာ အရာရာမဟုတ်ဘူး

ယူတော၊ ဩဝတြေးလျ၊ တရုတ်နဲ့ ထိုင်းနိုင်ငံတွေကဝန်ကြီးတွေကို စုစုပေါင်းအမျိုးသားသုခချမ်းသာ ညွှန်းကိန်းဆိုင်ရာ နိုင်ငံတကာနှိုင်းယှဉ်တိုင်းတာမှုတစ်ရပ်ကို ဆုံးဖြတ်ပေးဖို့ စုံစမ်းလေ့လာမှုတစ်ရပ်နဲ့ ချိတ်ဆက်ပေးခဲ့တယ်။ တချို့စီးပွားရေးပညာရှင်တွေက ဒီရည်ရွယ်ချက်တွေကို ဖြတ်ရယ်ပြုခဲ့ကြပေမယ့် နိုင်ငံရဲ့တိုးတက်မှုအပေါ် လက်ရှိတိုင်းတာမှုတွေကလည်း အကောင်းဆုံးဖြစ်တယ်လို့ မယူဆနိုင်ပြန်ပါဘူး။ New Economics Foundation အဖွဲ့က Happy Planet Index ဆိုတဲ့ လွတ်လပ်တဲ့ ညွှန်းကိန်းတစ်ရပ်ကိုတီထွင်ခဲ့တယ်၊ ဒီအညွှန်းကိန်းက နိုင်ငံတစ်နိုင်ငံရဲ့ဘဝကျေနပ်မှု၊ ပျမ်းမျှသက်တမ်းနဲ့ တစ်ဦးချင်းဂေဟဗေဒဆိုင်ရာခြေရာလက်ရာတွေရဲ့ တိုင်းတာမှုတွေကို ပေါင်းစပ်ထားတယ်။ ဒီအညွှန်းကိန်းအရ ၂၀၀၆ ခုနှစ်မှာ အမှတ်အများဆုံးရတဲ့ နိုင်ငံဟာ ပစိဖိတ်သမုဒ္ဒရာထဲက Vanuatu ကျွန်းနိုင်ငံလေးဖြစ်ပါတယ်၊ သူ့နောက်မှာ ကိုလံဘီယာနဲ့ ကော်စတာရီကာနိုင်ငံတွေရှိပြီး ဘူရွန်ဒီ၊ ဆွာဇီလန်နဲ့ ဇင်ဘာဘွေတို့ကတော့ အဆိုးဆုံးနိုင်ငံတွေ ဖြစ်ပါတယ်။ အမေရိကန်နဲ့ ယူနိုက်တက်ကင်းဒမ်းအပါအဝင် ကမ္ဘာ့အချမ်းသာဆုံးနိုင်ငံအများစုကတော့



ဒီစာရင်းရဲ့တစ်ဝက်အောက်ကိုရောက်နေတာတွေ့ရတယ်။

ပျော်ရွှင်မှုဘောဂဗေဒက ဖွံ့ဖြိုးပြီးနိုင်ငံတွေက နိုင်ငံရေးသမားတွေရဲ့ပေါ်လစီဖန်တီးမှု နည်းလမ်းတွေအပေါ် ပိုပြီးလွှမ်းမိုးမှုမြင့်တက်လာနေတယ်။ ဥပမာ – မနာလိုမရှုဆိတ်မှုတွေကို နိုင်ငံတော်အဆင့်လျော့ကျစေချင်တာကြောင့် ဝင်ငွေမြင့်မားသူတွေကို အခွန်ပိုကောက်ခံတာက လူ့အဖွဲ့အစည်းတစ်ရပ်လုံးကို ပိုပြီးပျော်ရွှင်စေတယ်လို့ အကြံပြုထားတယ်။ နောက်အိုင်ဒီယာတစ်ခုက အရည်အချင်းပေါ်အခြေခံပြီးလစာတိုးပေးတာကိုလည်း ကျွမ်းကျင်တွေက ကန့်သတ်သင့်တယ်လို့ ဆိုတယ်။ လူ့အဖွဲ့အစည်းထဲက လူသားအားလုံးအတွက် အပြုအမူဆိုင်ရာကုထုံးနဲ့ပတ်သက်ပြီး စိတ်ပိုင်းဆိုင်ရာ ထိုးထွင်းသိမြင်မှုဆိုင်ရာအစီအစဉ်တွေကို ငွေကြေးထောက်ပံ့မှုအလုံးအရင်းပေးသင့်တယ်လို့ လောဒ့်လေးယက်ဒ်က အကြံပြုတယ်၊ ဒီအိုင်ဒီယာတွေဟာ အခြင်းပွားဖွယ်ရာဖြစ်ပေမယ့် ယူအက်စ်နဲ့ယူကေနိုင်ငံတွေမှာ နိုင်ငံရေးသမားတွေက မဲဆန္ဒရှင်အမျိုးမျိုးကို လှုံ့ဆော်ရာမှာ ကြိုးပမ်းတဲ့နည်းလမ်းတစ်ရပ်အဖြစ် လျှင်လျှင်မြန်မြန်ပဲ ဆွဲဆောင်မှုရလာနေတယ်။

ပျော်ရွှင်မှုဘောဂဗေဒရဲ့တိုးတက်မှုက လူမှုရေး၊ နိုင်ငံရေးကိစ္စရပ်များအပေါ်လူအများရဲ့ ညင်သာသိမ်မွေ့တဲ့ ထိုးဖြန့်မှုဖြစ်ပေါ်စေတာပါ၊ တချို့စိတ်ပညာရှင်တွေက မကျေနပ်မှုနဲ့ မနာလိုစိတ်က လူတွေကို ပိုပိုကောင်းမွန်တဲ့ အခြေအနေရောက်စေဖို့ အရေးကြီးတဲ့ တွန်းအားပဲလို့ ဆိုတယ်။ နိုင်ငံတစ်နိုင်ငံပျော်ရွှင်မှုနောက်လိုက်ခြင်းက ကိုယ်ကျင့်သိက္ခာပိုင်းအရ လုံးဝအားထားယုံကြည်ရမလားဆိုတဲ့မေးခွန်းတစ်ခုလည်း ရှိပါသေးတယ်၊ ၁၉၉၀ မှာ ဘူတန်ဟာ ဧည့်နိုင်ငံသားလူမျိုးခြားတစ်သိန်းလောက်ကို နိုင်ငံပြင်ပကို နှင်ထုတ်ခဲ့တယ်၊ ဒီလှုပ်ရှားမှုက အမျိုးသားပျော်ရွှင်မှုကို မြှင့်တင်ပေးနိုင်ခဲ့ပေမယ့် လူ့အခွင့်အရေးမှတ်တမ်းတွေမှာတော့ အမှတ်လျော့ခဲ့ပါတယ်။ ငွေဟာနေဟာ အရာရာမဟုတ်ဘူးဆိုတာရှင်းရှင်းလင်းလင်းမြင်နိုင်ပါတယ်။ ဒါပေမဲ့ ငွေမရှိရင်တော့ ပျော်ရွှင်မှုဆိုတာလည်း ရှိမှာမဟုတ်ပါဘူး။

**အနှစ်ချုပ်အတွေးအခေါ်**

**ဘဝဆိုတာ ငွေကြေးအကြောင်းတွေချည်းပဲ မဟုတ်ဘူး**

# ၄၀ – ၂၁ – ရာစု ဘောဂဗေဒ

## 21st-century economics

**ဘဏ္ဍာရေးအခင်းအကျင်းမှာ အဓိကအပြောင်းအလဲကြီးတွေကို ကြိုတင်မခန့်မှန်းနိုင်ခြင်းနဲ့ ရုတ်တရက်ဈေးကွက်ထိတ်လန့်မှုတွေကို ညွှန်ပြဖို့ပျက်ကွက်ခဲ့ခြင်းတွေအတွက် စီးပွားရေးပညာရှင်တွေကို ဖြတ်ရယ်ပြုခဲ့ကြတယ်။ ဒါပေမဲ့ တတိယထောင်စုနှစ်ရဲ့ အစောပိုင်းကာလတွေမှာ ဘာသာရပ်အခြေခံနဲ့ပတ်သက်လို့ ပိုပြီးအရင်းအမြစ်ကျတဲ့မေးခွန်းတွေ ပေါ်ထွက်လာခဲ့ပြန်တယ်။ ဒါတွေဟာ ခေါင်းထဲကထုတ်ပစ်ဖို့ ခက်ခဲလွန်းပါတယ်။**

ပထမအချက်က ပွန်မေးနေတဲ့ကိန်း ချမှတ်ခဲ့တဲ့အဓိကအယူဝါဒတွေနဲ့ ဖီလတန်ဖရိုင်းမင်းရဲ့အဓိကအယူဝါဒတွေကို မကြာခဏဆိုသလို ပျော့ရှင်ပေမကောင်းတဲ့ရလဒ်တွေနဲ့အတူ ၂၀ ရာစုမှာ ပျက်စီးပင်ဖို့ ကြိုးစားခဲ့ကြတယ်ဆိုတဲ့အချက်ပဲ။

ဒုတိယအချက်က ပိုပြီးအခြေခံကျတဲ့ ချိုယွင်းအားနည်းချက်ဖြစ်တယ်။ စီးပွားရေးဘာသာရပ်ရဲ့အစောပိုင်းကာလတွေမှာ စီးပွားရေးပညာရပ်ဟာ အနည်းနဲ့အများဆိုသလို လူတွေဟာ ဆင်ခြင်တုံတရားရှိရှိ ပြုမူဆောင်ရွက်ကြတယ်ဆိုတဲ့အယူအဆအပေါ်မှာ အားထားယုံကြည်ခဲ့တယ်၊ လူတွေဟာ သူတို့ကိုယ်ကျိုးစီးပွားအတွက် အမြဲတမ်းလုပ်ဆောင်ကြတယ်။ ဈေးကွက်ကို ပြည့်ပြည့်ဝဝလည်ပတ်စေရာမှာ ဒီလုပ်ဆောင်ချက်တွေက လူ့အဖွဲ့အစည်းကို ပိုပြီးကောင်းမွန်လာအောင် လုပ်ဆောင်ပေးလိမ့်မယ်လို့ ယူဆခဲ့တယ်(အခန်း ၁ ကိုကြည့်ပါ)၊

**အချိန်ပြဇယား:**

- **၁၇၇၆** – အဒမ်စမစ်ရေးတဲ့ The Wealth of Nations စာအုပ်ကို ထုတ်ဝေ
- **၁၉၃၀ နှစ်များ** – မဟာစီးပွားပျက်ကပ်ကြီးက ကိန်းပေါ်လစီတွေကို လမ်းဖွင့်ပေးခဲ့



ဒါပေမဲ့ လူတွေဟာ အမြင်ပန်းအားဖြင့် သူတို့ရဲ့ကိုယ်ကျိုးစီးပွားအတွက် မဟုတ်တဲ့ဆုံးဖြတ်ချက်တွေကို မကြာခဏဆိုသလို ချမှတ်နေတဲ့အပေါ်ဒီအယူအဆတွေက ရှင်းမပြခဲ့ဘူး၊ လူတွေဟာ သူတို့ရဲ့အကျိုးစီးပွားအတွက် သူတို့ကိုယ်သူတို့တော့ သေတွင်းကို ဆောစေပို့မှာ မဟုတ်ပါဘူး။ ဒါပေမဲ့အဆုပ်ကင်ဆာနဲ့အဝလွန်ရောဂါတွေအကြောင်း ကျယ်ကျယ်ပြန့်ပြန့်သိကြပေမယ့် လူတွေဟာ ဆေးလိပ်တွေ ဆက်သောက်နေကြသလို အဆီများတဲ့အစားအသောက်တွေလည်း စားသုံးနေကြတုန်းပါပဲ။ ရာသီဥတုပြောင်းလဲမှုနဲ့ လူတွေဖန်တီးတဲ့ညစ်ညမ်းမှုတွေနဲ့ ပတ်သက်ပြီးတော့လည်း အလားတူပြင်းခုံရမှုတွေ ရှိခဲ့ပါတယ်။

အပြုအမူဆိုင်ရာဘောဂဗေဒလို ဘာသာရပ်အသစ်တွေက လူတွေဟာ သူတို့အတွက် အကောင်းဆုံးဖြစ်စေမယ့်အရာတွေအပေါ် အခြေခံပြီးဆုံးဖြတ်ချက်ချတာ မဟုတ်ဘဲ၊ တခြားလူတွေဆီက ပုံတူပွားပြီးဖြစ်ဖြစ်၊ ကိုယ်တိုင်အတွေ့အကြုံအရနှားလည်ထားလို့ပဲ ဖြစ်ဖြစ် ရလာတဲ့တတ်မြောက်မှုတွေအပေါ်မှာ အခြေခံပြီး ဆုံးဖြတ်ကြတာဖြစ်ကြောင်းကို အကြိမ်ပေါင်းများစွာဖော်ထုတ်ခဲ့ကြတယ် (အခန်း ၄၆ ကိုကြည့်ပါ)၊

### ဈေးသမငျွေ

လူတွေဟာ အမြဲတမ်း ဆင်ခြင်တုံတရားရှိရှိမတုံ့ပြန်ကြဘူးဆိုတာ သဘောပေါက်လာတဲ့အခါ အနာဂတ်ကာလမှာ တရားဝင်အဖွဲ့အစည်းတွေအနေနဲ့ ပိုပြီးထိန်းချုပ်ကွပ်ကဲမှုတွေလုပ်လာကြလိမ့်မယ်၊ အပေါ်စာချုပ်ဈေးကွက်ကို ပိုပြီးတင်းတင်းကျပ်ကျပ်ချုပ်ကိုင်ဖို့ကြိုးစားအားထုတ်ခဲ့တဲ့ သက်သေသာကေတွေလည်းရှိခဲ့ပါတယ်၊ ဒီထိန်းချုပ်မှုတွေကြောင့် စားသုံးသူတွေဟာ ရေရှည်အကျိုးစီးပွားနဲ့ဆန့်ကျင်ပြီး ရွေးချယ်မှုတွေကို သိပ်ပြီးလွယ်လွယ်ကူကူ မလုပ်နိုင်ကြတော့ဘူး။

စီးပွားရေးပညာရပ်ဟာ ရလဒ်တွေကို အဆုံးအဖြတ်ပေးဖို့ ဈေးကွက်စွမ်းဆောင်ရည်အပေါ် အကန့်အသတ်မဲ့ ယုံကြည်မှုထားတဲ့ ဘာသာရပ်တစ်ခုအဖြစ်တနေ ဈေးကွက်က နှစ်သက်စရာ ရလဒ်တွေကို အမြဲတမ်းထွက်ပေါ်စေသလားဆိုတာကို မေးခွန်းထုတ်တဲ့ အနေအထားအထိ

- **၁၉၈၀ အစောပိုင်းနှစ်များ** – ငွေကြေးထိန်းချုပ်ရေးအယူအဆတွေကို ရော်နယ်ရေဂင်နဲ့ မာဂရက်သက်ချာ အကောင်အထည်ဖော်
- **၁၉၉၀ နှစ်များ** – အပြုအမူဆိုင်ရာဘောဂဗေဒ ပညာရပ် ခေတ်စားလာ
- **၂၀၀၀ နှစ်များ** – စီးပွားရေးပညာဆိုင်ရာ ပေါင်းစပ်မှုအသစ်များ ပေါ်ပေါက်ဖွံ့ဖြိုးလာ

### အိမ်အငေါ်စာချုပ်ဓာတ်ရှပ်

အစဉ်အလာဘောဂဗေဒက လူတွေဟာ သူတို့ရဲ့အကျိုးစီးပွားအတွက်
အကောင်းဆုံးထုတ်ကုန်တွေကို ရွေးချယ်မှုတွေရှိတဲ့ကြားက
ကျွမ်းကျွမ်းကျင်ကျင် ရွေးချယ်နိုင်တယ်လို့ ယူဆတယ်။
ကျွမ်းကျင်မှုအားနည်းချက်ရှိတယ်ဆိုတာကို ၂၀၀၀ နှစ်တွေရဲ့
ဒီအယူအဆမှာ အားနည်းချက်ရှိတယ်ဆိုတာ သက်သေပြခဲ့တယ်။
အစောပိုင်း အိမ်ရာဈေးကွက်တွေ စန်းပွင့်နေချိန်မှာ သက်သေပြခဲ့တယ်။
အတိုးနှုန်းတွေကျဆင်းလာပြီး နှစ်အနည်းငယ်အကြာမှာ
သိပ်မချမ်းသာသူတွေအနေနဲ့ သူတို့ရဲ့လစဉ်ပေးချေရမယ့်ငွေပမာဏဟာ
မတတ်နိုင်တဲ့အခြေအနေအထိ ရုတ်တရက်ထိုးတက်သွားမယ်ဆိုတာကို
မရိပ်စားမိဘဲ အိမ်တွေကို အပေါင်ထားခဲ့ကြတယ်။
လူတွေဟာ နောက်ဆုံးမှာ သူတို့အိမ်တွေကို ဆုံးရှုံးရစေမယ့်
ဆင်ခြင်တုံတရားကင်းမဲ့တဲ့ဆုံးဖြတ်ချက်တွေ ချမှတ်နေတဲ့အပေါ်
အစဉ်အလာဘောဂဗေဒပညာရှင်တွေက နားမလည်တာကြောင့်
နောက်ဆက်တွဲဖြစ်လာမယ့် ဈေးနှုန်းထိုးကျမှုပမာဏကို
သူတို့အနေနဲ့ ကြိုမမြင်ခဲ့ကြဘူး။

ဆင့်ကဲပြောင်းလဲလာနေတယ်။ ပို့ချမှုတစ်ခုထဲမှာ ကန့်သတ်ထားမယ့်အစား အမျိုးမျိုးသောပုံစံ၊ ဟန်ပန်တွေထဲက အကောင်းဆုံးကို ရွေးချယ်တဲ့ခေတ်မီ ဆန်းသစ်မှုတွေကို ပိုပြီးသဘောကျနှစ်သက်ရောပဲ။ ၂၁ ရာစု ဘောဂဗေဒဟာ တိန်းဘောဂဗေဒ၊ ငွေကြေးထိန်းချုပ်ရေးဝါဒ၊ ဆင်ခြင်တုံတရားရှိသော ဈေးကွက်သီအိုရီနဲ့ အပြုအမူဆိုင်ရာဘောဂဗေဒချဉ်းကပ်ပုံတွေကနေ ကျယ်ကျယ်ပြန့်ပြန့်ရွေးချယ်ပြီး ပေါင်းစပ်မှုအသစ်တစ်ခုအနေနဲ့ ပေါ်ထွက်လာပါလိမ့်မယ်။

အနှစ်ချုပ်အတွေးအခေါ်

**လူတွေမှာ ဆင်ခြင်တုံတရား ကင်းမဲ့သွားတဲ့အခါ ကြားဝင်စွက်ဖက်ပါ**

## Myanmar Harp Publishing House မှ

### ထုတ်ဝေပြီးစာအုပ်များ

| | | |
|---|---|---|
| ၁။ | သင်းရဲနွမ်းပါးမှုနှင့် ဝင်ငွေမညီမျှမှု | ကျော်ဇွာ |
| ၂။ | စီးပွားရေးအတွေးအခေါ် ၅၀ | ကျော်ဇွာ |
| ၃။ | သစ်ခုတ်သမားတစ်ခြင်းနှင့် နိုင်ငံရေးဆောင်းပါးများ | ကျော်ဇွာလင်း(မြန်မာစာ) |
| ၄။ | နိုင်ငံတကာဆက်ဆံရေးအဓိကအယူအဆများ | ဝေယံဘုန်း |
| ၅။ | နံ့ပါးပါးနှင့် အခြားဝတ္ထုတိုများ | မင်းသက်သက်နိုင် |
| ၆။ | ဒီမိုကရေစီနှင့် ဒီမိုကရေစီအသွင်ကူးပြောင်းခြင်း | သူရိန်မျိုးမြင့် |
| ၇။ | သုံးထောင်စံ | မောင်သံခဲ |
| ၈။ | ဒီမိုကရေစီပျောက်ရင် အာဏာရှင်အောက် ပြန်ရောက်မယ်နှင့် နေ့စဉ်နိုင်ငံရေးအတွေးများ | ဖိုးရာဇာ (မအူပင်) |
| ၉။ | ဖြစ်ရပ်မှန်စိတ်ကူးယဉ်ဝတ္ထုများ | ဝေယံဘုန်း |
| ၁၀။ | နိုင်ငံတော်၏ အချုပ်အခြာအာဏာကို ဘယ်သူပိုင်သလဲနှင့် ဖွဲ့စည်းပုံအခြေခံဥပဒေပြုပြင်ရေးဆောင်းပါးများ | ဖိုးရာဇာ (မအူပင်) |
| ၁၁။ | ၂၀၀၈ အခြေခံဥပဒေနှင့် ဟာကွက်၊ လစ်ကွက်များ | လင်းထိုက် |
| ၁၂။ | ချစ်သောသရာ ချစ်သောသချာ | ဝေယံဘုန်း |
| ၁၃။ | နိုင်ငံရေးဆိုင်ရာ အဓိကအယူအဆများ | သူရိန်မျိုးမြင့် |
| ၁၄။ | မြန်မာနိုင်ငံ သမိုင်းအစဉ်အလာအရ ဆောင်ရွက်ခဲ့သည့် ပညာရေးစနစ်များ | ဦးငွေတိုး (အခြေခံပညာ) |
| ၁၅။ | ရွေးကောက်ပွဲမှာ ဒီမိုကရေစီဘက်တော်သား သပွတာဖြစ်ဖို့လိုတယ် | ဖိုးရာဇာ (မအူပင်) |
| ၁၆။ | ပြတင်းအမှတ် ၇၅ (နိုင်ငံရေး၊ ဗီဒီယာ၊ လောဘီ) | ကိုမင်းဒို |

၁၇။ ပြတင်းအမှတ် ၇၅ — ကိုပင်းအို
(စီးပွားရေး၊ စီမံခန့်ခွဲမှုနှင့် အတွေးအမြင်) — နေဘုန်းလတ်
၁၈။ ကျွန်တော် လွတ်ကျခဲ့တဲ့ လွှတ်တော် — ကိုရွှေအောင်
၁၉။ မြန်မာ့အသံမှာ (၁၅) နှစ်တာ

ယခု

၂၀။ စီးပွားရေးအတွေးအခေါ် ၅၀ (တတိယအကြိမ်) — ကျော်စွာ

ဆက်လက်ထွက်ရှိမည့် စာအုပ်များ

၂၁။ သမိုင်းထဲက နိုင်ငံရေးအတွေးအမြင်များ — ဖြိုးဒိုင်လတ်
၂၂။ ရိုးဆိုင်ဒင်ဆီးဘဝ၊ လာရာနှင့် လားရာ — စည်သူကျော်
၂၃။ ငြိမ်းချမ်းရေးတည်ဆောက်ခြင်း — ခင်မမျိုး
၂၄။ လူ့အခွင့်အရေး အမေး၊ အဖြေ — ကျော်စွာ




# 50 ECONOMICS IDEAS YOU REALLY NEED TO KNOW

# စီးပွားရေး အတွေးအခေါ် ၅၀ ကျော်တွေ

- The invisible hand
- Supply and demand
- The Malthusian trap
- Opportunity cost
- Incentives
- Division of labour
- Comparative advantage
- Capitalism
- Keynesianism
- Monetarism
- Communism
- Individualism
- Supply-side economics
- The marginal revolution
- Money
- Micro and macro
- Gross domestic product
- Central banks and interest rates
- Inflation
- Debt and deflation
- Taxes
- Unemployment
- Currencies and exchange rates
- Balance of payments
- Trust and the law
- Energy and oil
- Bond markets
- Banks
- Stocks and shares
- Risky business
- Boom and bust
- Pensions and the welfare state
- Money markets
- Blowing bubbles
- Credit crunches
- Creative destruction
- Home-owning and house prices
- Government deficits
- Inequality
- Globalization
- Multilateralism
- Protectionism
- Technological revolutions
- Development economics
- Enviromental economics
- Behavioural economics
- Game Theory
- Criminomics
- Happynomics
- 21st century economics




# စီးပွားရေး အတွေးအခေါ် ၅၀

ECONOMICS IDEAS YOU REALLY NEED TO KNOW

ကျော်စွာ

The invisible hand
Supply and demand
The Malthusian trap
Opportunity cost
Incentives
Division of labour
Comparative advantage
Capitalism
Keynesianism
Monetarism
Communism
Individualism
Supply-side economics
The marginal revolution
Money
Micro and macro
Gross domestic product
Central banks and interest rates
Inflation
Debt and deflation
Taxes
Unemployment
Currencies and exchange rates
Balance of payments
Trust and the law
Energy and oil
Bond markets
Banks
Stocks and shares
Risky business
Boom and bust
Pensions and the welfare state
Money markets
Blowing bubbles
Credit crunches
Creative destruction
Home-owning and house prices
Government deficits
Inequality
Globalization
Multilateralism
Protectionism
Technological revolutions
Development economics
Enviromental economics
Behavioural economics
Game Theory
Criminomics
Happynomics
21[st] century economics

03922



# ECONOMICS IDEAS YOU REALLY NEED TO KNOW

EDMUND CONWAY

# စီးပွားရေး အတွေးအခေါ် ၅၀

ကျော်စွာ

တတိယအကြိမ်